


# ၇.၇.၆၂ မမေ့ကြနဲ့






ဆဲဗင်းဂျူလိုင် တိုက်ပွဲဝင်စိတ်ဓာတ်ကို
ဆက်လက်ကိုင်စွဲကြ စစ်သုံးစစ်ကို
အမြစ်ပြတ် တိုက်ဖျက်ကြ

၆၁ နှစ်ပြည့်ဆဲဗင်းဂျူလိုင်အထိမ်းအမှတ်အထူးထုတ်မဂ္ဂဇင်း

# မာတိကာ

# ဥဒါန်းမကြေ

ယခုထုတ်ဝေသည့် "ဆဲဗင်းဂျူလိုင် ၆၁ နှစ်ပြည့် အထိမ်းအမှတ် အထူးထုတ် မဂ္ဂဇင်း" သည် ကျွန်ုပ်တို့၏ စစ်အာဏာရှင်စနစ်ဆန့်ကျင်ရေး ကျောင်းသားလှုပ်ရှားမှုသမိုင်းတွင် အထင်ကရအဖြစ်ဆုံးဖြစ်သည့် ၁၉၆၂ ဆဲဗင်းဂျူလိုင်အရေးအခင်း အတွင်း ဂုဏ်ရောင်ပြောင်စွာ ကျဆုံးခဲ့သော အာဇာနည်ကျောင်းသားရဲဘော်များအား ဦးညွှတ်အလေးပြုခြင်းနှင့် ဖက်ဆစ်စနစ်၊ စစ်အာဏာရှင်စနစ်တို့၏ ရက်စက်ယုတ်မာမှုများအပေါ် ကျွန်ုပ်တို့အနေနှင့် ဘယ်သောအခါမှ မေ့လျော့မည် မဟုတ်ကြောင်း၊ ကမ္ဘာတည်သရွေ့ အမှတ်သည်းခြေထားရှိကြောင်းအား ပြသသည့် မဂ္ဂဇင်းပင် ဖြစ်သည်။

ကျွန်ုပ်တို့အနေဖြင့် အလေးထားလိုသည်မှာ လက်ရှိအချိန်ကာလဖြစ်သော တော်လှန်ရေးကာလတွင် ဆဲဗင်းဂျူလိုင်ကဲ့သို့ သမိုင်းဖြစ်ရပ်များအား အမြဲတစေဖော်ထုတ်တူးဆွဖို့ လိုအပ်ကြောင်းပင်ဖြစ်သည်။ အကြောင်းမှာ၊ ကျွန်ုပ်တို့၏ လက်ရှိ စစ်အာဏာရှင်စနစ်တော်လှန်ရေး၊ စစ်တပ်နှင့် ကျွန်ုပ်တို့ကြားရှိ အဆုံးအဖြတ်တိုက်ပွဲမှာ လက်ရှိစစ်တပ်နှင့် ကျွန်ုပ်တို့ကြားရှိ တိုက်ပွဲဖြစ်သည်တင်မက ဤအဆုံးအဖြတ်တိုက်ပွဲသည် ကျွန်ုပ်တို့၏ သမိုင်းတစ်ခုလုံးအား အဆုံးအဖြတ်ပေးမည့် တိုက်ပွဲလည်းဖြစ်နေ၍ပင်ဖြစ်သည်။ ဖိနှိပ်သူနှင့် အုပ်ချုပ်သူအာဏာရှင်အစိုးရအဆက်ဆက်တို့၏ ရက်စက်ယုတ်မာမှု၊ သုတ်သင်ရှင်းလင်းမှုသမိုင်းနှင့် ဖက်ဆစ်စနစ်၊ စစ်အာဏာရှင်စနစ်အား ခေတ်အဆက်ဆက် တော်လှန်ပုန်ကန်ခဲ့ကြသော၊ တော်လှန်လှန်ပုန်ကန်ရင်းကျဆုံးခဲ့ကြသော ဝိဉာဉ်အပေါင်းတို့၏ သမိုင်း၊ ဖိနှိပ်သူများ၏ သမိုင်း နှင့် အဖိနှိပ်ခံတို့၏ သမိုင်း၊ သမိုင်းနှစ်ခုကြားရှိ တိုက်ပွဲလည်းဖြစ်နေ၍ပင်ဖြစ်သည်။ ဤမဂ္ဂဇင်း ထုတ်ဝေခြင်းအားဖြင့် ကျွန်ုပ်တို့သည် အဖိနှိပ်ခံတို့၏ သမိုင်း၊ ကျဆုံးရဲဘော်တို့၏ သမိုင်းသည် အဆုံးသတ်တွင် အနိုင်ရရှိလိမ့်မည် ဟူသည့် အမှန်တရားအား သက်သေထူခြင်းပင်ဖြစ်သည်။

ထို့ကြောင့်၊ ကျွန်ုပ်တို့၏ စစ်အာဏာရှင်စနစ်တော်လှန်ရေးသည် ခေတ်အဆက်ဆက်၊ တော်လှန်ပုန်ကန်သူမျိုးဆက်အသီးသီးတို့ လက်ဆင့်ကမ်းသယ်ဆောင်ခဲ့သော သမိုင်းဖြစ်စဉ်ကြီးတရပ်၊ သမိုင်းဆိုင်ရာတိုက်ပွဲကြီးတရပ်ဖြစ်သည်နှင့်အညီ၊ ထို့အပြင် အဖိနှိပ်ခံတို့၏သမိုင်း တော်လှန်ပုန်ကန်သူတို့၏ သမိုင်း၊ ကျွန်ုပ်တို့၏သမိုင်းသည်သာလျှင် အဆုံးသတ်တွင် အနိုင်ရရှိသော သမိုင်းဖြစ်လိမ့်မည် ဆိုသည့် ယုံကြည်ချက်နှင့်အညီ၊ ဆဲဗင်းဂျူလိုင်စိတ်ဓာတ်၊ သပိတ်မလှန်အလံမလှဲသော စိတ်ဓာတ်အား ခံယူကာ ရှေ့ဆက်တိုက်ပွဲဝင်ကြပါစို့ဟု ပြည်သူလူထုနှင့်တကွ တော်လှန်ရေး အင်အားစု အသီးသီးအား တိုက်တွန်းနှိုးဆော်ရင်း ဤမဂ္ဂဇင်းအား ထုတ်ဝေလိုက်ရပါသည်။

**အယ်ဒီတာအဖွဲ့**
**အိုးဝေစာစောင်**









**All Burma Federation of Student Unions**

**ဗမာနိုင်ငံလုံးဆိုင်ရာကျောင်းသားသမဂ္ဂများအဖွဲ့ချုပ်**

**ဆဲဗင်းဂျူလိုင် ကျောင်းသားအရေးတော်ပုံ (၆၁) နှစ်ပြည့် အထိမ်းအမှတ် သဘောထား ထုတ်ပြန်ကြေညာချက်**

ကြေညာချက်အမှတ် - ၆/ဗကသ/၂၀၂၃
နေ့စွဲ - ၂၀၂၃ ခုနှစ် ဇူလိုင်လ ၇ ရက်

ယနေ့ ၂၀၂၃ ခုနှစ် ဇူလိုင်လ ၇ ရက်နေ့သည် ဗကသများအဖွဲ့ချုပ်က ဦးဆောင်၍ စစ်အာဏာရှင်စနစ်ကို ပြတ်သားစွာ ဆန့်ကျင်တိုက်ပွဲဝင်ခဲ့သော (၆၁) နှစ်ပြည့် နှစ်ပတ်လည်နေ့ ဖြစ်ပါသည်။ ဆဲဗင်းဂျူလိုင် (၇၊ ၇၊ ၁၉၆၂) ကျောင်းသား အရေးတော်ပုံကြီးသည် ဗမာပြည်စစ်အာဏာရှင်စနစ်ကို ပထမဦးဆုံး စတင်တိုက်ပွဲဆင်ခဲ့သည့် အရေးတော်ပုံကြီးဖြစ်သည်။ ၂၀၂၁ ခုနှစ် ဖေဖော်ဝါရီလ ၁ ရက်နေ့မှစ၍ မင်းအောင်လှိုင် ဦးဆောင်သည့် စစ်အုပ်စုမှ တိုင်းပြည်အာဏာကို အဓမ္မနည်းဖြင့် တကျော့ပြန် ပေါ်ပေါ်ထင်ထင် သိမ်းပိုက်ခဲ့သဖြင့် ပြည်သူလူထု၏ စီးပွားရေး၊ လူမှုရေး၊ ပညာရေး အစရှိသည့် ကဏ္ဍပေါင်းစုံသည် ယခင်ကထက် နိမ့်ကျခဲ့ရသည်။ ဖက်ဆစ်စစ်တပ်နှင့် လက်ပါးစေများမှ အဖိနှိပ်ခံလူမျိုးပေါင်းစုံ ပြည်သူလူထု၏ အသက်အိုးအိမ်စည်းစိမ်ကို ဖျက်ဆီးသတ်ဖြတ်ကာ စစ်ရာဇဝတ်မှုများကို နေ့စဉ်နှင့်အမျှ ထင်ထင်ရှားရှားကျူးလွန်နေသည်။

ပြည်သူလူထု၏ သွေးများဖြင့် စွန်းပေနေသော ဖက်ဆစ်စစ်တပ်ကို အမြစ်ပြတ်ချေမှုန်းပြီး ပြည်သူ့အာဏာတည်ဆောက်ရမည်။ စစ်အစိုးရ၊ စစ်အုပ်စု၊ စစ်ဗျူရိုကရေစီယန္တရား တို့ဖြင့် အခိုက်အမာတည်ဆောက်ထားသည့် စစ်အာဏာရှင်စနစ် (စစ်သုံးစစ်) ကို အမြစ်ဖြတ်ချေမှုန်း သုတ်သင်ရန်မှာ ကျွန်ုပ်တို့ အဖိနှိပ်ခံလူမျိုးပေါင်းစုံ ပြည်သူလူထုတရပ်လုံး၏ အဓိကတာဝန်တရပ်ဖြစ်သည်။ ထို့ကြောင့် စစ်သုံးစစ်ကို အဖိနှိပ်ခံလူမျိုးပေါင်းစုံ ပြည်သူလူထု တရပ်လုံးက ထိရောက်မှန်ကန်သည့် နည်းလမ်းပေါင်းစုံဖြင့် အုံကြွဆန့်ကျင် တော်လှန်ကြပါရန် ကျွန်ုပ်တို့ ဗကသများအဖွဲ့ချုပ်က လေးလေးနက်နက် တိုက်တွန်းနှိုးဆော်အပ်ပါသည်။ ကျွန်ုပ်တို့ ဗကသများအဖွဲ့ချုပ်သည်လည်း ဆဲဗင်းဂျူလိုင် တိုက်ပွဲဝင်စိတ်ဓာတ်အား ဆက်လက်စွဲကိုင်ကာ အဖိနှိပ်ခံလူမျိုးပေါင်းစုံ ပြည်သူလူထုတရပ်လုံးနှင့်အတူ စစ်အာဏာရှင်စနစ် (စစ်သုံးစစ်) ကို အမြစ်ပြတ်ချေမှုန်းနိုင်သည်အထိ ပြင်းပြင်းထန်ထန် တိုက်ပွဲဝင်သွားမည် ဖြစ်သည်။

**"ဆဲဗင်းဂျူလိုင် တိုက်ပွဲဝင်စိတ်ဓါတ်ကို ဆက်လက်ကိုင်စွဲကြ"**
**"စစ်သုံးစစ်ကို အမြစ်ပြတ်တိုက်ဖျက်ကြ"**



**ဗဟိုအမှုဆောင်အဖွဲ့**
**ဗမာနိုင်ငံလုံးဆိုင်ရာကျောင်းသားသမဂ္ဂများအဖွဲ့ချုပ်**

Facebook Page – All Burma Federation of Student Unions
Email – abfsu.cec@protonmail.com






# ရန်ကုန်တက္ကသိုလ်ကျောင်းသားများသမဂ္ဂ (ဗကသများအဖွဲ့ချုပ်)

## UNIVERSITY OF YANGON STUDENTS' UNION (ABFSU)

---

## ၆၁ နှစ်မြောက် ဆဲဗင်းဂျူလိုင်နေ့ သဘောထားထုတ်ပြန်ခြင်း

သဘောထားထုတ်ပြန်ချက်အမှတ် (၂/၂၀၂၃)

(၂၀၂၃ ခုနှစ်၊ ဇူလိုင်လ ၇ ရက်)

ဆဲဗင်းဂျူလိုင်သည် စစ်အာဏာရှင်တော်လှန်ရေး၏ အစပင်ဖြစ်သည်။ အရိုင်းယူစ စစ်အာဏာရှင်စနစ်၏ သရုပ်မှန်ကို ကျောင်းသားထု၏ သွေးဖြင့်ရင်းကာ ဖွင့်ဖော်ခဲ့သော သမိုင်းပင်ဖြစ်သည်။ မပြီးဆုံးသေးသော တော်လှန်ရေးခရီးတလျှောက်တွင် ကျောင်းသား၊ ပြည်သူတို့၏ အသက်သွေးများ မြောက်မြားစွာ စတေးခဲ့ရသည်။ အလောင်းပေါ် အလောင်းဆင့် ရင်းနှီးခဲ့ရသော၊ ရင်းနှီးနေရဆဲဖြစ်သော တော်လှန်ရေးခရီးရှည်ကြီး၏ ပန်းတိုင်မှာ အဖိနှိပ်ခံလူထုတရပ်လုံးလွတ်မြောက်ရေးပင်ဖြစ်သည်ဟု ကျွန်ုပ်တို့က အခိုင်အမာ ယုံကြည်သည်။

ဆဲဗင်းဂျူလိုင်မှ အစပြု၍ ရင်းနှီးခဲ့ရသော တော်လှန်မျိုးဆက် အဆက်ဆက်၏ အရိုးပုံထက်တွင် အခန့်သားထိုင်ကာ စစ်အာဏာရှင်တို့နှင့် ရင်ကြားစေ့မည့် အပြုအမူသူသမျှသည် အာဇာနည်ကျောင်းသား၊ ပြည်သူတို့၏ မျက်နှာကို ခြေဖြင့်ကန်ရာ ရောက်ပေသည်။ ကျွန်ုပ်တို့သည် ကျောင်းသားထု ညီညွတ်ရေး၊ တော်လှန်ရေးအင်အားစုတရပ်လုံး ညီညွတ်ရေးနှင့် တပ်ပေါင်းစုတည်ဆောက်ရေးတို့ကို မရမနေဖော်ဆောင်ကာ စစ်သုံးစစ် ကင်းစင်သည့် နိုင်ငံသစ်ကို ကျွန်ုပ်တို့ ကိုယ်တိုင် တော်လှန်ထုဆစ်ကြရမည်ဖြစ်သည်။

ကျွန်ုပ်တို့သည် စစ်အုပ်စုနှင့် စေ့စပ်ဆွေးနွေးရေးလမ်းကို ယောင်၍ပင် လျှောက်လှမ်းမည်မဟုတ်ဘဲ ဖိနှိပ်မှုအပေါင်းကို တွန်းလှန်သည့် ဆဲဗင်းဂျူလိုင်စိတ်ဓာတ်ကို ဆွဲကိုင်ကာ ဖက်ဆစ်နိုင်ငံတော် ပျက်သုဉ်းပြီး အဖိနှိပ်ခံထု၏ နိုင်ငံသစ် ပေါ်ပေါက်သည်အထိ မဆုတ်တမ်း တိုက်ပွဲဝင်သွားမည်ဟု ကတိပြုရင်း ဂုဏ်ရောင်ပြောင်စွာ ကျဆုံးခဲ့ကြသော အာဇာနည်အပေါင်းကို ဦးညွှတ်အလေးပြုအပ်ပါသည်။

အလုပ်အမှုဆောင်အဖွဲ့

ရန်ကုန်တက္ကသိုလ်ကျောင်းသာများသမဂ္ဂ

(ဗကသများအဖွဲ့ချုပ်)

# ဇူလိုင် ၇ ရက် အရေးတော်ပုံကြီး

■ အောင်ထွန်း



(၇) ရက် ဇူလိုင်လ အရေးတော်ပုံသည် ဖက်ဆစ်ဆန်သော ဖိနှိပ်ချုပ်ချယ်ရေးလှုပ်ရှားမှုကြီး တရပ်ပင် ဖြစ်သည်။ မြန်မာနိုင်ငံသမိုင်းတွင် ဒုတိယကမ္ဘာစစ်ကြီးနောက်ပိုင်းတခါမှ မပေါ်ပေါက်ခဲ့ဖူးသေးသော ရက်စက်မှုလည်း ဖြစ်သည်။ ဤအရေးတော်ပုံတွင် တိုင်းပြည်၏ အနာဂတ်သားကောင်းရတနာများစွာ ရေတိမ်နစ်ခဲ့ရသည်။ ရန်ကုန်တက္ကသိုလ်နယ်မြေသည် ရဲရဲနီသော ကျောင်းသားထု၏ သွေးများ ချောင်းစီးမတတ်ဖြစ်ခဲ့ရသည်။ တက္ကသိုလ်ပရဝဏ်တခုလုံး ကျည်ဆန်နှင့် ယမ်းငွေ့များ လွှမ်းမိုးခဲ့သည်။ စစ်တလင်းပမာ အလောင်းချင်းထပ်ခါ မြင်မကောင်းသောရှုခင်းသည် တက္ကသိုလ်အား အနိဋ္ဌာရုံကားချပ်ကြီးအဖြစ် ဖန်တီးခဲ့သည်။

## (က) ဖြစ်ပေါ်လာပုံ အခြေခံအကြောင်းအရင်းများ

ဤမျှ ဆိုးရွားပြင်းထန်လှသော အရေးတော်ပုံကြီး၏ အဖြစ်အမှန် ဖြစ်ရပ်အခြေခံကို အလေးအနက်သုံးသပ်ဖို့လိုသည်။ ဤ ဇူလိုင်အရေးတော်ပုံသည် စစ်တပ်အာဏာပိုင်များ၏ (၁) ထင်ရာစိုင်း၍ ငါတကောကောလိုသော စစ်ဝါဒစစ်မာန၊ (၂) ကျောင်းသားထုအပေါ်တွင် ထားရှိခဲ့သော ဖိနှိပ်ချုပ်ချယ်ရေး အာဃာတတရား၊ (၃) ပြည်သူလူထုနှင့် ကျောင်းသားထု၏ ဆန္ဒဖြစ်သော ငြိမ်းချမ်းစွာ ဖြေရှင်းရေးမူကို ပစ်ပယ်ကာ အကြမ်းဖက်နည်းကို သုံးစွဲခြင်းတို့မှ ပေါက်ဖွားလာခြင်းဖြစ်သည်။

ကျောင်းသားလှုပ်ရှားမှု သမိုင်းတလျှောက်လုံးကို ပြန်ကြည့်လျှင်လည်း အာဏာပိုင်တို့၏ အကြမ်းဖက်ဝါဒနှင့် ကျူးကျော်သူများကသာ ဤဖြစ်ရပ်ဆိုးမျိုး

ကို ပေါက်ဖွားစေခဲ့ကြောင်း အထင်အရှား တွေ့ရပေမည်။ ကိုအောင်ကျော်သည် ငြိမ်းချမ်းစွာဆန္ဒပြရင်း နယ်ချဲ့သမားတို့၏ အကြမ်းဖက်နှိမ်နင်းမှုအောက်တွင် ကျဆုံးခဲ့ရသည်။ ဖဆပလလက်ထက်တွင်လည်း အောက်တိုဘာ အရေးတော်ပုံသည် အာဏာပိုင်တို့၏ တမင်ဖန်တီး ကျူးကျော်မှုများမှ ပေါက်ဖွားလာသည့် အကြမ်းဖက်နှိပ်ကွပ်မှုကြီးပင်ဖြစ်သည်။ ဟယ်ရီတန် အရေးတော်ပုံသည်လည်း အာဏာပိုင်တို့၏ ချို့ယွင်းချက်ကို လူသတ်လက်နက်ဖြင့် ဖြေရှင်းလိုက်ကြခြင်းဖြစ်သည်။ ကျောင်းသားထုက မကျေနပ်၍ ဆန္ဒပြသောအခါ အကြမ်းဖက်နည်းကို သုံးလျက် လက်နက်ဖြင့် လူသတ်၍ နှိပ်ကွပ်လိုက်ကြသည်။ ၁၉၆၁ ခု မန္တလေးတက္ကသိုလ်၏ စနစ်သစ်အရေးတော်ပုံကို ကြည့်လျှင်လည်း အာဏာပိုင်တို့၏ တဖက်သက်ချမှတ်ထားသော အဖြေနှင့် အသေစွဲကိုင်မှု၊ နောက်ဆုံး အကြမ်းဖက်မှုကို တွေ့ရသည်။ သင်ကြားမှု မပြည့်စုံ စာမေးပွဲ စနစ်တခုကို အတင်းချမှတ်ခဲ့သည်။

ကျောင်းသားများက ပထမဦးစွာ လိုအပ်နေသော ကျောင်းသုံးပရိဘောဂများ၊ ဆရာများ တိုးချဲ့ပါ။ ဤသင်ကြားမှု အခြေအနေများ မပြည့်စုံမီ ကာလတွင်စနစ်သစ်ကို ရပ်ဆိုင်းထား ဟူ၍ တင်ပြခဲ့သည်။ သို့သော် အာဏာပိုင်တို့သည် လိုက်လျောမှု မပြုခဲ့ဘဲ နောက်ဆုံး စက်တင်ဘာလတွင် လက်နက်ဖြင့်အကြမ်းဖက် ဖြေရှင်းလိုက်သည်။ ကျောင်းသားအမြောက်အများ ဒဏ်ရာရခဲ့သည်။ ဖမ်းဆီးချုပ်နှောင်ခြင်း၊ ဝါရမ်းနှင့် ဆုငွေများထုတ်ခြင်း၊ ကျောင်းမှထုတ်ပယ်ခြင်းတို့ကို ပြုလုပ်၍ ပြင်းထန်စွာ ဖိနှိပ်ချုပ်ချယ်ခဲ့ကြသည်။

ဤသမိုင်းစဉ်များကို ပြန်ကြည့်လျှင် ကျောင်းသားတိုက်ပွဲ အားလုံး၌ အာဏာပိုင်တို့၏ ကျူးကျော်မှု၊ အကြမ်းဖက်မှု၊ ကျောင်းသားထုနှင့် ပြည်သူ့ဆန္ဒပစ်ပယ်မှုများကို တွေ့ရပေသည်။ တဆက်တည်း ကျောင်းသားထု၏ ငြိမ်းချမ်းစွာ ဆန္ဒပြနည်းဖြင့်သာ တောင်းဆိုလှုပ်ရှားခဲ့ခြင်းဖြစ်သည်။ စစ်တပ်အစိုးရသည် တက်လာစဉ်ကတည်းက ဗိန်းပေါင်းတီး၍ ထွက်လာသည်။ ထိုအာဏာသိမ်းပွဲတွင် ကျောင်းသား စိမ်မီသိုက်မှာ စတေးခံလိုက်ရသည်။ အာဏာသိမ်းပြီး သက်တမ်း (၃) လ အတွင်းမှာပင် ကျောင်းသားထုအား ဖိနှိပ်ရေးလုပ်ငန်းကို စတင်လာပေသည်။ ပညာရေးဌာနနှင့် လုံးဝမအပ်စပ်ဘဲ စစ်တပ်သဏ္ဍာန်ပါသော စည်းကမ်းများ ချမှတ်လိုက်ကြသည်။ ချမှတ်ရာတွင် ကျောင်းသားထုဆန္ဒယူခြင်း၊ ညှိနှိုင်းခြင်းလုံးဝမရှိဘဲ ကြေငြာဘုတ်တွင် အမိန့်ထုတ်နည်းမျိုးဖြင့် တဖက်သတ်ချမှတ်ခဲ့သည်။ စည်းမျဉ်း၏ အနှစ်သာရပိုင်းသည် ဖိနှိပ်ချုပ်ချယ်ရေး သက်သက်ကို ဖော်ပြလျက် လုပ်မှုလုပ်ဟန်သည် စစ်ဝါဒနှင့် စစ်မာန၊ ငါတကောကောသော ဖက်ဆစ်လက္ခဏာကို ဆောင်နေသည်။ အာဏာပိုင်တို့၏ ထိုလုပ်ဟန်သည် စစ်မှန်သော စည်းကမ်းများ ဖြစ်သည့်တိုင်အောင် မအောင်မြင်နိုင်သော လုပ်နည်းလုပ်ဟန်သာဖြစ်သည်။

စည်းကမ်းတခု အောင်မြင်ရေးသည်

(၁) ၎င်းစည်းကမ်းသည် လိုက်နာရမည့်သူများ၏ ဘဝဟပ်မိရန်၊

(၂) လိုက်နာရမည့် သူများကိုယ်တိုင် အသိနှင့်ယှဉ်၍ လက်ခံလာရန်တို့ လိုပေသည်။

ကျောင်းသားထု၏ ဆန္ဒကိုမယူခြင်း ညှိနှိုင်းမှု မပြုခြင်းတို့သည် ဘဝနှင့်ဟပ်မိသော စည်းကမ်းများဖြစ်မလာခြင်း၏ အခြေခံ ဖြစ်ပေသည်။ တဖက်သက်စစ်မိန့်ဆန်ဆန် ချမှတ်၍ ဖွတ်အတင်းလိုက်နာစေခြင်းသည် အသိနှင့်ယှဉ်၍ လက်ခံလာရေးကို မရယူနိုင်သော လုပ်ဟန်သာဖြစ်သည်။ ထို့ကြောင့် စစ်တပ်အာဏာပိုင်တို့၏ စည်းကမ်းသည် အနှစ်သာရရော လုပ်ဟန်သာဖြစ်သည်။ ထို့ကြောင့် စစ်တပ်အာဏာပိုင်တို့၏ စည်းကမ်းသည် အနှစ်သာရရော လုပ်ဟန်အစပါ မှားယွင်းခဲ့သည်မှာ ထင်ရှားလှပေသည်။ ကျောင်းသားထုမှာ စည်းကမ်းထားရှိရေးကို မူအားဖြင့် လက်ခံကြောင်း အတိအလင်း တင်ပြခဲ့သည်။ တဆက်တည်းတွင် အထက်ပါအတိုင်း ကျောင်းသားထုဆန္ဒယူရေး၊ ဆရာ၊ ကျောင်းသားနှင့် အာဏာပိုင်တို့ (၃) ဦး (၃) ဖလှယ် ညှိနှိုင်းရေးဆွဲရေး၊ အသိနှင့်လက်ခံလာအောင် ပညာပေးရေးတို့ကို ပြုလုပ်ရန် အကြိမ်ကြိမ် တင်ပြခဲ့သည်။ သို့သော် အာဏာပိုင်များ၏ မျက်နှာစုံညီတွေ့ဆုံ

ခွင့်ကိုပင် ခါးခါးသီးသီး ငြင်းပယ်ကာ တကသ၏ တင်ပြချက်ကို လုံးဝဥပေက္ခာပြုခဲ့သည်။

ကျောင်းသားထုအနေဖြင့် ဘဝနှင့် ဟပ်မိသောအသိဖြင့် လိုက်နာနိုင်သော စည်းကမ်းများအရ ကျောင်းဆောင်ကိုယ်ပိုင် အုပ်ချုပ်ခွင့်ကို ရယူလိုသည်။ ကျောင်းဆောင်ကိုယ်ပိုင်အုပ်ချုပ်ခွင့်သည် သမဂ္ဂ၏ အစဉ်တစိုက်တောင်းဆိုခဲ့သော အခွင့်အရေးလည်း ဖြစ်ပေသည်။ ကျောင်းဆောင်ကိုယ်ပိုင်အုပ်ချုပ်ခွင့် ရှိခြင်းအားဖြင့်

(၁) ကျောင်းသားများ၏ဘဝကို ကျောင်းသားများက ပိုမိုထိတွေ့သိရှိခြင်း၊

(၂) ဒီမိုကရေစီ အုပ်ချုပ်မှုစနစ်ကို လက်တွေ့ကျင့်သုံး၍ အလေ့အကျင့် ဖြစ်လိုခြင်း၊

(၃) ကျောင်းသားအခွင့်အရေးများကို ထိရောက်စွာ ကာကွယ်နိုင်ခြင်း၊

(၄) ဆရာ၊ ကျောင်းသား နားလည်မှု ပိုမိုရရှိနိုင်ခြင်းတို့ကြောင့် သမဂ္ဂများအနေနှင့် အစဉ်တစိုက်တောင်းဆိုခဲ့ရခြင်း ဖြစ်သည်။

ကိုယ်ပိုင်အုပ်ချုပ်ခွင့်သည် ကျောင်းသားများ ထင်ရာလုပ်ရေးအတွက်မဟုတ်ဘဲ ဆရာ၊ ကျောင်းသား ညှိနှိုင်းမှုဖြင့် စနစ်ကျစွာ အုပ်ချုပ်ရေးသာ ဖြစ်ပေသည်။ ထိုသို့ အခြေခံကျသော ကျောင်းသားထု၏ တင်ပြချက်များကို လုံးဝဥပေက္ခာပြုခြင်း ခံခဲ့ရလေသည်။ ငြိမ်းချမ်းစွာ ပညာသင်ကြားရေးကို ချစ်မြတ်နိုးသော ကျောင်းသားထုသည် ငြိမ်းချမ်းစွာ ဆန္ဒပြတောင်းဆိုခဲ့သည်။ ငြိမ်းချမ်းစွာလှုပ်ရှား တောင်းဆိုမှု၊ မျက်နှာစုံညီ ဖြေရှင်းမှုသည် ကျောင်းသားသမဂ္ဂများ၏ အခြေခံမူဖြစ်ကြောင်း ကျောင်းသား လှုပ်ရှားမှုသမိုင်းက သက်သေခံလျက် ရှိနေပေသည်။ လက်နက်မဲ့သူများ ပီပီ အကြမ်းဖက်မှုကိုလည်း မလိုလားခဲ့ပေ။ ပေါက်ကွဲမှုတိုင်းလည်း အာဏာပိုင်တို့၏ ကျူးကျော်မှု၊ အကြမ်းဖက်မှု ပေါ်ပေါက်လာကြောင်းကိုလည်း သမိုင်းဖြစ်ရပ်များက အထင်အရှား ပြသလျက် ရှိပေသည်။ ဇူလိုင်လ (၇) ရက် အရေးတော်ပုံသည်လည်း ဖြစ်စဉ်အမှန်ကို ပြန်သုံးသပ်လျှင် စစ်တပ်အာဏာပိုင်တို့၏ ကျူးကျော်မှု၊ အကြမ်းဖက်မှုများကို ရှင်းလင်းစွာ မြင်ရပေသည်။ အာဏာပိုင်တို့၏ တဖက်သတ် ငါတကောကောမှုကြောင့် ဖြစ်ပေါ်လာရသော ကျောင်းသားပြဿနာအား အေးချမ်းစွာ ဖြေရှင်းရမည့်အစား လက်နက်စွဲကိုင်၍ ဖြေရှင်းခဲ့ကြပေသည်။

## (ခ) မဖြစ်ပွားမီ ကျောင်းသားများ မကျေနပ်မှုများ

မေလ (၉) ရက်တွင် နိုင်ငံတော် တော်လှန်ရေးကော်စီ ဥက္ကဋ္ဌသည် အောက်ပါဥပဒေကို ပြဋ္ဌာန်းလိုက်သည်။

၁။ (၁) ဤဥပဒေကို ၁၉၆၂ ခုနှစ်၊ ရန်ကုန်တက္ကသိုလ် အက်ဥပဒေကို ရုပ်သိမ်းသည့် ဥပဒေဟု ခေါ်တွင်စေရမည်။

(၂) ဤဥပဒေသည် ချက်ချင်းအာဏာတည်ရမည်။

၂။ (၁) ရန်ကုန်တက္ကသိုလ် အက်ဥပဒေကို ဤဥပဒေဖြင့် ရုပ်သိမ်းလိုက်သည်။

(၂) ယင်းသို့ ရုပ်သိမ်းသည့်အခါ

(က) မြန်မာနိုင်ငံ ယေဘုယျစကားရပ် အက်ဥပဒေပုဒ်မ (၅) ပါ ပြဋ္ဌာန်းချက်များ အကျိုးသက်ရောက်ရမည်။

(ခ) ရန်ကုန်တက္ကသိုလ်ပိုင် ပစ္စည်းအားလုံးသည်လည်းကောင်း၊ ရန်ကုန်တက္ကသိုလ်၏ ကြွေးမြီတာဝန်အားလုံးသည်လည်းကောင်း၊ အစိုးရ၌ တည်ရှိသက်ရောက်ရမည်။

၃။ ဤဥပဒေ စတင်အာဏာတည်သည့် အချိန်မှ အစပြု၍ နိုင်ငံတော် တော်လှန်ရေးအစိုးရသည် ရန်ကုန်တက္ကသိုလ်အား အဆိုပါ ရုပ်သိမ်းခြင်းခံရသော ရန်ကုန်တက္ကသိုလ် အက်ဥပဒေဖြင့် ပေးအပ်ထားသည့် အာဏာနှင့် တာဝန်ဝတ္တရားများကို ဆက်လက်သုံးစွဲ ဆောင်ရွက်ရမည်။

ထို့အပြင် ၁၉၆၂ ခုနှစ် မန္တလေးတက္ကသိုလ် အက်ဥပဒေကို ရုပ်သိမ်းသည့်အောက်ပါဥပဒေကို နိုင်ငံတော် တော်လှန်ရေးကောင်စီ ဥက္ကဋ္ဌက ပြဋ္ဌာန်းလိုက်သည်။

၁။ (၁) ဤဥပဒေကို ၁၉၆၂ ခုနှစ် မန္တလေးတက္ကသိုလ် အက်ဥပဒေကို ရုပ်သိမ်းသည့် ဥပဒေဟု ခေါ်တွင်စေရမည်။

(၂) ဤဥပဒေသည် ချက်ချင်းအာဏာတည်ရမည်။

၂။ (၁) ၁၉၅၇ ခုနှစ် မန္တလေးတက္ကသိုလ်အက်ဥပဒေကို

ဤဥပဒေဖြင့် ရုပ်သိမ်းလိုက်သည်။
(၂) ယင်းသို့ ရုပ်သိမ်းသည့်အခါ
(က) မြန်မာနိုင်ငံ ယေဘုယျစကားရပ် အက်ဥပဒေပုဒ်မ (၅) ပါ ပြဋ္ဌာန်းချက်များ အကျိုးသက်ရောက်ရမည်။
(ခ) မန္တလေးတက္ကသိုလ်ပိုင် ပစ္စည်းအားလုံးသည် လည်းကောင်း၊ မန္တလေးတက္ကသိုလ်၏ ကြွေးမြီတာဝန်အားလုံးသည်လည်းကောင်း၊ အစိုးရ၌ တည်ရှိသက်ရောက်ရမည်။
၃။ ဤဥပဒေ စတင်အာဏာတည်သည့် အချိန်မှ အစပြု၍ နိုင်ငံတော် တော်လှန်ရေးအစိုးရသည် မန္တလေးတက္ကသိုလ်အား အဆိုပါ ရုပ်သိမ်းခြင်းခံရသော ၁၉၅၇ ခုနှစ် မန္တလေးတက္ကသိုလ် အက်ဥပဒေဖြင့် ပေးအပ်ထားသည့် အာဏာနှင့် တာဝန်ဝတ္တရားများကို ဆက်လက်သုံးစွဲ ဆောင်ရွက်ရမည်။
ပုံ (ဗိုလ်နေဝင်း)
ဥက္ကဋ္ဌ
၁၉၆၂ ခုနှစ်၊ နိုင်ငံတော်တော်လှန်ရေးကောင်စီ မေလ (၉) ရက်။

၁၉၆၂ ဖေဖော်ဝါရီလတွင် ကျင်းပခဲ့သော ရန်ကုန်ခရိုင် တန်းမြင့်ကျောင်းထွက် စာမေးပွဲကို ဖျက်သိမ်းလိုက်ကြောင်း တော်လှန်ရေးကောင်စီအစိုးရက ကြေညာခဲ့သည်။ ထိုကိစ္စနှင့် ပတ်သက်၍ ဗကသများအဖွဲ့ချုပ်၊ ရကသတို့က ကန့်ကွက်ခဲ့ကြသည်။ တော်လှန်ရေးကောင်စီအစိုးရက မေးခွန်းပေါက်ကြားမှုဖြင့် တန်းမြင့်ကျောင်းထွက်စာမေးပွဲကို ဖျက်သိမ်းလိုက်သည်ဟု ဆိုလေသည်။

မေးခွန်းပေါက်ကြားမှုပြဿနာ ပေါ်ပေါက်လာရခြင်းမှာ ပညာရေးဌာန တာဝန်ခံများ၏ မသမာမှု၊ ချို့ယွင်းပျက်ကွက်မှုများကြောင့်ဖြစ်သည်ဟု ဗကသများအဖွဲ့ချုပ်မှ ယူဆခဲ့ပေသည်။ အစိုးရအဆက်ဆက်တို့သည် မေးခွန်းပေါက်ကြားမှုများအတွက်သက်ဆိုင်ရာ တာဝန်ခံများကို အရေးမယူဘဲ ကျောင်းသားများအပေါ် ပုံချကာ ဖြေရှင်းခဲ့ပေသည်။ ကျောင်းသားများတွင် အပြစ်မရှိ၊ ထို့ကြောင့်သက်ဆိုင်ရာတာဝန်ခံများအား အပြစ်ပေးခြင်း၊ အရေးယူခြင်း မပြုလုပ်ဘဲ ကျောင်းသားများအား စာမေးပွဲချပစ်ခြင်း၊ ကျောင်းသားများအား စာမေးပွဲပယ်ခြင်းများပြုလုပ်ကာ ကျောင်းသားများအပေါ် ပုံချနည်းကို ဗကသများအဖွဲ့ချုပ်က အစဉ်အမြဲကန့်ကွက်ခဲ့ပေသည်။ ထို့အပြင် ဇွန်လ (၂၆) ရက်နေ့ကလည်း တကသမှ ကျောင်းဆောင်နေရာမရသေးသော ကျောင်းသားများအတွက် နေရာမရသူ (၁၃၀၀) ကျော်အတွက် အဆောင်ပြဿနာ ဖြေရှင်းပေးရန် တက္ကသိုလ်ကောင်စီမှ တဆင့် ပါမောက္ခချုပ် ဦးကာ (ပါမောက္ခချုပ် ဒေါက်တာသာလှ နေရာရောက်လာသူ) ထံ စာပေးပို့လိုက်လေသည်။

ရန်ကုန်တက္ကသိုလ် ကျောင်းပြန်ဖွင့်ပြီးနောက် ကျောင်းသား ကျောင်းသူများ လိုက်နာရမည့် စည်းကမ်းများကို တက္ကသိုလ်အုပ်ချုပ်ရေး အာဏာပိုင်များက ကြေညာခဲ့၏။ ယင်းစည်းကမ်းချက်တရပ်အနေနှင့် ကျောင်းဆောင်နေကျောင်းသားများအတွက် ညစာစားချိန်ကို ညနေ (၆) နာရီခွဲမှ (၇) နာရီခွဲအထိ ပြောင်းလဲကန့်သတ်ပေးရန် ဇွန်လ (၂၅) ရက်နေ့က ပြုလုပ်သော တက္ကသိုလ်သဟာယနှင့် စာဖတ်အသင်းမှ ကျောင်းဆောင်ပြဿနာနှင့် ပတ်သက်သော အစည်းအဝေးမှ တောင်းဆိုခဲ့သည်။ ထို့အပြင် ကျောင်းဆောင်နေ ကျောင်းသားများ ညဖက် ကျောင်းဆောင်သို့ ပြန်ဝင်ခွင့်ကို ည (၈) နာရီအစား ည (၁၁) နာရီ အထိ ခွင့်ပြုရန် ကျောင်းစည်းကမ်းများ ရေးဆွဲရာ၌ ကျောင်းသားကိုယ်စားလှယ်များက တောင်းဆိုသည်။

## (ဂ) တက္ကသိုလ်ကောင်စီကို ဖျက်သိမ်းခြင်း

မေလ (၁၀) ရက်နေ့ (၁) နာရီခွဲတွင် ရန်ကုန်မြို့ ဒဂုံရိပ်သာ၌ နိုင်ငံတော် တော်လှန်ရေးကောင်စီဥက္ကဋ္ဌ ဗိုလ်ချုပ်ကြီးနေဝင်းသည် တက္ကသိုလ်ကောင်စီအဖွဲ့ ကိုယ်စားလှယ်အသီးသီး ဖြစ်ကြသည့် ပညာမင်းကြီး ဦးဘိုးကို၊ ပါမောက္ခချုပ်ဒေါက်တာသာလှ၊ ဆေးတက္ကသိုလ်မှ ဒေါက်တာမောင်မောင်အေး၊ ဒေါက်တာမောင်မောင်ခ၊ မြို့တော်ဝန် ဦးကျော်မင်း၊ အတွင်းဝန် ဦးကျော်ညွန့်၊ ဆရာကြီး ဦးဖေမောင်တင်၊ ဦးအုန်း၊ ပါမောက္ခများဖြစ်သည့် ဦးလှသွင်၊ ဦးအေးလှိုင်၊ ဦးဘတုတ်၊ ဦးအောင်ခင်၊ ဒေါက်တာအလီ အစရှိသည့် ပုဂ္ဂိုလ်များ ကျောင်းသား

ကိုယ်စားလှယ်များ စုစုပေါင်း (၂၈) ဦးနှင့် တွေ့ဆုံခဲ့သည်။

ဗိုလ်ချုပ်ကြီးနေဝင်းက "ကျောင်းတော်ကြီး၏ အရေးကြီးဆုံးဖြစ်ပျက်နေသည့် အခြေအနေကိုပြောရလျှင် ကျောင်းသားနှင့်ဆရာ သူ့မရှိသေ၊ ငါ့မရှိသေဆိုသလို ဖြစ်နေသည့်အချက် ဖြစ်ကြောင်း၊ ဆရာလောကရော၊ ကျောင်းသားလောကရော နိုင်ငံရေး ပယောဂဝင်လာကြောင်း၊ ရှင်းရှင်းပြောရလျှင် အရှေ့အုပ်စုရော၊ အနောက်အုပ်စုပါ ပယောဂတွေဝင်လာကြောင်း၊ ယနေ့ ကောင်စီလူကြီးများအား ခေါ်၍ပြောရခြင်းမှာ 'တက္ကသိုလ်ကောင်စီ'ကို ဖျက်သိမ်းလိုက်ပြီဖြစ်ကြောင်း" ပြောကြားခဲ့သည်။

## ဇူလိုင်လ (၇) ရက် အရေးတော်ပုံစတင်ခြင်း

ဇူလိုင်လ (၇) ရက် နေ့လည် (၁) နာရီတွင် ရန်ကုန်တက္ကသိုလ်ကျောင်းသားများသမဂ္ဂမှ ကြီးမှူး၍ ကျောင်းဆောင်စည်းကမ်း ရုပ်သိမ်းပေးရေး ဆန္ဒပြပွဲ ကျင်းပရာ သဘာပတိအဖြစ် တက္ကသိုလ် ကျောင်းသားများသမဂ္ဂ ဥက္ကဋ္ဌ ကိုဗဆွေလေးက ဆောင်ရွက်ပြီး အခမ်းအနားမှူးအဖြစ် ကိုသာဒိုးက ဆောင်ရွက်သည်။ ကျောင်းသား (၂၀၀၀) ခန့် တက်ရောက်ကြသည်။ ထိုအစည်းအဝေးတွင် ကျောင်းဆောင်စည်းကမ်းများ ဖျက်သိမ်းရေး၊ ကျောင်းဆောင်ကော်မတီတွင် ကျောင်းသားကိုယ်စားလှယ် ပါဝင်ခွင့်ပေးရန်၊ ကျောင်းဆောင်လိုသူတိုင်း ကျောင်းဆောင်ရရေးအတွက် ကျောင်းဆောင်သစ်များ ဆောက်လုပ်ပေးရန်၊ ဖိနှိပ်ချုပ်ချယ်သည့် ကျောင်းဆောင်စည်းကမ်းများ ရုပ်သိမ်းရေးအတွက် ကန့်ကွက်ပွဲများ ကျင်းပ၍ ဆန္ဒပြလှည့်လည်ရန် ဆုံးဖြတ်သည်။

ထို့နောက် တကသ အဆောက်အဦရှေ့တွင် စုရုံးကာ မန္တလေးကျောင်းဆောင်၊ တောင်ငူကျောင်းဆောင်၊ ဒဂုံကျောင်းဆောင်၊ ရွှေဘိုကျောင်းဆောင်၊ အဓိပတိလမ်းမှ ဘွဲ့နှင်းသဘင်ကို အဓိပတ်လမ်းအတိုင်း စီတန်းလှည့်လည်၍ တကသရှေ့၌ လူစုခဲ့လိုက်ကြသည်။ စီတန်းလှည့်လည်ရာတွင် "မတရားစည်းကမ်းတွေ အလိုမရှိ။" "မတရားချုပ်ချယ်မှုတွေ အလိုမရှိ။" "ကျောင်းဆောင်တွေကို အကျဉ်းဆောင်မလုပ်နဲ့။" "ချုပ်ချယ်မှုတွေ အလိုမရှိ။" "မတရားစည်းကမ်းတွေ ဖျက်သိမ်း။" "ကျောင်းသားထု ညီညွတ်ကြ။"

ထိုသို့ ကြွေးကြော်သံများဖြင့် တက်ကြွစွာ ပါဝင်ခဲ့လေသည်။ ကျောင်းဝင်ခွင့်နှင့် အဆောင်ရရေးကို လုံခြုံရေးနှင့် အုပ်ချုပ်မှုကော်မတီများ၏ ထောက်ခံမှုဖြင့် လျှောက်ခဲ့ရသည်။ ထို့နောက် မိဘအုပ်ထိန်းသူ၏ ဝန်ခံချက်ကတိကိုလည်း တင်ခဲ့ရသည်။ ယခုအခါ အကျဉ်းထောင်နှင့်မခြား အချုပ်ခံနေရပြန်သည်။ ည (၈) နာရီထိုးလျှင် အဆောင်တံခါးပိတ်၊ လုံးဝအပြင်မထွက်ရ၊ ကိုယ့်အခန်းမှာ ထိုင်ပြီး စာကြည့်နေရမည်။ အဆောင်မှူး သို့မဟုတ် လက်ထောင်အဆောင်မှူးက စစ်ဆေးလျှင် မိမိအခန်း၌ ရှိနေရမည်။ မတွေ့လျှင် အခန်း၌မရှိဟု မှတ်ယူလျက် အရေးယူမည်။ ထမင်းစားချိန်ကိုလည်း မနက် (၇) နာရီခွဲမှ (၁၀) နာရီ ညနေစာကိုမူ ညနေ (၆) နာရီမှ ကျွေးမည်။ နံနက်ထမင်းနှင့် ညနေထမင်းအကြား ကော်ဖီ (၂) ကြိမ်တိုက်မည် စသည်များ အပြင် စည်းကမ်းဖောက်ဖျောက်လျှင် ကျောင်းဆောင်မှ ထုတ်ပစ်မည်ဟု စည်းကမ်းတပိုဒ်ဆုံးတိုင်း ခြိမ်းခြောက်ထားသည်။ ကျောင်းသားများက ၄င်းစည်းကမ်းများကို ညီညီညွတ်ညွတ်နဲ့ တိုက်ရင် ဘယ်သူချုပ်ချယ်မှုမှ မခံနိုင်ဘူး၊ သမဂ္ဂသဘောထားများကို ထုတ်ဝေ၍ သဟာယနှင့် စာဖတ်အသင်းများ အမြန်ဖွဲ့ရန် စည်းရုံးခဲ့သည်။ သဟာယနှင့် စာဖတ်အသင်းအားလုံး ပူးပေါင်းပြီး သမဂ္ဂခေါင်းဆောင်မှုနှင့် တိုက်ယူရန်ဖြစ်သည်။ သို့သော် စာဖတ်အသင်းနှင့် သဟာယအသင်းများ ဖွဲ့စည်းမှုကို အာဏာပိုင်များက လိုက်လံနှောက်ယှက်သည်။ တဖက်ကလည်း အလိုတော်ရိ ကျောင်းသားလက်တဆုပ်စာက ကျောင်းသားညီညွတ်ရေး ပျက်ပြားစေရန်၊ လက်ကိုင်တုတ် စာဖတ်အသင်းများ ဖွဲ့စည်းရန် ခြေပုန်းခုတ်လာကြသည်။ ကျောင်းသားအများစုကလည်း သဟာယနှင့် စာဖတ်အသင်းများ ဖွဲ့စည်းနိုင်ရန် ပိုမိုကြိုးစားလာကြသည်။ ဇူလိုင်လ (၆) ရက်နေ့ ည (၁၂) နာရီတွင် ထောင်ပေါင်းများစွာသော ကျောင်းသားများသည် အဆောင်တံခါးသော့ခလောက်များကို ရိုက်ချိုးပြီး အဓိပတိလမ်းမကြီးပေါ်တွင် ဆန္ဒပြကြသည်။

တကသခန်းမဆောင်၌ ကျောင်းဆောင့်ပြဿနာစည်းဝေးပွဲ ကျင်းပပြီးနောက် တက္ကသိုလ်နယ်မြေအတွင်းသို့ ကျောင်းသားထုကြီး စီတန်းလှည့်လည်လာစဉ်၊

ကျောင်းသားထုများသည် အဓိပတိလမ်းမှတစ်ဆင့် ပုဂံ၊ ပြည်၊ တကောင်းဆောင်များသို့ သွားရောက်ပြီး မိမိတို့ဘဝတူ ကျောင်းသားများကို အတူတကွ ဆန္ဒပြရန် သွားရောက်ခေါ်ငင်ကြသည်။ ထို့နောက် ပါမောက္ခချုပ်အိမ်ရှေ့တွင် သွားရောက်ဆန္ဒပြကြသည်။

ဇူလိုင်လ (၇) ရက်နေ့ နေ့လည် (၁၂) နာရီတွင် တကသ အဆောက်အဦ၌ ဖိနှိပ်ချုပ်ချယ်ထားသော အဆောင်စည်းကမ်းများကို ကန့်ကွက်ဆန္ဒပြပွဲတရပ်အတွက် တကသမှ အစည်းအဝေး ခေါ်ယူခဲ့လေသည်။ ၎င်းအစည်းအဝေးကြီးသည် သမိုင်းဝင် အဆောက်အဦကြီး၏ နောက်ဆုံးအစည်းအဝေးဖြစ်သည်ကို မည်သည့်ကျောင်းသားမျှ မသိရှိရပေ။ တကသဥက္ကဋ္ဌ ကိုဗဆွေလေးက ဗမာပြည်ကြီးဟာ လွတ်လပ်ရေးရတာကြာပါပြီ။ ဒါပေမဲ့ ဒီနေ့အထိ ပညာရေးဟာ မလွတ်လပ်ဘဲ ကျွန်ပညာရေးကို ဖာထေးသုံးစွဲနေပါတယ်။ အစိုးရအဆက်ဆက်ဟာ ပညာရေးစနစ်ကို မပြောင်းလဲဘဲ ပညာရေးစနစ်ကို ပြောင်းလဲဖို့တောင်းဆိုတဲ့ ကျောင်းသားတွေကိုသာ နည်းအမျိုးမျိုး ပြောင်းလဲပြီး ဖိနှိပ်ခဲ့ပါတယ်။ ဒီနေ့ တက်လာတဲ့ တော်လှန်ရေးအစိုးရဟာလည်း ပညာရေးပြုပြင်ပြောင်းလဲရေးကိုသာ မလုပ်ပါဘူး။ အမျိုးသားပညာရေးအတွက် စီမံကိန်းများလည်း ချမှတ်ခြင်း မရှိသေးပါဘူး။ ဒါပေမဲ့ တက္ကသိုလ်ပညာရေး အဆင့်အတန်း နိမ့်ကျနေမှုဟာ စည်းကမ်းချို့ယွင်းမှုတွေကြောင့် ဖြစ်တယ်ဆိုတဲ့ ကမ္ဘာမှာမရှိသေးတဲ့ ပညာရေးသဘောနဲ့ ကျောင်းဖွင့်စက စတင်ပြီး တင်းကျပ်တဲ့ စည်းကမ်းတွေကို တဖက်သက်လုပ်ဆောင်လာပါတယ်။ စည်းကမ်းဆိုတာ အုပ်ချုပ်သူများသာမဟုတ်ဘဲ လိုက်နာရမည့်ကျောင်းသူ၊ ကျောင်းသားတွေပါ ပါဝင်ရေးဆွဲမှသာ သဘာဝကျပါတယ်။ ကျင့်သုံးနိုင်တဲ့ စည်းကမ်းတွေလည်း ဖြစ်လာနိုင်ပါတယ်။ ဒီနေ့ တဖက်သက်ရေးဆွဲထားတဲ့ စည်းကမ်းတွေဟာ မူအရကို မမှန်ပါဘူး။ တိုးတက်တဲ့ နိုင်ငံတွေမှာ အဆောင်တွေကို ကိုယ်ပိုင်အုပ်ချုပ်ခွင့်များပင် ပေးနေတဲ့ကာလမှာ ဒီလိုတဖက်သက် စည်းကမ်းတွေနဲ့ ချုပ်ချယ်ထားတာဟာ ရာဇဝင်ကို နောက်ပြန်ဆွဲသလို ဖြစ်နေပါတယ်။ ကျွန်တော်တို့ဟာ အထက်တန်း

ပညာ သင်ကြားနေကြသူများ ဖြစ်ပါတယ်။ ဒီတော့ တဦးနဲ့တဦး နီးနီးနှောဖလှယ်ခွင့်ဆိုတာတွေ ရှိရပါတယ်။ ဒါမှ ပညာရေးအတွက် ပိုမိုအကျိုးဖြစ်နိုင်ပါတယ်။ ဒီလိုမဟုတ်ဘဲ ည (၈) နာရီထိုးလျှင် အဆောင်တံခါးတွေ သော့ခတ်၊ အခန်းတခန်းမှ တခန်းသို့ မကူးရ၊ ကိုယ်စားပွဲကိုယ်ထိုင် စာဖတ်၊ စည်းကမ်းမလိုက်နာရင် ကျောင်းဆောင်မှ ထုတ်တဲ့နည်းဟာ လက်တွေ့မှာ မဖြစ်နိုင်ပါဘူး။ ဒါတွင်မကသေးဘဲ ထမင်းကျွေးချိန်ကို နံနက် (၁၀) နာရီမှ ညနေ (၆) နာရီအထိ ခြားထားတာဟာလည်း လက်တွေ့မှာ ကျောင်းသားတွေ ဒုက္ခရောက်ကြပါတယ်။ ဒါတွေကြောင့် နှစ်ဦးနှစ်ဖက် အုပ်ချုပ်သူရော၊ လိုက်နာသူပါ ပူးတွဲညှိနှိုင်းပြီး စည်းကမ်းတွေ ပြန်လည်ဆွဲဖို့ တောင်းပန်ပါတယ်။ လက်ရှိစည်းကမ်းတွေကိုသာ ဆက်လက်ကျင့်သုံးလျှင် အောင်မြင်စရာလမ်း မရှိပါဘူး။ ဖိနှိပ်ရေးအတွက် စည်းကမ်းအမည်ခံသာ ဖြစ်ပါလိမ့်မယ်။" ဟု ပြောကြားသွားခဲ့သည်။

ကျောင်းသားများသည် နီရဲသော ခွပ်ဒေါင်းအလံကို လေထဲတွင်လွှင့်၊ ပိုစတာမျိုးစုံကိုကိုင်၊ ရှေ့ဆုံးမှာ ကြီးမားလှသော ခွပ်ဒေါင်းအလံကြီးကို ဖြန့်လျက် ကျောင်းသား (၁၀) ယောက်ခန့် ကိုင်ဆောင်လာကြသည်။

"ရဲဘော်တို့ ပညာရေးပြုပြင်ပြောင်းလဲရေးကို စတင်မပြုလုပ်ဘဲနဲ့ ချုပ်ချယ်ရေးစည်းကမ်းတွေကိုသာ စနစ်တကျ လုပ်ဆောင်နေတာကို ကျွန်တော်တို့ ဆက်လက် တိုက်ပွဲဝင်ရဦးမှာ ဖြစ်တယ်။ ပညာရေးပြုပြင်ပြောင်းလဲရေး၊ အမျိုးသားပညာရေး တည်ဆောက်ရေးအတွက် ရှေ့လုပ်ငန်းကို ဆက်လက် လုပ်ကဆောင် ရလိမ့်ဦးမယ်။ မတရား ကျောင်းဆောင်စည်းကမ်းတွေကိုလည်း ရုပ်သိမ်းဖို့ လက်တွဲတိုက်ရဦးမှာ ဖြစ်တယ်။ ဒီတိုက်ပွဲတွေအတွက် အကောင်းဆုံးလက်နက်ဟာ ကျောင်းသားထု ညီညွတ်ရေးပဲ။ ကျောင်းသားညီညွတ်ရေးကို မရမနေ တည်ဆောက်ပြီး ကျောင်းသားသမဂ္ဂရဲ့ ခွပ်ဒေါင်းအောင်လံအောက်မှာ စုစည်းညီညွတ်ပြီး ဆက်လက်တိုက်ပွဲဝင်သွားကြပါစို့။" ဟု အမှုဆောင်တဦးက ဆန္ဒပြပွဲ နိဂုံးချုပ် မိန့်ခွန်းကို သမဂ္ဂအဆောက်အဦရှေ့တွင် ပေးပြီးနောက် ကျယ်လောင်ရှည်လျားလှသော လက်ခုပ်သံများဖြင့် နိဂုံးချုပ်မိန့်ခွန်း ဆုံးသွားလေသည်။

## (ဃ) အကြမ်းဖက်ဖိနှိပ်မှု စတင်ပြီ

ဆန္ဒပြပွဲပြီးသောအခါ ကျောင်းသားများသည် သမဂ္ဂဆောင်လှေကားရှည်ဆိုင်တွင် ထိုင်နေကြသည်။ အဆောက်အဦအောက်ထပ်တွင် မုန့်စားသူစား၊ ကော်ဖီသောက်သူသောက်နှင့် ရှုပ်လျက်ရှိသည်။ အဆောက်အဦအပေါ်ထပ်တွင် ခရိုင်အသင်းတခုသည်လည်း မောင်မယ်သစ်လွင်ကြိုဆိုပွဲ ပြုလုပ်လျက်ရှိသည်။ ထိုအခိုက် အဓိပတိလမ်းဖက်မှ ကားသုံးစီး သမဂ္ဂအဆောက်အဦရှေ့ ထိုးရပ်ပြီး ကျောင်းသားများကို လိုက်လံဖမ်းဆီးနေသည်။ တိုက်ပုံအင်္ကျီဝတ်ထားသူ မှန်သမျှကို လိုက်ဖမ်းသည်။ ကျောင်းသားများ ဖမ်းဆီးရာတွင် တကသ ဥက္ကဋ္ဌ ကိုဗဆွေလေး၊ ဗကသ ဥက္ကဋ္ဌ ကိုသက်၊ ကိုညဏ်ဝင်း၊ ကိုစိုးတင့်၊ ကိုရဲမြင့်၊ ကိုထိန်ဝင်း၊ ကိုကြည်ညွန့်၊ ကိုဝင်းကြည်၊ ကိုတင်ငွေ၊ ကိုချိုတို့ကို ရန်ကုန်ရဲအဖွဲ့က တကသ အဆောက်အဦပေါ်တွင် ဖမ်းဆီးရမိလိုက်သည်။

ထိုသတင်းသည် အဆောင်တခုလုံး ပျံ့သွားပြီးနောက် "ကျောင်းသားတွေလာကြဟေ့။ ငါတို့ ခေါင်းဆောင်တွေ ဖမ်းနေပြီ။" ဟု သတင်းပျံ့သွားသည်။ ကျောင်းသားများသည် အဆောင်တိုင်းမှ ထွက်လာကာ သမဂ္ဂထဲဝင်ရန် ကြိုးစားကြသည်။

ကျောင်းသားများကို ဖမ်းဆီးရာ ရဲများကို ပြန်လည်ခုခံကာ ပုလိပ်အလိုမရှိ၊ ရဲအလိုမရှိ စသဖြင့် အော်ဟစ်ကြသည်။ တကသ အဆောက်အဦနှင့် မျက်နှာချင်းဆိုင်တွင်ရှိသော မန္တလေးကျောင်းဆောင်နှင့် အမရကျောင်းဆောင်မှ ကျောင်းသားများက ခဲများဖြင့် ပေါက်ကြသည်။ သထုံ၊ ပဲခူးကျောင်းဆောင်များမှ ကျောင်းသားများကလည်း ခဲများဖြင့် ပေါက်ကြသည်။ သထုံ၊ ပဲခူးကျောင်းဆောင်များမှ ကျောင်းသားများကလည်း ခဲများဖြင့် ပုလိပ်များကို ပစ်၍ကျောင်းသားများကို ဖမ်းဆီးမှု ထပ်မလုပ်နိုင်အောင် ကာကွယ်ကြသည်။ ခဲပေါက်မှု များပြားလာ၍ ပုလိပ်များ တက္ကသိုလ်ဝင်းအပြင်သို့ ဆုတ်ခွာပေးလိုက်သည်။ ထို့နောက်



ကျောင်းသားများသည် အဓိပတိလမ်းရှိ တံခါးကို ပိတ်လိုက်ကြသည်။

ညနေ (၄) နာရီတွင် သီးသန့်ရဲအဖွဲ့မှ ရဲသား (၁၀၀) ခန့်သည် အဓိကရုဏ်းနှိမ်နင်းရေး ကား (၂) စီး၊ သေနတ်ကိုင်တပ်မတော်သား (၅) စီး ရောက်လာသည်။ ဒုတိယဗိုလ်မှူးကြီးစိန်လွင်၊ ဒုဗိုလ်မှူးကြီး ကျော်၊ ဒုဗိုလ်မှူးကြီး မောင်မောင်ခ၊ လက်ထောက်ရဲမင်းကြီး ဦးလှငွေတို့ ကမာရွတ်ရဲဌာနတွင် ရောက်ရှိနေသည်။ သီးသန့်ရဲများက မျက်ရည်ယိုဗုံး (၇) လုံးပစ်ဖောက်လိုက်သည်။ ကျောင်းသားများက ဆက်လက်ဆန္ဒပြ ကြွေးကြော်နေဆဲဖြစ်သည်။ ဒုတိယဗိုလ်မှူးကြီး စိန်လွင်က ရဲမင်းကြီး ဦးလှငွေအား ရဲများဖြင့်သာ ဆူပူမှု ထိန်းပေးရန် တာဝန်ပေးသည်။

ညနေ (၄) နာရီ (၂၀) မိနစ်တွင် အထူးသတင်းထောက်လှန်းရေးဌာန ရဲမင်းကြီး ဦးမောင်မောင်နှင့် တတိယ ရာဇဝတ်တရားသူကြီး ဦးမောင်မောင်ကြည်တို့ ရောက်ရှိလာပြီး အခြေအနေကို အကဲခတ်ကြသည်။ ဗိုလ်မှူးကြီး သန်းစိန်၊ ဗိုလ်မှူးကြီး တင်စိုး၊ ရန်ကုန်ရဲမင်းကြီး ဦးခင်မောင်မောင်၊ ဒုရဲမင်းကြီး ဦးသန်း၊ ဒုဗိုလ်မှူးကြီး စိန်လွင်တို့လည်း ရောက်ရှိလာသည်။

ညနေ (၄) နာရီ (၄၅) မိနစ်တွင် မျက်ရည်ယိုဗုံး (၆) လုံး ပစ်၍နှိမ်နင်းပြန်သည်။ သို့သော် ကျောင်းသားများ ဆက်လက်ဆန္ဒပြနေ၍ နောက်ထပ်ဗုံး (၄) လုံးထပ်၍ ဖော်သည်။ ကျောင်းသားများ လှုပ်ရှားမှုအနည်ငယ် ရပ်ဆိုင်းသော် ဒုတိယဗိုလ်မှူးကြီး စိန်လွင်သည် ကျောင်းသားများဆီသို့သွားပြီး ကျောင်းသားကိုယ်စားလှယ်များ ထွက်ပါဟုပြောရာ ကိုကျင်၊ ကိုစိန်ဝင်း၊ ကိုထွန်းကျော်၊ ကိုဝင်းညွန့်၊ တက္ကသိုလ်အရံတပ်ရင်းမှ စစ်ဝတ်စုံ ဝတ်ထားသော ကိုလှထွန်းတို့ ထွက်လာကြသည်။ ဒုတိယဗိုလ်မှူးကြီးစိန်လွင်က ဆူပူမှုကိုထိန်းပေးက မိမိတို့ရဲများ ပြန်လည်ရုပ်သိမ်းပေးမည် ပြောသည်။ ကျောင်းသားများက စစ်ဝတ်စုံ ဝတ်ထားသော ကိုလှထွန်း၏ အင်္ကျီကို ဝိုင်း၍ချွတ်ပြီး စစ်အုပ်ထုတ်ကို ဘောလုံးလိုလုပ်ကန်ကြသည်။ ထို့နောက် ဆန္ဒပြမှုများ၊ ခဲပစ်မှုများ ဆက်လက်ဖြစ်ပွားလာကြပြီး သီးသန့်ရဲများက မျက်ရည်ယိုဗုံး (၆) လုံး ထပ်မံပစ်ရာ မျက်ရည်ယိုဗုံးကြောင့် ဒဏ်ရာရသွားသော ကျောင်းသားများကို အချင်းချင်း ဖေးမ၍ အဆောင်အတွင်းသို့ ခေါ်ယူသွားသည်။

ညနေ (၅) နာရီ (၄၅) မိနစ်တွင် ဒုဗိုလ်မှူးကြီး စိန်လွင်က ရဲများကို ပြန်လည်ရုပ်သိမ်းပြီး စစ်တပ်ကို အစောင့်ချလိုက်သောအခါတွင် ကျောင်းသားများသည် အဓိပတိလမ်းဖက်သို့ ပေ (၂၀) ခန့် ဆုတ်သွားပြီး ပါမောက္ခချုပ် ဦးကာ၏ စကိုဒါ စ-၆၅၉၉၊ ကျောင်းရုံးပိုင် ဘောက်စဝက်ဂွန် စ-၆၂၀၃ ကို လမ်းမပေါ်သို့ တွန်းလာပြီး မီးရှို့လိုက်ကြသည်။

ကျောင်းသားများ ပိုမိုများပြားလာပြီး ဆန္ဒပြမှု မြင့်မားလာကာ ကြွေးကြော်သံများ ပိုမိုမြင့်မားလာသည်။ ညနေ (၅) နာရီ မိနစ် (၄၀) တွင် ဒုတိယဗိုလ်မှူးကြီးသန်းစိန်က ဆူပူမှုရပ်ဆိုင်းရန် ပြောသည်။ ကျောင်းသားများ ဆက်လက်ဆန္ဒပြနေရာ ညအချိန်တွင် သေနတ်နှင့်ပစ် နှိမ်နင်းခဲ့ရာ သေဆုံးမှုများ၊ ဒဏ်ရာရမှုများ ဖြစ်ပေါ်ခဲ့သည်။ ရန်ကုန်ခရိုင် ရာဇဝတ်တရားသူကြီးက ကမာရွတ်အဝိုင်းကြီး နယ်မြေအားပုဒ်မ (၁၄၄) ထုတ်ပြန်ပြီး တက္ကသိုလ်နယ်မြေအတွင်း နေဝင်မီးငြိမ်း အမိန့်ထုတ်လိုက်သည်။

## (င) သေဆုံးသူ၊ ဒဏ်ရာရသူ၊ ပျောက်ဆုံးသူ၊ ဖမ်းဆီးခံရသူများ စာရင်း

**သေဆုံးသူများစာရင်း**

၁။ မောင်ခင်ညွန့် (ခ) ခင်မောင်ညွန့် - ဒု/နှစ်၊ (ဘီအေ)
၂။ မောင်စန်းရွှေ - အခန်း (၈၃)၊ စစ်ကိုင်းဆောင်၊ ဥပစာ အပိုင်း (ခ)
၃။ မောင်ကျော်ဝင်း - မန္တလေးဆောင်၊ ဝိဇ္ဇာ (ခ)
၄။ မောင်စိန်ဝင်း - အခန်း (၉၁)၊ တောင်ငူဆောင်၊ ဝိဇ္ဇာ (ခ)
၅။ မောင်ကျင်မိုး - ထားဝယ်ကျောင်း၊ ဗားကရာ
၆။ မောင်သန်းထွန်း - တောင်ငူကြီး
၇။ မောင်တင်ညွန့် - တက္ကသိုလ်ဝင် စာစစ်ဌာန စာရေး
၈။ မောင်စိန်ဝင်း - ထွန်း အလွတ်သင်ပညာသင်ကျောင်း
၉။ ကိုတင်ထွန်း - ပဲခူးဆောင်

**ဒဏ်ရာရသူများ**

၁။ ကိုမင်းလွင် - ပင်းယဆောင်၊ ဘီအက်စီ (ခ)
၂။ ကိုစိုးညွန့် - တကောင်းဆောင်၊ အိုင်အက်စီ (ခ)
၃။ ကိုညဏ် - ဒဂုံဆောင်၊ အိုင်အေ (ခ)
၄။ ကိုတင်လှိုင် - ပုဂံဆောင်၊ အိုင်အေ (ခ)
၅။ကိုတင်ထွန်း - တကောင်းဆောင်၊ ဘီအေ (အေ)
၆။ ကိုစိုးဝင်း - ပြည်ကျောင်းဆောင်၊ အိုင်အေ (ဘီ)
၇။ ကိုအေးကြည် - နေ့ကျောင်းသား၊ အိုင်အက်စီ (အေ)
၈။ ကိုခင်ဦး - ပင်းယဆောင်၊ ဘီအေ (ဘီ)
၉။ ကိုအောင်မင်း - နေ့ကျောင်းသား၊ ဘီအက်စီ (ဘီ)
၁၀။ ကိုထွန်းငြိမ်း - မန္တလေးဆောင်၊ ဘီအေ (ဘီ)
၁၁။ ကိုထွန်းလှိုင် - သထုံဆောင်၊ ဘီအေ (ဘီ)
၁၂။ ကိုချစ်အောင် - သထုံ (၃) လမ်း၊ ဘီအက်စီ (ဘီ)
၁၃။ ဦးဖိုးစိန် - ဓာတုဗေဒနည်းပြ
၁၄။ ကိုထွေးနိုင် - မန္တလေးဆောင်၊ ဘီအေ (ဘီ)
၁၅။ ကိုကျော်သိန်း - ဂုံလျှော်စက်အလုပ်သမား
၁၆။ မစ္စတာအာဂယီမင်၊ တံတားဖြူနေ
၁၇။ မောင်စိန်သီ - အလုပ်သမားတန်းလျား
၁၈။ ကိုစာရီလိတ် - ဥပစာ၊ သိပ္ပံ (ခ)
၁၉။ ကိုနေလင်း - ဥပစာ (က)
၂၀။ ကိုညဏ် - ဥပစာ (ခ)
၂၁။ ကိုတင်ရှိန် - ပြည်ဆောင်၊ ဝိဇ္ဇာ (က)
၂၂။ ကိုကျော်မင်း - ပဲခူးဆောင်၊ ဝိဇ္ဇာ (ခ)
၂၃။ ကိုတင်အောင် - ပဲခူးဆောင်၊ ဝိဇ္ဇာ/ ဂုဏ်ထူး
၂၄။ ကိုမြင့်လွင် - တကောင်းဆောင်၊ ဝိဇ္ဇာ (က)
၂၅။ ကိုဘသော် - ပုဂံဆောင်၊ ဥပစာ (ခ)
၂၆။ ကိုအောင်မြင့် - ပင်းယဆောင်၊ ဥပစာ (ခ)
၂၇။ ကိုဂါနပတ် - ပင်းယဆောင်၊ ဝိဇ္ဇာ/ ဂုဏ်ထူး
၂၈။ ကိုဟင်နရီ - ပင်းယဆောင်၊ ဥပစာ (က)
၂၉။ ကိုမြတ်ငြိမ်း - မန္တလေးဆောင်၊ ဝိဇ္ဇာ (က)
၃၀။ ကိုထွန်းမြင့်ဆန်နီ - ဥပစာ (က)
၃၁။ ကိုမောင်မောင်လတ် - ဥပစာ (ခ)
၃၂။ ကိုလှအောင် - ဝိဇ္ဇာတန်း
၃၃။ ကိုခင်ဦး - ဝိဇ္ဇာ (ခ)
၃၄။ ကိုမိုးစိန် - ဝိဇ္ဇာသိပ္ပံ
၃၅။ ကိုစတန်လေသောင်း - ဥပစာသိပ္ပံ (ခ)
၃၆။ ကိုသန်းငွေ - ဥပစာသိပ္ပံ (က)
၃၇။ ကိုရွှေအေး (ခ) အက်ဒဝပ်အေး - အရပ်သား
၃၈။ ကိုစိန်ဒီ - အရပ်သား
၃၉။ ကိုစိုးဝင်း - အရပ်သား
၄၀။ ကိုမြင့်သိန်း - အရပ်သား
၄၁။ ကိုစန္ဒရာတား - ရွှေဘိုဆောင်၊ မာလီမှူး
၄၂။ ဦးစိန်မောင် - လက်သမား
၄၃။ မောင်စိန်ဝင်း - စက်မှုလက်မှုကျောင်းသား
၄၄။ ကိုချစ်မောင် - စက်မှုလက်မှုကျောင်းသား
၄၅။ မမြင့်မြင့် - တက္ကသိုလ်ဝင်း၊ အရပ်သူ

၄၆။ မသန်းရင် - တက္ကသိုလ်ဝင်း၊ အရပ်သူ

**အဖမ်းဆီးခံရသူများ**

၁။ ကိုပြည်ညွန့် - တောင်ငူဆောင်၊ ဝိဇ္ဇာ (က)
၂။ ကိုတင်ငွေ - (၄၅) အာတီးယားလမ်း၊ ဥပစာ (က)
၃။ ကိုတင်ထွန်း (ခ)ကိုသန်းထိုက် ဥပစာ (က)
၄။ ကိုချစ်မောင် - အမရဆောင် ဝိဇ္ဇာ (ခ)
၅။ ကိုဝင်းကြည် - မန္တလေးဆောင် ဝိဇ္ဇာ (ခ)
၆။ ကိုထိန်ဝင်း - မန္တလေးဆောင် ဝိဇ္ဇာ (ခ)
၇။ ကိုဘရင် - သက်ကြီးတက္ကသိုလ် ဝိဇ္ဇာ သိပ္ပံ (က)
၈။ ကိုသက် (ဗကသ ဒုဥက္ကဋ္ဌ) _ ဝိဇ္ဇာဂုဏ်ထူးနောက်ဆုံးနှစ်
၉။ ကိုကြီးစိန် - ဥပစာသိပ္ပံ (က)
၁၀။ ကိုဉာဏ်ဝင်း (ရကသ အတွင်းရေးမှူး)
၁၁။ ကိုဘဆွေလေး (တကသ ဥက္ကဋ္ဌ)
၁၂။ ကိုသက်ဝင်း - ပဲခူးဆောင်၊ ဥပစာ သိပ္ပံ (ခ)
၁၃။ ကိုညီလေး (ခ) ကိုရဲအောင် - ပညာတန်ဆောင်ကျောင်း
၁၄။ ကိုစောမရ - အင်းဝဆောင် ဝိဇ္ဇာ (က)
၁၅။ ကိုချိုချို (ခ) ကိုမြသန်း - သထုံဆောင်၊ ဝိဇ္ဇာ/သိပ္ပံ (ခ)
၁၆။ ကိုမင်းအောင် (ခ) ကိုအောင်အောင် - တောင်ငူဆောင်၊ ဥပစာ (ခ)
၁၇။ ကိုထွန်းတင် - ဆေးသိပ္ပံနောက်ဆုံးနှစ်
၁၈။ ကိုခင်ထွန်း - အောက်ကြည့်မြင်တိုင်လမ်း၊

**အရပ်သား**

၁၉။ ကိုလေးခြစ် (ခ) ကိုတင်လှိုင် - အမှတ် (၇၂) လှိုင်မြစ်လမ်း၊ အရပ်သား
၂၀။ ကိုတင်အေး - တောင်ငူဆောင်
၂၁။ ကိုဝင်းကြည် - မန္တလေးဆောင်
စာရင်းမပြနိုင်သူ၊ ပျောက်ဆုံးသူ ကျောင်းသား (၄၀) ပါဝင်သည်။

## (ဇ) တကသ အဆောက်အဦကြီး ဖြိုခွဲခြင်း

၁၉၆၂ ခုနှစ်၊ ဇူလိုင်လ (၈) ရက် နံနက် (၆) နာရီတွင် တက္ကသိုလ်သမဂ္ဂ အဆောက်အဦကို ဒိုင်းနမိုက်ဖြင့် ဖြိုခွဲပစ်လိုက်လေသည်။ နယ်ချဲ့ဆန့်ကျင်ရေး၊ ဖက်ဆစ်ဆန့်ကျင်ရေး၊ အမျိုးသားလွတ်မြောက်ရေး သမိုင်းမှတ်တိုင်ကြီးဖြစ်သော ရန်ကုန်တက္ကသိုလ်သမဂ္ဂ အဆောက်အဦကြီးကို မိုက်မဲစွာဖြိုခွဲလိုက်သည်။ ထိုမျှနှင့် မရပ်သေးဘဲ တာဝန်အရှိဆုံး ပုဂ္ဂိုလ်ဖြစ်သော တော်လှန်ရေးကောင်စီ ဥက္ကဋ္ဌ ဗိုလ်ချုပ်ကြီးနေဝင်းက ၎င်းအဆောက်အဦမှာ ကျောင်းသားများအလွဲသုံးစားလုပ်ကာ ကျောင်းအာဏာပိုင်နှင့် အစိုးရကို ပုန်ကန်လှုံ့ဆော်သည့် အဆောက်အဦ ဖြစ်လာကြောင်းနှင့် မြေအောက်သူပုန်များ လျှို့ဝှက်ဆက်သွယ်ရာ ဌာနချုပ်ကြီးဖြစ်၍ ကြာရှည်ခွင့်မပြုနိုင်သဖြင့် ဖြိုခွဲလိုက်ရကြောင်း၊ ဓား ဓားခြင်း၊ လှံ လှံခြင်းဟု ပြောဆိုသွားလေသည်။

သို့သော် တကသသည် လည်းကောင်း၊ ဗကသသည် လည်းကောင်း မသေဆုံး၊ အဖြိုမခွဲခံရပေ။ ကျောင်းသားသမိုင်းသည် ဆက်လက်ထွန်းပြောင်နေမည်။ ကျောင်းသားလှုပ်ရှားမှုသည် ဆက်လက်ရှင်သန်နေမည်သာဖြစ်သည်။ အမှန်တရားသည် မည်သောအခါမျှ ဖုံးကွယ်၍ မရပေ။ ထာဝရ တည်မြဲနေသော အမှန်တရားအတွက် အမှန်တရားဘက်တော်သားများက ဆက်လက် လျှောက်နေကြဦးမည်။

အမှန်တရားကို ဆန့်ကျင်သူများလည်းရှိနေဦးမည်။ ကျောင်းသားနှင့် ကျောင်းများသည်လည်း ဆက်လက်ရှိနေဦးမည်။ ■

**အောင်ထွန်းရေးသားပြုစုခဲ့သည့် မြန်မာနိုင်ငံကျောင်းသားလှုပ်ရှားမှု သမိုင်း အခန်း (၂၅) မှ ကူးယူဖော်ပြသည်။**

# ဥဒါန်းမကြေ

■ အမည်မသိ

အပြစ်ချပြီးပြီကြားလို့ မိသားစုတွေ သွားမေးတော့လည်း "အမ်အိုင်က ကိုင်ထားတယ်။ တွေ့ခွင့်မရှိသေးဘူး။" ဆိုပြီး ထောင်အာဏာပိုင်တွေက ပြောလွှတ်ပြန်ရော။

ဒီလိုနည်းနဲ့ ထောင်ဝင်စာ ပစ္စည်းလေးတွေကိုင်ပြီး နာကျင်တဲ့ နာကျည်းတဲ့ ခံစားချက်တွေနဲ့ အိမ်ပြန်ခဲ့ကြရတဲ့ မိသားစုတွေ မနည်းလှပါပကော။

ဒီအမှုမှာ ထောင်ဒဏ်ချမှတ်ခံရတဲ့ သူတွေကတော့ ပုဒ်မ ၁၇/၁၊ ၁၇/၂၊ ၅(ည) တွေနဲ့

၁။ ကိုအောင်ထွန်း - ၁၇ နှစ်
၂။ ကိုလှရွှေ - ၁၄ နှစ်
၃။ သခင်အုန်းမြင့် - ၇ နှစ်
၄။ ကိုသာဘန်း - ၇ နှစ်
၅။ ကိုတင်အေး - ၇ နှစ်
၆။ ဒေါက်တာမောင်မောင်ကျော် - ၇ နှစ်
၇။ ကိုခွန်ဆိုင်း - ၇ နှစ်
၈။ ခင်မိုးအေး - ၇ နှစ်
၉။ စုစုဝင်း - ၇ နှစ်
၁၀။ ရီရီထွန်း - ၇ နှစ်
၁၁။ ကိုအေးနိုင် "စာကူးစက်" - ၁၇ နှစ်
၁၂။ ကိုမင်းသူ (ခေတ်ပုံမှတ်တမ်း) - ၁၄ နှစ် တို့ဖြစ်ပါတယ်။

ဖော်ပြပါသူတွေထဲ ကျနော်မှတ်မှတ်ရရဖော်ပြချင်တာက "ကိုလှရွှေ။"

တချို့က သူ့ကို "အာဏာရှင် ကိုလှရွှေ" နဲ့ မှားမြင်ကြသည်။ အာဏာရှင် ကိုလှရွှေဆိုတာက ၁၉၃၈ ခုနှစ် ဒီဇင်ဘာ (၁၃၀၀ ပြည့် အရေးတော်ပုံကာလ) ဗိုလ်အောင်ကျော်တို့နဲ့ တိုက်ပွဲဝင်ခဲ့သူ၊ နောက်ဂျပန်တော်လှန်ရေး အတွင်းက လေယာဉ်ပျက်ကျပြီး သေဆုံးခဲ့သူ၊ ဒီကိုလှရွှေက နောက်တစ်ယောက်။

(၁)

ဘဝဆိုတာ ကုန်းခံရုံ သက်သက်မဟုတ်ဘဲ ရုန်းကန်ရမယ်လို့ နားလည်သူ၊ ဘဝက သူ့ကို နာခံမလား၊ အာခံမလားလို့ စိန်ခေါ်တဲ့အခါ ဘဝကိုအာခံရင် တန်ဖိုးတမျိုးမျိုးပေးရမယ်ဆိုတာ သိလျက်အာခံသူ၊ ပေးဆပ်ရတာများလို့ ရမှာတွေများမှ ဖြစ်မယ်လို့ ယုံကြည်ထားသူ၊ ၁၉၃၇-၁၉၄၅ ကျေးလက်ဆင်းရဲသားလေးဘဝ၊ ၁၉၄၅-၁၉၅၇ မိနေဆင်းရဲသား၊ ၁၉၅၇-၁၉၆၂ တက္ကသိုလ်ကျောင်းသား၊ တကသ ခေါင်းဆောင်နဲ့ အလွတ်ပညာသင် ကျောင်းဆရာဘဝ၊ ၁၉၆၂ ကနေ ယနေ့အထိ ကျောင်းဆရာ၊ ပုဂ္ဂလိက လုပ်ငန်းရှင်လေး၊ နိုင်ငံရေးသမား၊ လက်နက်ကိုင်တော်လှန်ရေးသမား၊ စစ်အာဏာရှင်စနစ် ဆန့်ကျင်ရေးတိုက်ပွဲစဉ်တလျှောက်လုံးမှာ ဒီမိုကရက်တစ်အင်အားစုအဖြစ်နဲ့ ပါဝင်ခဲ့လို့ မကြာခဏထောင်ချခံခဲ့ရပြီး ထောင်သက်အများဆုံး တန်းစီဇယားမှာ ရှေ့တန်းကပါနေတဲ့ အကျဉ်းသားဘဝ၊ အဲဒီလို ကြမ်းတမ်းကွေ့ကောက်နဲ့ ခက်ခဲတဲ့ တည်ငြိမ်ခြင်း၊ အေးချမ်းငြိမ်သက်ခြင်း ကင်းမဲ့လွန်းတဲ့ အလှုပ်အရှား အရုန်းအကန်များနဲ့ ပွန်းတီးလွန်းတဲ့ ဘဝအမျိုးမျိုးကို ဖြတ်သန်းခဲ့၊ ဖြတ်သန်းနေဆဲသူ ကိုလှရွှေ။

အရုပ်ပြတ်ပြတ်၊ အသားလတ်လတ်၊ ကတုံးဆံတောက် (ဗိုလ်အောင်ကျော်) ကေကိုပဲ နှစ်ခြိုက်သူ၊ လေ့လာအား ကောင်းသလောက် ပြောဆိုဆွေးနွေးအားကောင်းသူ၊ အသံသြဇာကောင်းပြီး သီချင်းအဆိုလည်းကောင်းသူ၊ သူနဲ့ ကျနော်ဟာ ၁၉၈၀ ပြည့်လွန်နှစ် မြေအောက်နိုင်ငံရေးလှုပ်ရှားမှုများမှာ အတူလက်တွဲလုပ်ကိုင်ခဲ့လို့ ၁၉၈၂ မှာ အမှုတတွဲတည်း ထောင်ကျခဲ့သူ။ အင်းစိန်ထောင် တိုက်ခန်းအတွင်းမှာလည်း တခန်းထဲ နေခဲ့ကြရတာဆိုတော့ သူနဲ့ ကျ

နော်ဟာ နိုင်ငံရေးသာမက ပုဂ္ဂိုလ်ရေး၊ မိသားစုရေးပါ သံယောဇဉ် ကြီးမားကြတယ်။

ဒါကြောင့် အခုလိုအခါမျိုးမှာ သူရဲ့ နိုင်ငံရေး၊ ပုဂ္ဂိုလ်ရေးဖြတ်သန်းမှုများကို တစိတ်တပိုင်း ကောင်းကြောင်းမျှ ဆွဲပြလိုက်ပါတယ်။

ကိုလှရွှေ-ဖျာပုံခရိုင်၊ ဘိုကလေးမြို့နယ်၊ ကျီးပင်စုရွာဇာတိ။ ၁၂၉၉ ခု၊ တန်ဆောင်းမုန်းလဆန်း ၂ ရက်၊ ၁၉၃၇ ခု၊ နိုဝင်ဘာ ၁၄ ရက်။ အဖ ဦးချစ်ညွှန့်၊ အမိ ဒေါ်ကြွ။ ဘိုကလေးမြို့ မြို့မဗွာရုံ မူလတန်းကျောင်းမှာ ပညာစတင်သင်ကြားခဲ့။ ဘိုကလေးမြို့ အထက်တန်းကျောင်း၊ ရန်ကုန်မြို့ ကြည့်မြင်တိုင် အနောက်တန်း အလွတ်ပညာသင်ကျောင်းတို့တွင် ဆက်လက်ပညာသင်ကြား။

၁၉၅၇ ဆယ်တန်းအောင်၊ ၁၉၅၇-၁၉၅၈၊ ရန်ကုန်တက္ကသိုလ် ထီးတန်းကောလိပ်၊ ၁၉၆၂ မတ်လ ဘီအေ (ဝိဇ္ဇာဘွဲ့ရ) ဘီအယ်(လ်) ဥပဒေသင်တန်းတက်။ အိပ်(ဂျ်) ဂျီပီ (အထက်တန်းရှေ့နေ ဖြေဆိုအောင်မြင်ခဲ့) ၁၉၅၅-၁၉၅၆ ဖျာပုံခရိုင်၊ ဘိုကလေးမြို့နယ် ကျောင်းသားသမဂ္ဂ အထွေထွေအတွင်းရေးမှူး၊ ၁၉၆၀ (၆) ကြိမ်မြောက် ဗကသ များအဖွဲ့ချုပ် ညီလာခံကြီးမှ အတွင်းရေးမှူးအဖြစ် ရွေးချယ်ခံရ။

၁၉၅၈-၁၉၆၂ ခုနှစ်အတွင်း

(၁) ရန်ကုန်တက္ကသိုလ်ကျောင်းသားညီညွတ်ရေးတပ်ဦးကောင်စီဝင်၊

(၂) ရန်ကုန်တက္ကသိုလ် မန္တလေးဆောင် သဟာယနှင့် စာဖတ်အသင်း အတွင်းရေးမှူး၊

(၃) ရန်ကုန်တက္ကသိုလ် မန္တလေးဆောင် သဟာယနှင့် အထွေထွေအတွင်းရေးမှူး

(၄) ရန်ကုန်တက္ကသိုလ် မန္တလေးဆောင် သဟာယနှင့် ဥက္ကဋ္ဌ

(၅) ရန်ကုန်တက္ကသိုလ် ကျောင်းသားညီညွတ်ရေးတပ်ဦး အထွေထွေအတွင်းရေးမှူး

(၆) ရန်ကုန်တက္ကသိုလ် သဟာယနှင့် စာဖတ်အသင်းများ အဖွဲ့ချုပ် အထွေထွေအတွင်းရေးမှူး

(၇) ရန်ကုန်တက္ကသိုလ် ကျောင်းဆောင်ကော်မတီ (တကသ ကိုယ်စားလှယ်)

(၈) ရန်ကုန်တက္ကသိုလ်ကျောင်းသားများသမဂ္ဂ အမှုဆောင်အဖွဲ့ဝင် တကသ အိုးဝေမဂ္ဂဇင်း တာဝန်ခံ

၁၉၅၈-၁၉၆၃ ခုနှစ်အတွင်း အောက်ပါ ကျောင်းများတွင် အထက်တန်းပြဆရာအဖြစ် ဆောင်ရွက်ခဲ့

လူငယ်သိပ္ပံကျောင်း (စံရိပ်ငြိမ်၊ ကမာရွတ်)၊ ဝင်းပညာရိပ်သာ (သာကေတ) ကျားစံပြ ပရဟိတ အလွတ်ပညာသင်ကျောင်း (ကမာရွတ်) ရန်ကုန် အထက်တန်းကျောင်း ၂၇ လမ်း၊ ဤသို့ ကျောင်းသားထုနှင့် ပြည်သူလူထုအကျိုးစီးပွားဘက်မှ ရပ်တည်လျက် ကျောင်းသားအခွင့်အရေး၊ အမျိုးသားပညာရေး၊ ငြိမ်းချမ်းစွာ ပညာသင်ကြားရေး၊ ဒီမိုကရေစီရေး၊ အခြေခံလူ့အခွင့်အရေးနှင့် ပြည်တွင်းငြိမ်းချမ်းရေး လှုပ်ရှားမှုများမှာ တက်ကြွစွာပါဝင်ဆောင်ရွက်ခဲ့တဲ့အတွက် မဆလပါတီ တော်လှန်ရေးကောင်စီအစိုးရက လိုက်လံဖမ်းဆီးခဲ့လို့ တိမ်းရှောင်ပြီး တောတွင်းရောက်ခဲ့။ ဗမာပြည်ကွန်မြူနစ်တွင် (၇) နှစ်မျှ လက်နက်ကိုင် တော်လှန်ရေးဆင်နွှဲခဲ့။ ၁၉၇၀ နှစ်ကုန်တွင် မြို့ပေါ်ပြန်ရောက်ပြီး မွေးမြူရေးလုပ်ငန်း လုပ်ကိုင်ခဲ့။

ဒီမိုကရေစီ အမှောင်ကျနေတဲ့အတွက် ဆက်လက်တိုက်ပွဲဝင်ခဲ့ပြီး ၁၉၈၂ ခုနှစ် မတ်လမှာ မဆလ အာဏာပိုင်များရဲ့ ဖမ်းဆီးမှုကိုခံရပြီး ထောင်ဒဏ် ၂ နှစ်ချခံခဲ့။ ၁၉၈၆ ခုနှစ်တွင်ထပ်မံထိန်းသိမ်းခံရပြီး ၂ နှစ်မျှကြာခဲ့။ ၁၉၈၈ ခုနှစ် ရှစ်လေးလုံး အရေးတော်ပုံအတွင်း ပြန်လည်လွတ်မြောက်ခဲ့။ ၁၉၈၈ ခုနှစ် ကျောင်းသားများ ဦးဆောင်ဆင်နွှဲခဲ့တဲ့ ၁၃၅၀ ပြည့်နှစ် ဒီမိုကရေစီအရေးတော်ပုံကြီးမှာ စစ်ပြီးခေတ်နှင့် လွတ်လပ်ရေးခေတ် ကျောင်းသားခေါင်းဆောင်ဟောင်းများအဖွဲ့တွင် ပါဝင်လှုပ်ရှားဆောင်ရွက်ခဲ့။ ၁၉၈၈ ခုနှစ် ဩဂုတ်လ ၂၈ ရက် ရန်ကုန်တက္ကသိုလ် သမဂ္ဂအားကစားရုံရှေ့ မြက်ခင်းပြင်တွင် ကျင်းပခဲ့သော ဗကသများအဖွဲ့ချုပ် ပြန်လည်ဖွဲ့စည်းခြင်း၊ ကျောင်းသားထု အစည်းအဝေး အခမ်းအနားတွင် တက်ရောက်မိန့်ခွန်းပြောကြားခဲ့။

၁၉၈၉ ခုနှစ်တွင် ပြည်သူတိုးတက်ရေးပါတီ ပြန်လည်ဖွဲ့စည်းပြီး အထွေထွေအတွင်းရေးမှူး တာဝန်ကိုထမ်းဆောင်ခဲ့။ ၁၉၈၉ ခုနှစ်တွင် လူမျိုးစုများနှင့် ဒီ

မိုကရေစီအင်အားစုများ ဖွဲ့စည်းထားသည့် ဒီမိုကရေစီ မဟာမိတ်များအဖွဲ့ချုပ် (ဒမဖ) တွင် တာဝန်ပေးခြင်း ခံရ။

၁၉၉၈ ခုနှစ် ဖေဖော်ဝါရီလ (၂၁) ရက်နေ့ တွင် မြန်မာနိုင်ငံကျောင်းသားလှုပ်ရှားမှုသမိုင်း စာအုပ် ရေးသားထုတ်ဝေနိုင်ရေး ကူညီပံ့ပိုးပေးမှုအတွက် စစ်အစိုးရက ထပ်မံဖမ်းဆီးပြီး ထောင်ဒဏ် (၁၄) နှစ် ကျခံနေရဆဲ။ ယခု သရက်ထောင်မှာရှိ။

၁၉၅၅-၁၉၅၆ ခုနှစ် ဗကသ နှင့် တကသ တို့မှ ကြီးမှူးကျင်းပသော ဗမာနိုင်ငံလုံးဆိုင်ရာ ကျောင်းသားများ နီးနှောဖလှယ်ပွဲ၊ ၁၉၅၉-၁၉၆၀ ခုနှစ် တန်းခွဲတန်းချစနစ် ဆန့်ကျင်ရေးတိုက်ပွဲနှင့် (၃၆) နာရီ အစာငတ်ခံဆန္ဒပြပွဲ။ ၁၉၆၀- ၁၉၆၁ ခုနှစ် ကမောက်ကမပညာရေးစနစ် ဆန့်ကျင်လှုပ်ရှားမှု။ ၁၉၆၂ ခုနှစ် သမိုင်းဝင် ဇူလိုင်အရေးတော်ပုံ။ ၁၉၆၃ ခုနှစ် ပြည်တွင်းစစ် ဆန့်ကျင်ရေး ၆ ခရိုင် ပြည်တွင်းငြိမ်းချမ်းရေး လူထုဆန္ဒပြပွဲများတွင် ပါဝင်လှုပ်ရှားခဲ့။

(၄)

ဖော်ပြပြီးခဲ့တဲ့ သူ့ရဲ့ နိုင်ငံရေးလှုပ်ရှားမှုတွေကို လေ့လာကြည့်ရင် တကသနဲ့ သူ့ရဲ့ ဆက်စပ်မှုကို ချင့်တွက်နိုင်ပါတယ်။ သူဟာ ၁၉၅၇ ခုနှစ် ထီးတန်းကောလိပ်ကို ရောက်တာနဲ့ သူ့ရဲ့ တကသ လှုပ်ရှားမှုထဲမှာ နှစ်ပြီးပါဝင်လိုက်တယ်။ စာမေးပွဲတွေ ဆက်တိုက်ကျသွားတယ်။ ဒုတိယနှစ် ဒုတိယအကြိမ် စစ်တဲ့စာမေးပွဲ ဆက်ကျရင် သုံးခါကျ ကျောင်းထုတ်စနစ်ထိတော့မယ်။ ကျောင်းထုတ်ခံရတယ်။ မိဘကို ဒုက္ခမပေးချင်တာနဲ့ ကျောင်းစရိတ်ကို ကိုယ်ဘာသာဖြစ်အောင်ရှာပြီး ကျောင်းနေဖို့ ဆုံးဖြတ်လိုက်တယ်။ ဒုတိယနှစ် သူပဲခူးကျောင်းဆောင်မှာ နေပါတယ်။ ပြည်ထောင်စုမြန်မာနိုင်ငံ လေကြောင်းဌာန (UBA) Union of Burma Airway မှာ အောက်တန်းစာရေးအလုပ်နဲ့ ညဘက်အလွတ် ပညာသင်ကျောင်းမှာ အလယ်တန်းပြဆရာ ဝင်လုပ်ခဲ့တယ်။

၁၉၅၉ နှင့် ၁၉၆၀ ခုနှစ် မှာ တကသ အလုပ်အမှုဆောင်အဖွဲ့က သူတို့ကို တကသ ဆိုင်ရာ တာဝန်ခံ အရောင်းစာရေးအလုပ်ကို စီစဉ်ပေးပါတယ်။ ကျောင်းစရိတ်ရဖို့ပါ။ ကျောင်းဆရာလုပ်ပြီး ၁၉၆၁ နှင့် ၁၉၆၂ ခုနှစ် ဝိဇ္ဇာတန်းအောင်တဲ့အထိ သူ့ချွေးနည်းစာနဲ့ ပညာသင်ခဲ့တယ်။

သူတက္ကသိုလ်တက်နေဆဲ နှစ်ပိုင်းများ အတွင်းမှာ အိမ်မပြန်တဲ့နှစ်က များတယ်။ နွေရာသီ ကျောင်းပိတ်ရက်တွေမှာ တကသမှာပဲ ဖြစ်သလိုနေစားခဲ့တယ်။ တကသဟာ သူ့အတွက်အိမ်ဖြစ်လာတယ်။ တကသအဝန်းအဝိုင်းဟာလည်း သူ့အတွက် မိသားစုလို ဖြစ်လာခဲ့တယ်။ သူ့အနေနဲ့လည်း ကျောင်းသားလှုပ်ရှားမှုထဲမှာ တိုးတိုးပြီး နှစ်မြှုပ်ပါဝင်လာနေခဲ့တယ်။ ၁၉၅၆ ခုနှစ်ကစပြီး ဗမာပြည်မှာ နိုင်ငံရေးအပြောင်းအလဲတွေ ပိုပြီးဖြစ်ပေါ်လာခဲ့တယ်။ ပိုပြီး ရှုပ်ထွေးပြင်းထန်တဲ့ လားရာကို ရေးရှုဖြစ်ပေါ်လာနေခဲ့တယ်။ တကယ်တော့ ကျောင်းသားလှုပ်ရှားမှုဟာလည်း ဒီဖြစ်စဉ် အစိတ်အပိုင်းတွေအဖြစ် ပါဝင်နေခဲ့တာပါပဲ။

သူနေခဲ့တဲ့ မန္တလေးဆောင်ဟာ တကသ အဆောက်အဦနဲ့ မျက်နှာချင်းဆိုင်မို့ ကျောင်းဆင်းချိန်ကလွဲရင် သူဟာ တကသမှာ နေတာများပါတယ်။ တကသဟာ တက္ကသိုလ်မှာရှိတဲ့ မကသ၊ တကသတပ်ဦး၊ ရကသ စတဲ့ ကျောင်းသားသမဂ္ဂကြီးတွေ အခြေစိုက်နေရာပါ။ တက္ကသိုလ်မှာရှိတဲ့ အခြားအသင်းအဖွဲ့ အစည်းမှန်သမျှ ရုံးလုပ်ငန်းကိုလည်း တက္ကသိုလ်သမဂ္ဂရုံးကပဲ တယ်လီဖုန်း၊ လက်နှိပ်စက်၊ စာကူးစက်၊ စာရေးအားလုံး အသင့်ရှိတာပေါ့။ သမဂ္ဂအဖွဲ့ဝင်တွေ၊ တပ်ဦးအမာခံတွေ၊ သမဂ္ဂအမှုဆောင်တွေက တကသမှာရှိတဲ့ အလုပ်မှန်သမျှအားလုံး ဝိုင်းလုပ်ပေးကြပါတယ်။ အဲဒီအထဲမှာသူဟာ အမာခံတစ်ယောက်အဖြစ် အမြဲရှိနေတာပါ။ ဒါတွေဟာ သူ့ရဲ့ တကသ လှုပ်ရှားမှု တစိတ်တပိုင်းကို ဖော်ပြခဲ့တာပါ။

(၅)

ဆက်ပြီးတော့ သူ့ရဲ့အိမ်ထောင်ရေးဖြတ်သန်းမှုကို ကောက်ကြောင်းခြစ်ကြည့်ပါစို့။ ၁၉၆၂ ခုနှစ်မှာ သူ့ရဲ့ အိမ်ထောင်ဦးကာလို့ ဆိုရမှာပဲ။ အရာအားလုံးကို အံတုစိန်ခေါ်ပြီး သူတို့ပျိုးထောင်လိုက်တဲ့ ပျိုးပင်လေးတွေဟာ ခိုင်ခိုင်မာမာ အမြစ်မစွဲမီ လုံလောက်တဲ့ ရေ-နေ-လေ အလင်းမရမီ ပျိုးထောင်စဉ်မှာပဲ ဇူလိုင်လ (၇) ရက်




၆၂ ကျောင်းသားခေါင်းဆောင် ဦးလှရွှေ

မုန်တိုင်းကြောင့် ယိုင်နဲ့ပြိုလဲ သွားခဲ့ရပါတယ်။ နုနယ် လှသေးတဲ့ သူတို့ရဲ့ ပုဂ္ဂလိကဘဝဖြစ်တည်စ၊ သူတို့ရဲ့ အိမ်ထောင်မှုဘဝလေးဟာ ဒီကြမ်းတမ်းပြင်းထန်လှ တဲ့ (၇) ရက် ဇူလိုင် မုန်တိုင်းမှာ တစစီ၊ တဖွဲ့စီ လွင့်စင် သွားခဲ့ရတယ်။ လောကဟာ ကျောမချခင်ကတည်းက သောကဆိုတာ မုန်းထားတာထက် ခက်ထန်ကြမ်းတမ်း တယ်ဆိုတာ မသိချင်သေးဘဲနဲ့ သိရှိလိုက်ကြ၊ နားမ လည်ချင်သေးပေမဲ့လည်း နားလည်လိုက်ကြရတယ်။ သူတို့ရဲ့ မိသားစုဘဝကို အခုလိုအစပျိုးခဲ့ကြတယ်။ ၁၉၅၉ ခုနှစ် ဇွန် ကျောင်းဖွင့်စမှာ ကျင်းပခဲ့တဲ့ ရန်ကုန် တက္ကသိုလ်ကျောင်းသားညီညွတ်ရေးတပ်ဦးရဲ့ တက်ကြွ သူများ အစည်းအဝေးတစ်ခုမှာ သူနဲ့ မခင်မာအေးတို့ စတင်သိကျွမ်းခဲ့တယ်။ အစည်းအဝေးတက်ရောက်သူ များ မှတ်တမ်းကို ရှေ့နောက်ရေးထိုးကြရင်း တဦး နဲ့တဦး သိသွားခဲ့ကြတာ။ ခင်မာအေး - သီရိဆောင်၊ အခန်း ၆။ ဒါတကယ့်အဖြစ်ပါ။ စိတ်ကူးယဉ်ဇာတ်လမ်း မဟုတ်ပါဘူး။

၁၉၅၉-၁၉၆၀ ခုနှစ် စာသင်နှစ်မှာ မခင် မာအေးက သီရိဆောင် သဟာယနဲ့စာဖတ်အသင်း အထွေထွေအတွင်းရေးမှူး ဖြစ်နေပါတယ်။ တကသ လုပ်ငန်းတွေနဲ့ အဆောင်လုပ်ငန်း အစည်းအဝေးတွေ မှာ သူတို့နှစ်ယောက် အမြဲလိုဆုံကြ၊ ပိုပြီးတော့ ခင်မင် ရင်းနှီးလာကြ၊ အခြားတက်ကြွတဲ့ အဆောင်ကျောင်းသူ တွေနဲ့လည်း သိရှိရင်းနှီးခင်မင်လာခဲ့ကြတယ်။ တဦး ကိစ္စလေးတွေ တဦးက အပြန်အလှန် ကူညီကြ။ နွေ ကျောင်းပိတ်တဲ့အခါတွေမှာ စာတွေအပြန်အလှန် ရေးကြ အမှတ်တရ လက်ဆောင်ပစ္စည်းလေးတွေ အပြန်အလှန်ပေးပို့ကြ၊ ဇွန်လကျောင်းပြန်ဖွင့်လို့ ပြန်ဆုံ ကြတဲ့အခါ ကိုယ့်ဒေသထွက် လက်ဆောင်ပစ္စည်းလေး တွေ အပြန်အလှန်ပေးကြ။

ဩော် ဒီကျောင်းသားသမဂ္ဂကြီးတွေရှိစဉ်က ကျောင်းသူကျောင်းသားတွေရဲ့ ချစ်ကြည်နွေးထွေးမှု တွေပါလား။ လွန်ခဲ့တဲ့ အနှစ်လေးဆယ်ကျော်က ဖြစ်စဉ် တွေနဲ့ ဒီနေ့အဖြစ်အပျက်တွေနှိုင်းယှဉ် ခံစားကြည့် လိုက်တော့ ရွှေပုံထိုးနဲ့ အပုံကြီး ကွာသွားပါပြီကော။

ဒီလိုနဲ့ ကိုလှရွှေနဲ့ မခင်မာအေးတို့ဟာ သမဂ္ဂ အစည်းအဝေးတွေ ကျောင်းသားလှုပ်ရှားမှုတွေ၊ သမဂ္ဂ လုပ်ငန်းတွေ၊ အသင်းအဖွဲ့လုပ်ငန်းတွေ၊ ကျောင်းသား ပွဲတော်တွေ၊ အားကစားပွဲတော်တွေ၊ အထိမ်းအမှတ် နေ့တွေ၊ ညစာစားပွဲတော်တွေ၊မိတ်ဆုံစားပွဲ၊ မောင်နှမ ဆောင်မိတ်ဆုံစားပွဲ စတဲ့ ပျော်ပွဲရွှင်ပွဲတွေမှာ သမဂ္ဂ က ဦးစီးကျင်းပတဲ့ စာပေအနုပညာ ဆွေးနွေးပွဲတွေမှာ အတူလုပ်ငန်းတာဝန်ထမ်းဆောင်ရင်း ပိုမိုရင်းနှီး ခင်မင် လာကြ၊ တစ်ဦးအကြောင်းတစ်ဦး ပိုမိုသိရှိ နားလည်ကြ၊

ချစ်ချစ်ခင်ခင် စာစာနာနာ ဖြစ်လာခဲ့ကြတယ်။

အဆိုတော် တွံတေးသိန်းတန်ရဲ့ "ချစ်ရက်ရှည်ရှည် အင်းယားမြေ" ထဲက "ကျောင်းဖွင့်ချိန် စိန်ပန်းတွေလည်း မြေမှာကြဲပြန့်နေ ကံ့ကော်ပန်းတွေနဲ့အတူ သူနဲ့တွေ့ရာမြေ တက္ကသိုလ် သို့မဟုတ် မြကျွန်းသာ အင်းယားကန်သာမြေလေ" လို့ သူတို့ နှစ်ဦးလုံးရင်ထဲမှာတော့ အတွေးကိုယ်စီ ရှိနေခဲ့ကြမှာ အမှန်ပါ။

မခင်မာအေးဆိုတာ ရိုးရိုးအေးအေးနေတတ်၊ စိတ်ရှည်သီးခံတတ်၊ တဖက်သားကို ကူညီစာနာတတ်၊ တက္ကသိုလ်ကျောင်းသူတွေမှာ တွေ့ရလေ့ရှိတဲ့ တက္ကသိုလ်ကျောင်းသူစရိုက်ဟန်ပန်၊ မိန်းမဆန်လွန်းတဲ့ စရိုက်ဟန်ပန်တွေမရှိတဲ့သူ၊ အနစ်နာခံသူ၊ နောက်တောင်ငူ စီရင်စု ဒို့ဗမာအစည်းအရုံးခေါင်းဆောင် သခင်ဘသောင်းရဲ့သမီး။ နိုင်ငံရေးစိတ်ဝင်စားတယ်။ စာပေတွေ လေ့လာတယ်။ တိုးတက်တဲ့ စာပေတွေလေ့လာနေသူတဦးဖြစ်တယ်။ ကိုလှရွှေဆိုတာကလည်း တလျှောက်လုံး ကျောင်းသားလှုပ်ရှားမှုတွေ သမဂ္ဂလုပ်ငန်းတွေမှာ ဘဝကို နှစ်မြှုပ်ထားသူ ကိုယ်တိုင်လည်း တိုးတက်တဲ့စာပေတွေလေ့လာနေသူ။ ဒီတော့ သူတို့နှစ်ဦးကြားမှာရှိတဲ့ အခြေအနေအကြောင်းတွေက သူတို့နှစ်ဦးရဲ့ ဆက်ဆံရေးကို အပြောင်းအလဲဖြစ်ဖို့ နှိုးဆော်မှု ပြုခဲ့တယ်။

ဒီတော့ သူတို့နှစ်ဦး လေ့လာခဲ့ကြတဲ့ တိုးတက်တဲ့စာပေအမြင်အရဆိုရင် အရေအတွက်မှ အရည်အချင်းသို့ပြောင်းလဲခြင်းပါပဲ။ "မိတ်ဆွေ အပေါင်းအသင်းဖြစ်သွားကြတာတွေ စိတ်နေရင်းပြောင်းချစ်သွားကြတာတွေဟာ တကယ်တော့ မဆန်းပေ" ဆိုသလိုပေါ့။ သူတို့ နှစ်ဦးဟာ ဆင်းရဲချို့ငဲ့တဲ့ ဘဝလည်းတူကြ၊ ယုံကြည်ချက်ချင်းလည်းတူ၊ ပုဂ္ဂိုလ်အလေ့စရိုက် စိတ်နေစိတ်ထားတွေလည်းတူကြ၊ နောက်ဆုံးတော့ ၁၉၆၀ ခုနှစ်ထဲမှာ သူတို့နှစ်ဦး ကြည်နူးချစ်ခင်၊ ဖြစ်စင်သဒ္ဒါ မေတ္တာလမ်းဖောက် လမ်းဆုံးရောက်အောင် လျှောက်သွားနိုင်ဖို့ အပြန်အလှန် နားလည်မှု တည်ဆောက်နိုင်ခဲ့ကြတယ်။

ကိုလှရွှေ ကျောင်းသားဘဝက သူ့အဖေ ပို့ပေးနိုင်တဲ့ကျောင်းစရိတ်က ၈၀-၈၅ ကျပ်၊ အများဆုံး တခါတရံ ၉၀ ကျပ် (အဆောင်ခ ၁၄ ကျပ်၊ အစား ၄၂ ကျပ်၊ တကာသ ရုံပုံငွေ ၁ ကျပ်၊ ကျောင်းလခ ၁၅ ကျပ်၊ စုစုပေါင်း ၇၂ ကျပ်။ ဒီတော့ သူ့အတွက် အထွေထွေသုံးဖို့ ၂၀ ကျပ်ပြည့်အောင်တောင် မကျန်ပါဘူး။ ဒီငွေနဲ့ သူဟာ တက္ကသိုလ်ကျောင်းသားဖြစ်အောင်နေခဲ့တယ်။ တက္ကသိုလ်ကျောင်းသားတွေမှာ ရှိကြတဲ့ ဘယ်လိုအဆောင်အယောင်မျိုးမှ မရှိနိုင်ခဲ့ပါဘူး။

ချစ်သူများနေ့ဆိုတာ ဘာလဲလို့ သူတို့နှစ်ဦးသိချင်မှ သိကြမှာပါ။ ဒါပေမဲ့ မခင်မာအေးက ကိုလှရွှေကို တိုက်ပုံ (ပင်နီ) အင်္ကျီတထည် ချစ်သက်လက်ဆောင်အဖြစ်ပေးခဲ့တယ်။ သမဂ္ဂခေါင်းဆောင်တဦးမှာ ဝတ်စရာတိုက်ပုံအင်္ကျီကောင်းကောင်း တထည်တောင်မရှိခဲ့ဘူး။ ကိုလှရွှေကလည်း မြတ်မြတ်နိုးနိုးနဲ့ လက်ခံသိမ်းထားခဲ့တယ်။

(၆)

၁၉၆၁-၁၉၆၂ ပညာသင်နှစ်မှာ သူတို့နှစ်ဦး ဝိဇ္ဇာတန်းအောင်ခဲ့ကြတယ်။ အရွယ်လည်းရောက်သင့်သလောက်ရောက်ကြ။ ကိုလှရွှေ ၂၅ နှစ်။ မခင်မာအေး ၂၃ နှစ်။ ကျောင်းလည်းပြီးကြပြီ။ ကိုလှရွှေကလည်း အခြေကျတဲ့ ကျောင်းသားဘဝ ရောက်သင့်သလောက် ရောက်ကြပြီဆိုတော့ သူတို့နှစ်ဦး အိုးအိမ်ထူထောင်ဖို့ သဘောတူခဲ့ကြတယ်။ လူကြီး သဘောတူညီချက်ရယူပြီး (၅-၇-၆၂) ခုနှစ် ဇူလိုင်လ ၅ ရက်နေ့မှာ သူတို့ အိုးအိမ်ထူထောင်ခဲ့ကြတယ်။ အဲဒီနေ့က (၅-၇-၆၂) (၁) ရာဘတ်ရန်ကုန်ခရိုင် ရာဇဝတ်တရားသူကြီးရှေ့မှာ လက်မှတ်ရေးထိုး လက်ထပ်ခဲ့ကြတယ်။ မင်္ဂလာလက်ထပ်ပွဲ အခမ်းအနားတခုလုံးကို ဝတ်လုံတော်ရ ဦးဘကျော် (ဆရာကြီးသခင်ကိုယ်တော်မှိုင်းရဲ့ ပြည်တွင်းငြိမ်းချမ်းရေးအဖွဲ့ ကော်မတီဝင် စာရေးဆရာ ဗန်းမော်တင်အောင်ရဲ့ အကျိုးဆောင်ရှေ့နေ) က စီမံခန့်ခွဲပေးခဲ့တယ်။

ထင်ရှားတဲ့သမဂ္ဂ ခေါင်းဆောင်တွေနဲ့ တပ်ဦး၊ ဗကသ၊ ရကသ စတဲ့ ထင်ရှားတဲ့ အမာခံသမဂ္ဂဝင်တွေ ပါဝင်တက်ရောက်ခဲ့ကြတယ်။

ဝတ်လုံတော်ရ ရှေ့နေကြီး ဦးဘကျော်က မင်္ဂလာစကားချီးမြှင့်ရာမှာ "လက်ထပ်စာချုပ်က




၆၂ ကျောင်းသားခေါင်းဆောင်
ဦးလှရွှေ

အရေးမကြီးဘူး။ လူ့ကျင့်ဝတ်ဆိုင်ရာပဋိညာဉ်က အရေးကြီးလှတယ်" လို့ မိန့်ကြားဆုံးမခဲ့ပါတယ်။ တဦးနဲ့ တဦး အပြန်အလှန်ပွင့်လင်းနားလည်မှု၊ အနစ်နာခံမှု၊ တာဝန်ခံမှုက အရေးကြီးတယ်လို့ ညွှန်ပြခဲ့ပါတယ်။ သူ့ဆုံးမမှုများ မှန်ကန်ကြောင်း နှစ်ပေါင်းလေးဆယ်ပြည့်ပြီဖြစ်တဲ့ သူတို့ရဲ့ အိမ်ထောင်သက်က သက်သေခံပါတယ်။

(စကားချပ်။ ရှေ့ပိုင်းကာလတွေ အကြောင်းမပြောဘဲ နဝတတို့ ခေတ်ကိုပုံဖော်ရရင် ၁၉၈၉ ခုနှစ်မှာ ကိုလှရွှေ ထောင်ကျသွားပြီးနောက် သားငယ် ဆက်အောင်ခိုင်က (ABSDF) လက်နက်ကိုင်တော်လှန်ရေးမှာ၊ သားကြီး ဆက်အောင်နိုင်က အင်းစိန်ထောင်မှာ ထောင်ဒဏ် (၄၂) နှစ်။ ၁၉၉၁ ခုနှစ်မှာ မခင်မာအေး ကိုယ်တိုင်က အင်းစိန်ထောင်မှာ ထောင်ဒဏ် (၃) နှစ်၊ ၁၉၉၁-၁၉၉၄ ခုနှစ်မှာ သမီးငယ် နေခြည်က လူမမယ် အရွယ် အဒေါ်တွေအိမ်မှာနေရ။ သူတို့နေတဲ့ သက်န်းကျွန်း (ကြက်ခြံ) ကို သော့ခတ်ထားခဲ့ရ။ မခင်မာအေး ထောင်ကလွတ်လို့ အိမ်ပြန်တော့ ကိုယ်မွေးထားတဲ့ခွေး ကိုယ့်အိမ်ရှင်ကို ပြန်ဟောင်တာခံရ။ လင်က သရက်ထောင်မှာ (၁၄) နှစ်။ သားကြီးက မြင်းခြံထောင်မှာ (၄၂) နှစ် ထောင်ဒဏ်တွေခံနေရ။)

အဲဒီတုန်းက သူတို့နေထိုင်ကြတာက အမှတ် (၈) ဇေယျာလမ်း၊ ရှောက်ပင်ခြံရပ်ကွက်၊ လှည်းတန်း၊ ကမာရွတ်ပါ။ ဇူလိုင်လ ၅ ရက် ညနေပိုင်းမှာပဲ သူ့သူငယ်ချင်းတွေ အစီအမံအကူအညီနဲ့ သူတို့ထူထောင်စ အိမ်ထောင်ဦးခန်းဝင် ပစ္စည်းတွေ ရွှေ့ပြောင်းနေရာချကြပါတယ်။ တကသဥက္ကဋ္ဌ ကိုဗဆွေလေးကိုယ်တိုင် လက်ရေးနဲ့လုပ်ထားတဲ့ ဖိတ်စာတောင် ဝေထားပြီးပါပြီ။ သမဂ္ဂကြီးတွေနဲ့ အသင်းအဖွဲ့တွေ သူ့သူငယ်ချင်းတွေ ရင်းနှီးခင်မင်တဲ့အခြားမိတ်ဆွေ သင်္ဂဟတွေက ပေးထားပြီးသားဖြစ်တဲ့ အိမ်ထောင်ဦး ပစ္စည်းလေးတွေကို ပေးကြဖို့ (၈) ရက်နေ့ကို အားခဲထားကြတယ်။ သူတို့ကလည်း ရှားမီးကိတ်နဲ့ ကော်ဖီတိုက်ခဲ့ကြတယ်။

သူတို့ရဲ့ အိမ်ခန်းလေးတွေကိုလည်း မိုးပြာရောင် (ငြိမ်းချမ်းရေးသင်္ကေတ) ခန်းစီးလေးတွေ ချိတ်ဆွဲဖို့ မခင်မာအေးက စီစဉ်ပါတယ်။ အကျွေးအမွေးအတွက် လိုတာလည်း စီမံဖြည့်ဆည်းနေကြ။ သူတို့နှစ်ဦးရော သူငယ်ချင်းမိတ်ဆွေတွေပါ အားလုံးပြုံးပျော်နေကြပေါ့။

ဒါပေမဲ့ ဘဝက သူတို့နှစ်ဦးကို အကြာကြီး ပြုံး

ပျော်ခွင်မပေးလိုက်ပါဘူး။ ဇူလိုင်လ (၆) ရက်နေ့ ညမှာပဲ ဇူလိုင် (၇) အရေးတော်ပုံကြီး စတင်ပေါက်ကွဲလာခဲ့ပါတယ်။ ကိုလှရွှေဟာ မခင်မာအေးကို အခန်းထဲမှာ တယောက်တည်းထားခဲ့ပြီး ကျောင်းထဲပြန်ဝင်ခဲ့ပါတယ်။ ဒီတုန်းက ကိုလှရွှေဟာ

(၁) ကျောင်းသားညီညွတ်ရေးတပ်ဦးရဲ့ အထွေထွေအတွင်းရေးမှူး

(၂) ဗကသ အဖွဲ့ချုပ်ရဲ့ အတွင်းရေးမှူးအဖွဲ့ဝင်

(၃) သဟာယနဲ့ စာဖတ်အသင်းများအဖွဲ့ချုပ်ရဲ့ အထွေထွေအတွင်းရေးမှူး

(၄) မန္တလေးဆောင်သဟာယနှင့် စာဖတ်အသင်းဥက္ကဌ

(၅) ကျောင်းဆောင်ကော်မတီ တကသ ကိုယ်စားလှယ် စတဲ့တာဝန်တွေ ရှိနေသူပါ။ ဒါကြောင့် ကျောင်းသားအရေးတော်ပုံကြီးကို ထိန်းသိမ်းခေါင်းဆောင်ဖို့ ကျောင်းထဲပြန်ဝင်ရတော့တာပါပဲ။ မင်္ဂလာဦးကာလ ပျားရည်ဆမ်းကလ ဘယ်နားနေမှန်းမသိတော့ပါဘူး။ ရွှေးစရာလမ်းလည်း မရှိတော့ပါဘူး။ ဇူလိုင် (၇) ရက် နံနက် (၁၁) နာရီမှာ ဗကသ ကျောင်းသားထုအစည်းအဝေးကြီးကျင်းပတယ်။ ဖိနှိပ်ချုပ်ချယ်တဲ့ ကျောင်းဆောင်စည်းကမ်းများနဲ့ ကျောင်းသားအခွင့်အရေး ထိပါးမှုများကို ဖျက်သိမ်းဖို့ ပုဒ်မ (၁၄၄) ကို ဖျက်သိမ်းဖို့ တောင်းဆိုကြပါတယ်။ ဆန္ဒပြပွဲပြီးလို့ လူစုခွဲပြီး (၆) နာရီအကြာ ရက်စက်တဲ့ ပစ်ခတ်မှုကြီး ဖြစ်ပွားခဲ့တယ်။ ပစ်ခတ်မှုမဖြစ်မီ ညနေ (၂) နာရီလောက်မှာ ကျောင်းသားခေါင်းဆောင်တွေကို စတင်ဖမ်းဆီးလို့ သူတို့အားလုံး လွတ်မြောက်အောင် တိမ်းရှောင်ခဲ့ကြရတယ်။

(၈) ရက်နေ့ မနက်လင်းအားကြီး ၃:၃၀ လောက်မှာ တကသအဆောက်အဦကို ဗုံးနဲ့ ထပ်မံဖို့ခွဲပစ်လိုက်ပါတယ်။ သူတို့ရဲ့ မင်္ဂလာဦးလက်ဖွဲ့ပစ္စည်းလေးတွေဟာလည်း လဲပြိုသွားခဲ့ရတဲ့ သမဂ္ဂအဆောက်အဦရဲ့ အုတ်ကျိုးအုတ်ပျက်တွေကြားမှာ တစစီတမွှန်စီ ဖြစ်သွားမှာသေချာလောက်ပါရဲ့။ သူတို့ထူထောင်ခါစ အိမ်ထောင်လေးဟာလည်း သမဂ္ဂအဆောက်အဦကြီးနဲ့ အတူ ပြိုကွဲပျက်စီးသွားခဲ့ပါပြီ။

ကာယကံရှင်နှစ်ဦးရဲ့ ရင်ထဲမှာ ဘယ်လိုခံစားခဲ့ကြရမယ်ဆိုတာ သူတို့နှစ်ဦးသာအသိနိုင်ဆုံးပါ။ ဒါပေမဲ့ ဒီအကြောင်းတွေကို ပြန်ပြောရ၊ ပြန်ကြားရ၊ ပြန်ရေးရတဲ့ အခိုက်အတန့်အတောအတွင်း ဘေးကလူတွေအတွက်တော့ ဝမ်းနည်းကြေကွဲ ဆို့ဆို့နစ်နစ်။

ကိုလှရွှေဟာ ဇူလိုင်လ (၇) ရက် အရေးတော်ပုံအတွင်းမှာ တနှစ်နီးပါး ဝရမ်းပြေးနေခဲ့ရပါတယ်။ အရေးတော်ပုံကို ဦးစီးရင်းညွှန်းခါဇနီးကို ခိုးကြောင်ခိုးဝှက်တွေ့၊ စားရေးနေရေးကို ပြေးရင်းလွှားရင်း စီစဉ်ပေးခဲ့ရတယ်။ ကြင်စဦး ဇနီးမောင်နှံတို့ရဲ့ ချမ်းမြေ့ပျော်ရွှင်ကြည်နူးမှုဆိုတာတွေ သူတို့အဖို့ကတော့ နတ္ထိ၊ သူကလည်း ဥပဒေသင်တန်း (BL) မတက်ဖြစ်တော့သလို မခင်မာအေးလည်း နိုင်ငံခြားဘာသာ ဒီပလိုမာ မတက်ဖြစ်တော့ဘူး။

၁၉၆၃ ခုနှစ် ဧပြီလ (၁၀) ရက်နေ့မှာ တော်လှန်ရေးကောင်စီက လွတ်ငြိမ်းချမ်းသာခွင့်အမိန့် ထုတ်ပြန်လိုက်လို့ တရားဝင်နေထိုင်ခွင့်ပြန်ရခဲ့တယ်။ ပြည်တွင်းငြိမ်းချမ်းရေးတွေ့ဆုံဆွေးနွေးပွဲဖြစ်လာတယ်။ ဒီတော့ ပြည်တွင်းငြိမ်းချမ်းရေး လှုပ်ရှားမှုတွေထဲမှာ ပါဝင်လှုပ်ရှားရပြန်ရော။ မကြာလိုက်ပါဘူး။ နိုဝင်ဘာ (၁၄) ရက် ၁၉၆၃ ခုနှစ်မှာ ဆွေးနွေးပွဲပျက်ပြန်တယ်။ စစ်အစိုးရက တပြည်လုံးမှာရှိတဲ့ နိုင်ငံရေးပါတီ၊ အသင်းအဖွဲ့ပေါင်းစုံက ခေါင်းဆောင်တွေ၊ အလုပ်အမှုဆောင်တွေကို ဖမ်းဆီးလာပါတယ်။ အဖမ်းခံရသူ အဖမ်းခံ၊ ပြေးသူပြေးကြရ ဖြစ်လာတယ်။

သူဟာဝရမ်းပြေးရင်း လူဖြစ်လာတဲ့ သူ့သားအကြီးကို ခိုးကြောင်ခိုးဝှက် သွားကြည့်ခဲ့ရပြန်ပါတယ်။ ဆုံးဖြတ်ချက်ချပြီးရင် ဆုံးခန်းတိုင်တဲ့အထိ အနိုင်တိုက်မယ်ဆိုတဲ့ အတွေးအခေါ်ကို ဆုပ်ကိုင်ထားသည့်အလျှောက်သူ့သားကြီးကို 'ဆက်အောင်နိုင်' လို့ အမည်ပေးခဲ့တယ်။ အဲဒီကာလမှာ နိုင်ငံရေးအခြေအနေက ပိုမိုကျပ်တည်းလာခဲ့တယ်။

ဥပဒေတွင်းမှာ ရပ်တည်ဖို့ သိပ်ခက်ခဲတဲ့ အခြေအနေမျိုးဖြစ်လာတယ်။ ဒီတော့ သူ့ဇနီး မခင်မာအေးနဲ့ လျှို့ဝှက်တွေ့ဆုံ၊ အခြေအနေ နားလည်အောင်ရှင်းပြ၊ မိသားစုရပ်တည်ရေးအတွက် အနိမ့်ဆုံးဖြစ်နိုင်တဲ့ အစီအစဉ်တွေ ညှိနှိုင်းပြီး အပြီးသတ် ခွဲ

ကြဖို့ ဆုံးဖြတ်လိုက်ရတယ်။ သူတို့နှစ်ဦးဟာ နုနယ် ငယ်ရွယ်ကြပါသေးတယ်။ လူငယ်တဦးရဲ့ အလှပဆုံး၊ အသန်စွမ်းဆုံးအရွယ်တွေပဲ။ ဒါပေမဲ့ အဲဒီ အလှပဆုံး အရွယ် လူငယ်တွေရဲ့ဘဝကို ဖက်ဆစ်ဖိနပ်ကြီးနဲ့ နင်းချေဖျက်ဆီးလိုက်ပါတော့တယ်။

ဘဝက သူ့ကို စိန်ခေါ်နေခဲ့ပါပြီ။ နာခံမလား၊ အာခံမလား မေးနေပါပြီ။ နောက်ဆုံးတော့ သူဟာ ခေါင်းမော့ ရင်ကော့ပြီး ဘဝကို အာခံတဲ့လမ်းရွေးပါတော့တယ်။

၂၂-၁-၁၉၆၄ ခုနှစ်မှာ သူဟာ ညားခါစဇနီး မခင်မာအေးနဲ့ မွေးကင်းစသားကြီးကို အပြီးသတ် နှုတ်ဆက်ခဲ့ရတယ်။ လူဖြစ်စ သူ့သားကြီးဟာ ဘာမှသိရှာမှာ မဟုတ်ပါဘူး။ ဘဝကို အာခံခဲ့တဲ့အတွက် တန်ဖိုး တစ်မျိုးပေးရပါပြီ။ သူတို့နှစ်ဦး နောက်ဆုံးနှုတ်ဆက် သံယောဇဉ်လက်ကလေးတွေနဲ့ ပွေ့ဖက်၊ မခင်မာအေးရဲ့ တဆတ်ဆတ်တုန်နေတဲ့ နှုတ်ခမ်းတွေကို ဆို့နစ်စွာကြည့်ရင်း မြရာတောဆီ၊ ပန်းတောဆီသို့ ဦးတည်လိုက်ပါတော့တယ်။

၁၉၈၈ ခုနှစ် သြဂုတ်လ (၂၈) ရက်နေ့ ဗကသ များအဖွဲ့ချုပ် ပြန်လည်ဖွဲ့စည်းခြင်း ကျောင်းသားထု အစည်းအဝေးတုန်းက သူက ကျောင်းသားလှုပ်ရှားမှု သမိုင်းကို ခုလိုနိဂုံးချုပ်ပြခဲ့တယ်။

မြန်မာနိုင်ငံ ကျောင်းသားလှုပ်ရှားမှုသမိုင်းဆိုတာ

၁။ ကိုလိုနီခေတ် ကျောင်းသားလှုပ်ရှားမှုများရဲ့ အဆက်ဖြစ်ပြီး မပြီးဆုံးသေးတဲ့ တာဝန်ကို ဆက်လက် တိုက်ပွဲဝင်ခဲ့တဲ့ သမိုင်းဖြစ်တယ်။

၂။ ပြည်သူလူထုရဲ့ နယ်ချဲ့ဆန့်ကျင်ရေး၊ လုံးဝလွတ်လပ်ရေး၊ အမျိုးသားလွတ်လပ်ရေး၊ လွတ်လပ်ရေး ထိန်းသိမ်းရေးတိုက်ပွဲများရဲ့ အစိတ်အပိုင်းတခုဖြစ်တယ်။

၃။ ငြိမ်းချမ်းစွာ ပညာသင်ကြားနိုင်ရေးအတွက် ပြည်သူလူထုနှင့်အတူ ပြည်တွင်းငြိမ်းချမ်းရေးအတွက် တိုက်ပွဲဝင်တဲ့သမိုင်း ဖြစ်တယ်။

၄။ ကျောင်းသားအခွင့်အရေး ကာကွယ်ရေးနဲ့ အထွေထွေဒီမိုကရေစီအခွင့်အရေးများကို ကာကွယ်တဲ့ သမိုင်းဖြစ်တယ်။

၅။ ကမောက်ကမ ပညာရေးစနစ်ကို ဖျက်သိမ်းပြီး အမျိုးသားတည်ဆောက်ရေးအတွက် တိုက်ပွဲဝင်ခဲ့တဲ့ သမိုင်းဖြစ်တယ်။

အဲဒီတုန်းက သူအချက်တချက်ကို ထည့်ပြောမသွားခဲ့ဘူး။ တည်ရှိနေတဲ့ နိုင်ငံရေးမိုးလေဝသ အခြေအနေကြောင့် တချက်ကို ချန်ခဲ့တယ်။ ဒါပေမဲ့ ၁၉၈၃ ခုနှစ် ဇူလိုက် ၇ ရက် အရေးတော်ပုံ (၂၁) နှစ်မြောက်နေ့ အင်းစိန် အကျဉ်းထောင် ကြိုးတိုက် အမှတ် (၂) မှာ သူနဲ့အတူနေခဲ့တုန်းက ခုလိုပြောခဲ့ဖူးတယ်။

" ကျော င်း သား လှု ပ် ရှား မှု သ မို င်း ဟာ လက်နက်ကိုင်တိုက်ပွဲသမိုင်းဖြစ်တယ်" ဆိုတာပါပဲ။

၁၉၅၈ ခုနှစ် ပထမအကြိမ် အာဏာသိမ်းစစ်အစိုးရ၊ ၁၉၆၂ ခုနှစ် ဒုတိယအကြိမ် အာဏာသိမ်းစစ်အစိုးရ ကာလများအတွင်း ရိုးပြတ်လယ်တောတလျှောက်နဲ့ စက်ရုံအလုပ်ရုံ စာသင်ကျောင်း တောတောင်လျှိုမြောင်များနဲ့ ရန်သူအကျဉ်းစခန်းများမှာ ပေးဆပ်သွားခဲ့ကြတဲ့ ပင့်သက်ပေါင်း အထောင်သောင်း၊ မျက်ရည်ပေါင်း ကုဋေကုဋာ အဆုံးအရှုံး၊ အပျက်အဆီး၊ ချွေးသွေးများစွာရင်းခဲ့ကြရတဲ့ အာဇာနည်အပေါင်းတို့ရဲ့ ဝိညာဉ်ကိုပူးကပ်ပြီး ပြောလိုက်ချင်တာက

"ဇူလိုင် ၇ ရက်၊ သွေးမြေသက်၍<br>ဖြစ်ပျက်ပေါင်းစုံ၊ ရေးတော်ပုံကြောင့်<br>ရင်အုံလျှောင်၊ ရင်ပြင်အနီ<br>တက္ကသိုလ်၊ မြကျွန်းသာဝယ်<br>ကမ္ဘာလဆန်း၊ ချိန်ဖြတ်သန်းလည်း<br>ဥဒါန်းမကြေ"

(ဇူလိုင် ၉ ရက်၊ ၂၀၀၂)

**(အနှစ် ၄၀ မြောက် ဇူလိုင် ၇ ရက် ကျောင်းသားအရေးတော်ပုံ အမှတ်တရ)**

# သွေးချောင်းစီးပွဲ စစ်တမ်း

■ ကြေးမုံဦးသောင်း

ဇူလိုင် (၇) ရက်နေ့က ရန်ကုန်တက္ကသိုလ်ကျောင်းမှ စီးဆင်းလာသော သွေးတို့သည် ယခုနှစ်ပေါင်းလေးဆယ်ကာလ ကြာမြင့်ပြီဖြစ်သော်လည်း ခြောက်သွေ့ခြင်း မရှိပါပေ။ ထိုသွေးချောင်းစီးပွဲသည် မြန်မာ့သမိုင်းတွင် ဖျောက်ဖျက်မရနိုင်သော သွေးကွက်ကြီးဖြစ်ပါသည်။

မျက်မြင်ကိုယ်တွေ့မြင်လိုက်ရသူတို့ အလိုအရ ထိုလူသတ်ပွဲကြီးကို ကျူးလွန်ရန်မလိုအပ်ဟု ယူဆကြပါသည်။ ထိုကာလက ဖြစ်ပွားသော ကျောင်းသားလှုပ်ရှားမှုသည် ထိုခေတ်က ဖြစ်ပေါ်သော အခြားကျောင်းသားလှုပ်ရှားမှုနှင့် နှိုင်းယှဉ်ပါလျှင် ကြီးမားသည့် ဆူပူမှုမဟုတ်သဖြင့် အကယ်၍ အစိုးရစစ်တပ်က ဝင်ရောက်သတ်ဖြတ်မှု မပြုပါက စေ့စပ်ခြင်းဖြင့် အေးငြိမ်းသွားလေမည့် လှုပ်ရှားမှုတစ်ခုသာဖြစ်ပါသည်။

အကယ်၍ ကျောင်းသားများက ဆက်လက်ဆူပူပါက ကျောင်းသားများကို ကြက်ကလေး၊ ငှက်ကလေးများကို ဖမ်းဆီးသကဲ့သို့ ဖမ်းဆီးကာ လူစုခွဲနိုင်သော ရဲတပ်အင်အား၊ စစ်တပ်အင်အား ခိုင်မာစွာရှိပါသည်။ သို့ပါလျက် ဘာကြောင့်ရက်စက်စွာ နိုင်ငံတော်၏ အညွန့်အဖူးသားများကို ရက်စက်စွာသတ်ဖြတ်ခဲ့လေသနည်းဟူသော ပုစ္ဆာကို ခေါင်းအေးအေးနှင့် စဉ်းစားသင့်လေပြီ။

ဂျာမဏီလုပ် စက်များနှင့် ရန်ကုန်တွင်တပ်ဆင်သော ဂျီသရီးသေနတ်များကို သေနတ်စမ်းလိုသဖြင့် သတ်ဖြတ်လိုသည်ဟု သူတို့ကယူဆသည်။ အချို့ကမူ ဒီမိုကရေစီခံတပ်ကြီးဟု ဆိုင်းဘုတ်ဆွဲ၍ ကျောင်းပရဝုဏ်အတွင်းတွင် ကျောင်းသားများက တစ်ယောက်ပြီးတစ်ယောက် တရားဟောကြသဖြင့် သတ်ရသည်ဟု ယူဆ၏။ အချို့လူငယ်များက နှုတ်လွန်မိကြသည်။ ထိုဟောပြောချက်များကို ထိုဒေသရှိ စစ်ကားတစ်စီးက အသံဖမ်းယူကာ တော်လှန်ရေးကောင်စီဥက္ကဋ္ဌဗိုလ်ချုပ်ကြီးနေဝင်း၏အိမ်သို့ တိုက်ရိုက်ပို့ပေးရသည်။ ကျောင်းသားများပြောဆိုချက်ကို ကြားရသဖြင့် ဗိုလ်ချုပ်ကြီးနေဝင်းက လွန်စွာစိတ်ဆိုးသဖြင့် ကျောင်းသားများကို ပစ်သတ်စေဟု အမိန့်ပေးသည်ဟု ထင်မြင်သူလည်း အများအပြားရှိသည်။

အချက်အလက်အဝဝကို ယနေ့ပြန်လည်သုံးသပ်ပါလျှင် ကျောင်းသားများကို အစုလိုက်အပြုံလိုက် သတ်ဖြတ်ရန် အမိန့်ပေးသည်မှာ ဗိုလ်ချုပ်ကြီးနေဝင်း စိတ်ဆိုးနေသဖြင့် အမိန့်ပေးသည်မှာ မှန်ပါသည်။ သို့သော်လည်း ဗိုလ်နေဝင်း စိတ်ဆိုးနေသည်မှာ ကျောင်းသားများမဟုတ်။ သူက မြန်မာတမျိုးလုံးတို့ကို လွန်မင်းစွာစိတ်ဆိုးနေသည်။ မြန်မာအားလုံးကို စိတ်ဆိုးသောကြောင့် လက်ငင်းဆူပူသော ကျောင်းသားငယ်များကို မဲသည်။ ပစ်သတ်စေဟု အမိန့်ထုတ်သည်ဟု ဆိုသင့်ပါသည်။

ထိုစဉ်က သမိုင်းကို ပြန်ကြည့်ပါက ၁၉၆၂ ခု အာဏာသိမ်းစဉ်က ပြည်ထောင်စုပါတီဥက္ကဋ္ဌ ဦးနုသည် ဗုဒ္ဓဘာသာကို နိုင်ငံတော်ဘာသာပြုခြင်း၊ လူမျိုးစုများကို လိုက်လျော၍ ပြည်နယ်ခွဲဝေမှုပြုလုပ်ရန် စီစဉ်ခြင်းစသည်တို့ကို အကြောင်းပြ၍ အာဏာသိမ်းသည်။ ဦးနု၏ လုပ်ရပ်များကို ပြည်သူလူထုကလည်း စိတ်ဆိုးနေပေမည်။ ထို့ကြောင့် မိမိအာဏာသိမ်းသည်ကို ပြည်သူလူထုက တခဲနက်လက်ခံကြလိမ့်မည်ဟု ဗိုလ်နေဝင်းက ယူဆခဲ့သည်။

ဗိုလ်နေဝင်းက သူ့အာဏာသိမ်းပွဲကို လူထုက သောင်းသောင်းဖြဖြ ကြိုဆိုထောက်ခံကြမည်ဟု ယူဆခဲ့သည်။ လူထုက စစ်တပ်အာဏာသိမ်းမှုကို ထောက်ခံမှုမပြုကြပေ။ ဦးနုကို မကြိုက်သူများကလည်း ဦးနုအား မိမိတို့ပိုင် မဲဆန္ဒပြားများနှင့်သာ ဖြုတ်ချလိုသည်။ ဂျီသရီးသေနတ်ပြ၍ လက်နက်နှင့်အာဏာသိမ်းမှုကို သဘောမတူ။ ထို့ကြောင့် အာဏာသိမ်းမှုကို လူထု



ကထောက်ခံမှုမပြုသဖြင့် ဗိုလ်နေဝင်းက စိတ်ဆိုးနေသည်။

အာဏာသိမ်းပြီး ဧပြီလ (၃) ရက်နေ့တွင် မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ တည်ထောင်မည်ဟု ဗိုလ်နေဝင်းက ကြေညာသည်။ လူထုကဟက်ဟက်ပက်ပက်မရှိသဖြင့် သူစိတ်ဆိုးပြန်သည်။

ဗိုလ်နေဝင်းက သူ၏ပါတီအတွင်းသို့ လက်ရှိနိုင်ငံရေးပါတီများက ပူးပေါင်းလာမည်ဟု မျှော်လင့်ကာ အကြိမ်ကြိမ် ဖိတ်ခေါ်ဆွေးနွေးသည်။ စစ်တပ်၏ မဟာမိတ်ဖြစ်သော တည်မြဲနှင့် ဦးနု၏ ပထစ ပါတီတို့က မဆလ ပါတီကို ထောက်ခံပါမည်ဟုဆိုစေကာမူ လူထုက ရွေးချယ်တင်မြှောက်သည့် ပါလီမန်ဒီမိုကရေစီစနစ်ကို ဆွဲကိုင်တောင်းဆိုကြသည်။

လက်ဝဲ ပမညတ တို့ကလည်း ဆိုရှယ်လစ်နိုင်ငံတည်ဆောက်မည်ဟု လက်ခံကြသော်လည်း မဆလပါတီ အစိုးရအဖွဲ့ အကြံပေးကောင်စီရှိမှ ဖြစ်မည်ဟု နေရာတောင်းကြသည်။ စစ်အာဏာရှင်စနစ်ကို လက်ရှိနိုင်ငံရေးပါတီအားလုံးတို့က ထောက်ခံမှုမပြုသည်ကို ၁၉၆၂ ခု မေလ (၁၉) ရက်နေ့ စစ်ဗိုလ်များသာ တက်ရောက်ရသည့် တော်လှန်ရေးကောင်စီညီလာခံတွင် “သူတို့က တို့ခံယူချက်နဲ့မတူဘူး။ တို့ပါတီက တိုင်းပြည်နဲ့ သင့်လျော်သလို လုပ်ကြမှာပဲ။” ဟု ပြောသည်ဟု မှတ်တမ်းကျန်ရစ်ပါသည်။

မှတ်တမ်းအဝဝကို လေ့လာပါလျှင် လူထုကြီးသည်လည်းကောင်း၊ နိုင်ငံရေးပါတီများသည်လည်းကောင်း၊ မိမိတို့တပ်မတော်၏ စေတနာကို မသိလေခြင်းဟု သိရှိကာ စိတ်ဆိုးပြီး စစ်တပ်ဆိုတာလက်နက်နှင့်အုပ်ချုပ်လျှင် နိုင်ငံရေးပါတီများရောလူထုပါ ငုံ့ခံမည်ဟူသည့် သဘောတရားကို ပြလိုသဖြင့် ကျောင်းသားများကို သတ်ဖြတ်သည်ဟု ယူဆကြသူများက ယူဆကြပြန်သည်။

၈၈ ခုနှစ်က သူထွက်ပေးရပြီး စစ်တပ်သိက္ခာကျဆင်းရချိန်တွင် “စစ်တပ်ဆိုတာ ပစ်လျှင် အပေါ်ထောင်ပစ်မှာ မဟုတ်။ ပစ်လျှင်မှန်အောင် ပစ်တတ်တယ်။” ဟု ပြောဆို၍ ၈၈ ခုနှစ်တွင် ပိုမိုကြီးမားသည့် လူသတ်ပွဲကြီးဆင်နွှဲသည်ကို ထောက်ပါက ဗိုလ်နေဝင်းသည် စစ်တပ်သိက္ခာကျသည်ကို စိတ်ဆိုးသဖြင့် စစ်သေနတ်တန်ခိုးပြရန် လူသတ်ပွဲများ ဆင်နွှဲသည်ဆိုခြင်းမှာ ယုတ္တိတန်ပါကြောင်း။ ။

**(၇ ရက် ဇူလိုင် နှစ် ၄၀ ပြည့်မှ —)**

# မြက်ခင်းနီ၏ ဆိုစကား

သင်မယုံလျှင်၊ ကြုံကြိုက်သောအခါ
ဝင်ကြည့်ပါဟု ...
ညွှန်ကာပြလိုက်ပါရစေ။

မန္တလေးဆောင်ရှေ့ ညာအကွေ့တွင်
နီပေ့နီပေ့ မြက်ပင်များ။

စိမ်းမြမြလို့င်၊ မြက်ခင်းမြိုင်သည်
ဇူလိုက်ခုနှစ်ရက်၊ သွေးမြေသက်မှ
နီလျက်နီလျက် လာတကား။

မြက်ခင်းနီက
မကြည်မသာ၊ ပြောပြပါမည်
ဟိုခါခုနစ်ရက်၊ ဤမြေကွက်တွင်
သွေးပွက်လျှံသွား၊ ကျောင်းသားများ၏
လှုပ်ရှားတိုက်ပွဲ၊ စိတ်ဓာတ်ခွဲကို
သင်လည်းဆက်၍ခံယူပါ။

သင်မယုံလျှင်၊ ကြုံကြိုက်သောအခါ
ဝင်ကြည့်ပါဟု
ညွှန်ကာပြလိုက်ပါရစေ။ ။

■ **ထီလာစိုးမြင့်ထယ်**
[ဇူလိုင် ၇ ရက် မှ —]

# အများသိသော မြုပ်ကွက်

ပစ်သည်ကမောင်းပြန်၊ ထွက်သည်က ဆယ့်ငါးချက်
ရာကျော်ကျော်သေအသက်၊ ယုံရခက်ခက်။ ။

■ **မောင်တင့်မွန် (အင်း၀)**
[အရေးတော်ပုံ မှ —]

# ကြည်ကြည်လင်လင် မြင်ပါသည်

စိပ်ပုတီးတပ်
ဝတ်ဖြူပတ်လည်း
လူသတ်သမားသည် ... လူသတ်သမား။ ။

■ **မောင်မြတ်မွန် (ဒေးဒရဲ)**
[ဇူလိုင် ၇ ရက် မှ —]

# နှစ်ဆယ်ရာစုနှစ် ပြည်သူ့ခုံရုံး

ငါ့ဆန္ဒမှု . . .
သက်သေထူရန်၊ ယူနီယံပျက်
မြေလွတ်ကွက်တွင်၊ ဖြိုဖျက်သူအား
တရားခုံတင်၊ ပြစ်ပေးချင်၍
ကြိုးစင်မြန်မြန်ဆောက်ကြစို့။ ။

■ **တက္ကသိုလ် - မောင်လှချော** [ဇူလိုင် ၇ ရက် မှ —]

# စိန်ခေါ်သံ

ဒို့သွေးတပေါက်
မြေသို့ရောက်လျှင်
မီးတောက်ဟုန်းဟုန်း ထစေမည်။

■ **မောင်စံဦး (ဒဂုံဆောင်)** [ဥဒါန်းမကြေ မှ —]

# အကျဉ်းခန်းနှင့် စာသင်ခန်း

အကျဉ်းခန်းနှင့် စာသင်ခန်း
*တို့အတွက်ကို . . .
ရိပ်ညိုစက်လျှောင်း-စာသင်ကျောင်းတွေ
တိုးပေးချေပါ-တောင်းဆိုလာလည်း
တို့မှာမရ-စိတ္တဇနှင့်
ဘဝချုပ်နှောင်-မှောင်မှောင်မင်းမင်း
အခန်းကျဉ်းသို့ —
ပို့သွင်းချုပ်နှောင်ကြတကား။

■ **မောင်ပြုပြင် (ကျုံ့ပျော်)** [ဥဒါန်းမကြေ မှ —]

# ယခုတက္ကသိုလ်

ကျောင်းနှင့်မတူ
ဖွေးဖွေးဖြူသည်
အုတ်ဂူကြီးများနှယ်သာတည်း။

■ **မခင်ပန်း (ကချင်မြေ)** [ဥဒါန်းမကြေ မှ —]

# (၇) ဇူလိုင် အရေးတော်ပုံ စိတ်ဓာတ် အစွန့်ရှည်ပါစေ

ဗမာပြည် ကျောင်းသားလှုပ်ရှားမှုသမိုင်းမှာ "(၇)ရက် ဇူလိုင် အရေးတော်ပုံ"ဆိုတာ ဘယ်တော့မှ ဖျောက်ဖျက်လို့ မရနိုင်တော့တဲ့ မှတ်တိုင်ကြီးအဖြစ် ဥဒါန်းတွင်တည်ရှိခဲ့ပါပြီ။

ဒီအရေးတော်ပုံကြီးဟာ ဗမာပြည်ကျောင်းသားထုအတွက်၊ တော်လှန်တဲ့၊ စစ်အာဏာရှင်စနစ်ကို ဆန့်ကျင်သူ ပြည်သူလူထုအားလုံးအတွက် ထာဝစဉ်သတိရနေမယ့် အရေးတော်ပုံကြီးဖြစ်သလို ၅၈ခုနှစ် စစ်အာဏာသိမ်းမှုနဲ့ ဝတ်စုံပြည့် ဇာတ်တိုက်လာခဲ့ပြီး "ရာဇဝတ်ပလ္လင်ကို ထာဝစဉ် လုယူထားရေး" အယုတ်တမာ ဇာတ်လမ်းရှည်ကြီးကို ကပြဖို့ ဗိန်းဗောင်းတိုက်သံနှင့်အတူ ဖွင့်လိုက်တဲ့ စစ်အာဏာရှင်တသင်းရဲ့ ပွဲဦးထွက် ရက်ရက်စက်စက် သတ်ဖြတ်ပွဲကြီးလည်း ဖြစ်ပါတယ်။

ဒီအရေးတော်ပုံကြီးမှာ ရှေ့တန်းအခန်းက ပါဝင်ခဲ့ကြတဲ့ ကျောင်းသားခေါင်းဆောင် အများစုဟာလည်း လက်ချိုးရေလို့ ရလောက်အောင် နည်းသွားခဲ့ပါပြီ။ တချို့ တောထဲမှာ၊ တချို့ အကျဉ်းထောင်ထဲမှာ ကျဆုံးသွားကြရှာပါပြီ။ ဒီအရေးတော်ပုံကြီးမှာ ကိုယ်တိုင်တွေ့ကြုံဖြတ်သန်းခဲ့ရသူတွေလည်း တဖြည်းဖြည်းနည်းနည်းလာပါပြီ။ အသက်ရှင်ကျန်နေသေးသူတွေလည်း သက်ကြီးရွယ်အိုဘဝ ရောက်လာနေကြပါပြီ။

ကျနော့်လို သာမန်ကျောင်းသားဘဝနဲ့ ဇူလိုင်အရေးတော်ပုံကြီးကို ထိတွေ့ခံစား ဖြတ်သန်းလိုက်ရတဲ့ ကျောင်းသားဟောင်းကြီးတွေတောင် တတိယအရွယ်ထဲ ဝင်လာနေပါပြီ။

ဒီလိုအချိန်မှာ ကျနော့်ရဲ့ ကျောင်းသားဘဝဖြတ်သန်းခဲ့ရမှု၊ ကျနော်ကိုယ်တိုင် မျက်ဝါးထင်ထင်ပါဝင်ကြုံတွေ့ ခံစားခဲ့ရတဲ့ (၇)ရက် ဇူလိုင် အရေးတော်ပုံကြီးရဲ့ သမိုင်းဝင် ရုပ်ပုံကားချပ် တစိတ်တပိုင်းကိုလည်း မှတ်မှတ်ရရ ပြန်လည်ဖော်ကျူးတင်ပြချင်လာပါတယ်။ ဒါကြောင့် ကျနော်ကိုယ်တိုင် ကိုယ်တွေ့ဖြတ်သန်းလာခဲ့ရတဲ့ (၇)ရက် ဇူလိုင် အရေးတော်ပုံကြီးကို ကျနော်ကိုယ်တိုင် ထိတွေ့ခံစားခဲ့ရတဲ့ ရှုထောင့်ကနေ ပြန်လည်မှတ်တမ်းတင် ဖော်ပြရင်း လေးလေးနက်နက် အထိမ်းအမှတ်ပြုလိုက်ပါရစေ။

၁၉၆၁-၆၂ စာသင်နှစ် ကျောင်းသားသစ်ဘဝပါ။

ကျနော်ဟာ အခန်းအမှတ် (၅၀)၊ ပင်းယဆောင်မှာ နေပါတယ်။ ကျောင်းရောက်စက ကျနော်တို့ပင်းယဆောင်နဲ့ ဘေးချင်းကပ်၊ ပဲခူးကျောင်းဆောင်အလယ်ထပ် ဒေါင့်ခန်းအနီးမှာ ဗိုလ်ချုပ်အောင်ဆန်း ကျောင်းသားဘဝက နေထိုင်သွားခဲ့တဲ့ အခန်းကို မကြာခဏ သွားကြည့်မိပါတယ်။

ကျောင်းသားခေါင်းဆောင် ကိုအောင်ဆန်းရဲ့ ခုတင်မှာ ဇာခြင်ထောင်လေး တင်ထားပုံ၊ အိပ်ရာခင်းနှင့် စောင်ကလေး ဖရိုဖရဲ ခေါက်ထားပုံတို့ကို လက်ရာမပျက်မြင်ရတယ်။ စားပွဲပေါ်မှာလည်း နိုင်ငံရေးသိပ္ပံစာအုပ်တွေနဲ့ ဝိဇ္ဇာတန်းစာအုပ် တချို့ကို လက်ရာမပျက် အမှတ်တရအဖြစ် ပဲခူးဆောင်ကနေ တာဝန်ယူထိန်းသိမ်း ပြသပေးထားပါတယ်။

၁၉၆၂ ခုနှစ် မတ်လ (၂)ရက်နေ့။

ဦးနုအစိုးရကို ဖြုတ်ချပြီး ဗိုလ်နေဝင်းက အာဏာသိမ်းလိုက်ပါတယ်။ ကျနော်တို့ ကျောင်းသားထု အတွင်းမှာ ဝေဖန်သံ၊ သုံးသပ်သံတွေ စီစီညံလာခဲ့ရတယ်။ ကျတော်တို့ ကျောင်းသားထုရဲ့ 'ဗကသ'က တရားဝင်ရှုတ်ချလိုက်ပါတယ်။

မတ်လဆန်းမှာ ဗိုလ်နေဝင်းက ရန်ကုန်တက္ကသိုလ်ကောင်စီဝင်များ ဖိတ်ခေါ်ပြီး "တက္ကသိုလ်ကျောင်းသားများကြား နိုင်ငံရေးပယောဂဝင်တယ်"လို့ စွပ်စွဲပြီး တက္ကသိုလ်ကောင်စီ ဖျက်သိမ်းလိုက်ပါတယ်။ ပါမောက္ခချုပ် ဒေါက်တာသာလှ ရာထူးက ထွက်လိုက်ရပါတယ်။ ဒီနောက်မှာ စစ်ဗိုလ်ချုပ်များပါဝင်တဲ့ တက္ကသိုလ်ကောင်စီကို ပြန်လည်ဖွဲ့စည်းပြီး ဗိုလ်ချုပ်နေဝင်းရဲ့ ဆရာရင်း ဦးကာကို ပါမောက္ခချုပ် ခန့်လိုက်တယ်။ ပါမောက္ခချုပ်ဦးကာဟာ ခါးကြားမှာ ပစ္စတိုထိုးပြီး အဓိပတိခန်းကြီး ရုံးခန်းမှာ ရုံးထိုင်တယ်။ ရုံးတက်ရုံးဆင်းမှာလည်း ပစ္စတိုကို လူမြင်အောင်ထိုးထားတဲ့ ကိုယ်ရံတော် ဗိုလ်ကြီးတစ်ယောက်နဲ့ အဓိပတိ လမ်းမ

ကြီးဘေးက ပါမောက္ခချုပ် အိမ်ကို ပြန်တော်မူတယ်။

၁၉၆၂ ခုနှစ် ဇွန်လထဲမှာ တက္ကသိုလ် အဆောင်စည်းကမ်းများ ထုတ်ပြန်လာပါတယ်။ တက္ကသိုလ်ကျောင်းဆောင်များ ညချိန်မှာ လွတ်လပ်စွာ သွားလာခွင့် မရှိတော့ဘူး။ ည(၉)နာရီလောက်မှာ သံတံခါးပိတ်၊ ထွက်လည်တဲ့ ကျောင်းသားတွေကို စာရင်းမှတ်တယ်။ နေထိုင်စားသောက်မှုတွေ ချုပ်ချယ်လာတယ်။ အဆောင်နေကျောင်းသားကျောင်းသူများသာမက ဆရာ၊ ဆရာမများနဲ့ အဆောင်မှူးများပါ မကျေမနပ်ခံစားနေကြရတယ်။ ဇူလိုင်လ၃ရက်နေ့လောက်မှာ ကျောင်းသားသမဂ္ဂက ဦးစီးပြီး ကျောင်းသားထု အခွင့်အရေးနဲ့ ပတ်သက်လို့ သမဂ္ဂအဆောက်အဦးမှာ ညှိနှိုင်းဆွေးနွေးကြတယ်။ ကျောင်းသားထုက မတရားတဲ့ ကျောင်းဆောင်စည်းကမ်းများအား ဖျက်သိမ်းပေးရန် အာဏာပိုင်များအား တောင်းဆိုတယ်။ ဇူလိုင်လ ၆ ရက်နေ့မှာတော့ ဗိုလ်ချုပ်နေဝင်း စစ်အစိုးရက တက္ကသိုလ်ကောင်စီ၊ တက္ကသိုလ်ဆီးနိတ်အဖွဲ့နဲ့ ကျောင်းဆောင်ကော်မတီများကို ပြန်လည်ဖွဲ့စည်းကာ ဝက်အူရစ် တင်းလာပြန်တယ်။ သူတို့အလိုကျ အဆောင်မှူး၊ ကျောင်းသား၊ ကျောင်းသူများကို ပွဲထုတ်လာတယ်။

ရန်ကုန်တက္ကသိုလ် ကျောင်းသားများသမဂ္ဂကလည်း စစ်အစိုးရက တက္ကသိုလ်ဆီးနိတ် ပြန်လည်ဖွဲ့စည်းတာနဲ့ ပတ်သက်ပြီး ညှိနှိုင်းဆွေးနွေးကြတယ်။ ဇူလိုင်လ (၇)ရက်နေ့ စနေနေ့မှာ ကျောင်းသားထု အစည်းအဝေးကြီး ပြုလုပ်ရန် ပြင်ဆင်ကြတယ်။

(၆) ရက်နေ့ နေ့ခင်းကစပြီး သဂဂ္ဂအဆောက်အဦ အပေါ်ထပ်ကနေပြီး ခွပ်ဒေါင်းတေးသံများ၊ တကသ၊ ဗကသသီချင်းများ၊ ၁၃၀၀ ပြည့် ရေနံမြေ အရေးတော်ပုံသီချင်းများ လွှင့်ထုတ်နေပါတယ်။ "စစ်ကိုမလိုပြီ၊ စစ်ကိုမလိုပြီ၊ ငြိမ်းချမ်းရေးသာ ပေးသာ ပေးကြပါ" စတဲ့ သာယာလှတဲ့ ငြိမ်းချမ်းရေးတေးသံလည်း အဓိပတိလမ်းမကြီးမှာ ပဲ့တင်ထပ်နေတော့တယ်။ အဆောင်နေ ကျောင်းသူကျောင်းသားများနဲ့ ကျောင်းသားထုတရပ်လုံး ဇူလိုင်၇ရက် အစည်းအဝေးကြီးကို ပါဝင်တက်ရောက်ကြရန် ဆော်သြနေပါတယ်။ ညနေစာစားပြီးရင်ပဲ အဆောင်ကျောင်းသား၊ကျောင်းသူတွေ သမဂ္ဂမြက်ခင်းပြင်ရှေ့မှာ ဗိုလ်ချုပ်အောင်ဆန်းကျောက်တိုင်မှာ စုဝေးပြီး စကားတီးတိုးပြောဆို အနားယူနေကြတယ်။ တချို့ကျောင်းသားများက အစည်းအဝေးအတွက် ကြွေးကြော်သံများ၊ ပိုစတာများ ရေးနေကြတယ်။ ကျောင်းသားတချို့က သမဂ္ဂအုတ်နံရံနဲ့ တက္ကသိုလ်ခြံစည်းရိုးမိန်းဂိတ် ကျောက်တိုင်မှာ ပိုစတာတွေ ကပ်နေကြတယ်။ တချို့က ခွပ်ဒေါင်းအောင်လံနဲ့ ရောင်စုံအလံများကို သမဂ္ဂအဆောက်အဦရှေ့ အဓိပတိလမ်းမကြီးထိပ်မှာ လွှင့်ထူနေကြတယ်။

သမဂ္ဂစားသောက်ဆိုင်နဲ့ တကသဆံသဆိုင်တွေမှာလည်း ကျောင်းသားကျောင်းသူတွေ ပြည့်လျှံနေတယ်။ ညဘက်မှာတော့ သမဂ္ဂမြက်ခင်းပြင်ရှေ့မှာ အပန်းဖြေ ရုပ်ရှင်ပြသပါတယ်။

ဇူလိုင် ၇ရက် စနေနေ့ နံနက်ခင်းကစပြီး ခွပ်ဒေါင်းတေးများ တက္ကသိုလ်နယ်မြေ တခုလုံး လွှင့်ပျံ့နေပါတော့တယ်။ နံနက် ၉ နာရီကျော်လောက်ကစပြီး ကျောင်းသားကျောင်းသူတွေ သမဂ္ဂအဆောက်အဦးရှေ့မှာ တဖြည်းဖြည်းစုဝေးရောက်ရှိလာပါတယ်။ အဆောင်ကျောင်းသူကျောင်းသားများ၊ ပြင်ပကျောင်းသူကျောင်းသားများ၊ ဗကသ၊ ရကသ၊ တကသ ကျောင်းသားကိုယ်စားလှယ်များ၊ ခရိုင်အသီးသီးက ကျောင်းသူကိုယ်စားလှယ်များသာမက လူမျိုးစုဝတ်စုံဝတ်ဆင်ထားတဲ့ လူမျိုးစု ကျောင်းသားကိုယ်စားလှယ်များပါ စုံစုံညီညီ ရောက်ရှိလာကြတယ်။ သမဂ္ဂအဆောက်အဦရှေ့က ဗိုလ်အောင်ကျော်ကျောက်တိုင်မှာလည်း နီရဲတဲ့ ခွပ်ဒေါင်းအောင်လံကို မြင့်မြင့်မားမား စိုက်ထူထားတယ်။

နေရာအနှံ့ ရောင်စုံအလံများလည်း လွှင့်ပျံ့နေတယ်။ "မတရားတဲ့ အဆောင်စည်းကမ်းများ ဖျက်သိမ်းကြ"စတဲ့ နံရံကပ်ပိုစတာများ၊ ကျောင်းသားအခွင့်အရေး တောင်းဆိုတဲ့ ကြွေးကြော်သံပိုစတာများ နေရာတကာမှာ အစီအရီ ပိုစတာတိုက်ပွဲဆင်ထားကြပါတယ်။ ၁၀နာရီကျော်လောက်မှာတော့ ဖိတ်ကြားထားတဲ့ ဧည့်သည်များ၊ ကျောင်းသားသမဂ္ဂခေါင်းဆောင်ဟောင်းများ၊ တကသအမှုဆောင်များ၊ လူမျိုးစု

ကျောင်းသားကိုယ်စားလှယ်များ၊ သဟာယနှင့်စာဖတ်အသင်း အမှုဆောင်ကော်မတီများ သမဂ္ဂအစည်းအဝေးခန်းမမှာ နေရာယူကြပါတယ်။ အစည်းအဝေးခန်းမကြီးတခုလုံး ကျောင်းသားကျောင်းသူတွေနဲ့ ပြည့်လျှံနေပါတယ်။

ကျနော်နဲ့ သူငယ်ချင်းတစုက အစည်းအဝေးခန်းမရဲ့ နောက်ကျောဘက်မှာ နေရာယူကြပါတယ်။ အစည်းအဝေးခန်းမ ပြည့်လျှံနေလို့ တချို့က တက္ကသိုလ်မြက်ခင်းပြင်ကနေ အစည်းအဝေး မိန့်ခွန်းတွေ နားထောင်နေကြရတယ်။

သမဂ္ဂအစည်းအဝေး စင်မြင့်ပေါ်က အုတ်နံရံမှာ ခွပ်ဒေါင်းအလံတော်ကို အလျားလိုက်ချိတ်ဆွဲထားတယ်။ ရောင်စုံအလံများနဲ့ နံရံကပ်ပိုစတာများလည်း တခန်းလုံး ပြည့်နှက်နေပါပြီ။ ခွပ်ဒေါင်းအလံတော်ရဲ့ အောက်မှာတော့ ကျောင်းသားခေါင်းဆောင် ကိုအောင်ဆန်းတို့ရဲ့ ဓာတ်ပုံကြီးများ ချိတ်ဆွဲထားတယ်။ ကျောင်းသားကျောင်းသူအားလုံး နေရာယူပြီးတာနဲ့ အစည်းအဝေး အခမ်းအနား စတင်ပါတယ်။

အခမ်းအနားမှူး ကျောင်းသားခေါင်းဆောင် ကိုသက်က အစည်းအဝေးကြီး ဖွင့်လှစ်ကြောင်း ကြေညာတာနဲ့ တပြိုင်နက် လက်ခုပ်လက်ဝါးသံများ၊ ကြွေးကြော်သံများ မိုးလုံးညံသွားပါတော့တယ်။ အခမ်းအနား စစချင်း ခွပ်ဒေါင်းအလံကို အလေးပြုကြပါတယ်။ ဒီနောက် နယ်ချဲ့ဆန့်ကျင်ရေး၊ ဖက်ဆစ်တော်လှန်ရေးကာလမှာ ကျဆုံးသွားကြတဲ့ အာဇာနည်ကျောင်းသားခေါင်းဆောင် ဗိုလ်အောင်ကျော်နဲ့တကွ အာဇာနည်ကျောင်းသားရဲဘော်တွေကို အလေးပြုကြပါတယ်။ ခန်းမတွင်းက ကျောင်းသားထုကြီးလည်း အပ်ကျသံပင် ကြားနိုင်လောက်အောင် ခေတ္တငြိမ်သက်သွားတယ်။ ကိုသက်က "ရဲဘော်တို့ စစ်သံခွာအောက်မှာ ရောက်နေတဲ့ မတရားတဲ့ အဆောင်စည်းကမ်းတွေကို တိုက်ဖျက်ကြ"ဆိုတဲ့ ရဲရဲတောက် ကြွေးကြော်သံကို လက်သီးလက်မောင်းတန်းပြီး တိုင်လိုက်တော့ လက်ခုပ်လက်ဝါးသံများ အဓိပတိခန်းမကြီးဆီသို့တိုင် ပဲ့တင်ထပ်သွားပါတော့တယ်။

ကိုယ်လုံးကိုယ်ထည် အနေတော်၊ အရပ်အမောင်း ခပ်ပြတ်ပြတ်၊ နဖူးပြောင်ပြောင် ဆံပင်နောက်ပြန်ဖြီးထားပြီး တိုက်ပုံအင်္ကျီက ခပ်နွမ်းနွမ်း၊ လုံချည်က ခပ်တိုတို ကပိုကရို စည်းထားတဲ့ ကိုသက်ရဲ့ နှိမ့်ချီမြင့်ချီ သံစဉ်အားမန်အပြည့်နဲ့ တစ်ချက်ပြီးတစ်ချက် တင်နေတဲ့ တောင်းဆိုချက် ကြွေးကြော်သံတွေဟာ ကျောင်းသားထုတရပ်လုံးရဲ့ နှလုံးသားတွေထဲ သံမှိုနဲ့ ဆွဲချလိုက်သလို လေးလေးနက်နက် စူးဝင်တုန်ခါ ကျန်ရစ်စေပါတော့တယ်။

ကိုသက်ဟာ ကျနော်တို့ ရန်ကုန်တက္ကသိုလ်ဟိုက်စကူး (နောင် ဗဟိုစံပြအထက်တန်းကျောင်း)က ကျောင်းသားဟောင်းတဦး ဖြစ်ပါတယ်။ ရန်ကုန်ဟိုက်စကူးဟာ မြို့မအမျိုးသားအထက်တန်းကျောင်းလို ကိုလိုနီခေတ်ကစပြီး နယ်ချဲ့ဆန့်ကျင်ရေး မျိုးချစ်စိတ်ဓာတ်ထက်သန်တဲ့ ကျောင်းသားလူငယ်အများအပြား မွေးထုတ်ပေးခဲ့ပါတယ်။ ကိုသက်ဟာ ကျောင်းသားကျောင်းသူတွေရဲ့ သာရေး၊ နာရေး၊ လူမှုရေးတွေကို အားတက်သရော ကူညီလေ့ရှိပါတယ်။

တက္ကသိုလ်ကျောင်းဆောင်တွေရဲ့ နာရေးကိစ္စပေါ်လာတိုင်း အဆောင်ရှေ့မှာ ဘတ်(စ်)ကားတစီး ရောက်လာလေ့ရှိတယ်။ နာရေးအတွက် အဆောင်နေကျောင်းသားကျောင်းသူတွေကို လာကြိုတာပါ။ သက်ဆိုင်ရာ ကျောင်းသားကျောင်းသူရဲ့ အမိန့်ပြန်တမ်းကိုလည်း ကျောင်းသားထုကိုယ်စား ဖတ်ကြားပြီး နောက်ဆုံး နှုတ်ဆက်လေ့ရှိပါတယ်။ ကိုသက်ဟာ ကျောင်းသားကျောင်းသူတွေရဲ့ နာရေး အပါအဝင် လူမှုရေးတွေကိုလည်း အဲဒီလို တက်တက်ကြွကြွ ကူညီတတ်သူတဦးပါ။

အခမ်းအနားမှူး ကိုသက် အဆိုတင်သွင်းပြီးနောက်မှာ ကျောင်းသားခေါင်းဆောင်ကိုဗဆွေလေးက သဘာပတိ အစီရင်ခံစာ တင်သွင်းတယ်။ ကိုဗဆွေလေးက ကိုလိုနီပညာရေးစနစ်တိုက်ဖျက်ရေး၊ တန်းခွဲတန်းချစနစ်တိုက်ဖျက်ရေး၊ ဒီမိုကရေစီပညာရေး၊ ကျောင်းသားအခွင့်အရေး စတာတို့ကို အကျယ်အပြန့်ဆွေးနွေးအစီရင်ခံသွားတယ်။ ရန်ကုန်တက္ကသိုလ်ကောင်စီ၊ တက္ကသိုလ်ဆီးနိတ်အဖွဲ့မှာ ကျောင်းသားသမဂ္ဂကိုယ်စားလှယ်ထားရှိခွင့်ပြုရေးတို့ကို နယ်ချဲ့

ဆန္ဒကျင်ရေးကာလ ကျောင်းသားထုသမိုင်းများနဲ့ လေးလေးနက်နက် ရှင်းလင်းတင်ပြသွားပါတယ်။

သဘာပတိ ကိုဗဆွေလေးရဲ့ တင်ပြချက်များကို တကသ၊ ဗကသ၊ ရကသ ကျောင်းသားကိုယ်စားလှယ်များက ထောက်ခံဆွေးနွေးကြတယ်။ ရှမ်းပြည်နယ် ကျောင်းသားကိုယ်စားလှယ်အနေနဲ့ ရှမ်းခေါင်းပေါင်း စတိုတို ရှမ်းရိုးရာဝတ်စုံကို သပ်သပ်ရပ်ရပ် ဝတ်ဆင်ထားတဲ့ စိုင်းအောင်ဝင်းကလည်း သဘာပတိရဲ့ အဆိုကို ထောက်ခံဆွေးနွေးသွားတယ်။ မွန်းတည့် (၁)နာရီကျော်မှာ ကျောင်းသားကိုယ်စားလှယ်အသီးသီးရဲ့ အဆိုပြုချက်တင်ပြကန့်ကွက်ချက်တွေကို အတည်ပြုကြပြီး ဇူလိုင် (၇)ရက် ကျောင်းသားထုအစည်းအဝေးကြီးကို အောင်မြင်စွာကျင်းပပြီးစီးသွားပါတယ်။

ရန်ကုန်တက္ကသိုလ် ကျောင်းသားများသမဂ္ဂက ဦးစီးကျင်းပတဲ့ ကျောင်းသားထု အစည်းအဝေးကြီးရဲ့ ဆုံးဖြတ်ချက်အနေနှင့် "မတရားတဲ့ အဆောင်စည်းကမ်းဖျက်သိမ်းရေး" ကျောင်းသားထု ဆန္ဒပြပွဲကို ကျောင်းသားသမဂ္ဂအဆောက်အဦ ပတ်လည်မှာ စီတန်းလှည့်လည်ရန် တင်ပြရင်း အစည်းအဝေးကြီး ခေတ္တရပ်နားလိုက်ပါတယ်။ ကြွေးကြော်သံများ လက်ခုပ်လက်ဝါးသံများဟာ ကျောင်းသားသမဂ္ဂအဆောက်အဦကြီးတောင် တုန်လှုပ်သွားခမန်း မိုးလုံးညံသွားပါသည်။

အစည်းအဝေးကြီး ခေတ္တရပ်နားလိုက်တော့ တချို့ ကျောင်းသူကျောင်းသားတွေ အဆောင်ပြန်ကြတယ်။ တချို့ကလည်း သမဂ္ဂစားသောက်ဆိုင်မှာ ဝင်ထိုင်ကြတယ်။ တချို့ကတော့ မြက်ခင်းပြင်မှာ စကားလက်ဆုံကျနေကြပါတယ်။ ကျနော်နဲ့ သူငယ်ချင်းတစုလည်း ရန်ကုန်မြို့ထဲ ထွက်လည်ကြတယ်။ ညနေ ၃နာရီကျော်မှာ ဆူးလေဘုရားလမ်း ကားဂိတ် အမှတ်(၈)ကားနဲ့ အဆောင်ကို ပြန်လာတယ်။ ကုက္ကိုင်းလမ်းဆုံမှာ ကျောင်းသားကျောင်းသူတွေ ဟိုတစု ဒီတစု စကားတီးတိုး ပြောနေကြတယ်။ နောက်ဘယ်သူ ဘယ်ဝါက စပြောလိုက်မှန်း မမှတ်မိတော့ပါ။ "ခင်ဗျားတို့ကား ဆက်မထွက်ဘူး၊ လိုင်းကားတွေ ကျောင်းထဲဝင်လို့မရဘူး။ အဝိုင်းလေးဘက်က သေနတ်သံ ကြားတယ်။ စစ်တပ်က သေနတ်သံနဲ့ ပစ်လို့ ကျောင်းသားတချို့ သေကုန်ပြီ။ သမဂ္ဂကိုလည်း စစ်သားတွေ ဝိုင်းထားတယ်"တဲ့။ အဆောင်နေ ကျောင်းသူကျောင်းသားတချို့လည်း ခရီးလွန်နေကြလို့ အဆောင်မှာ ဘာတွေဖြစ်နေကြလဲ မသိတော့ပါ။ ကျနော်တို့လည်း လိုင်းကားဆက်မထွက်လို့ အင်းလျားလမ်းမကြီးအတိုင်း ခြေလျင်အပြေးအလွှား လျှောက်ကြတယ်။ ကျောင်းသူကျောင်းသားအချို့လည်း အိမ်ကြိုအိမ်ကြားဖြတ်၊ ခြံစည်းရိုးတွေ အတန်တန်ကျော်ပြီး ကိုယ့်အဆောင်ကို အရောက်ပြန်ကြရတယ်။

ကျနော်တို့လည်း ဆရာ၊ ဆရာမတွေရဲ့ အိမ်ကြားတွေကဖြတ် ခြံစည်းရိုးကျော်ပြီး ပုဂံလမ်းကနေ ပိတောက်လမ်းလျှောက်လာတော့ သထုံဆောင်ထိပ်က ပိတောက်လမ်းဆုံမှာ မောင်းပြန်သေနတ်ကိုင်ထားတဲ့ စစ်သားတယောက်နဲ့ တွေ့တယ်။ ကျနော်တို့ ဆက်လျှောက်တော့ စစ်ဗိုလ်တယောက် ဘယ်ကထွက်လာတယ်မသိဘူး။ "မင်းတို့ အဆောင်သွားလို့ မရဘူး"ဆိုတဲ့ တုံးတိတိ ပြောသံကြားလိုက်ရတယ်။ ကျနော်တို့ ကျောင်းဆောင်လမ်းတွေကို စစ်သားတွေက ပိတ်ထားလိုက်ပြီဆိုတာ မျက်မြင်ကိုယ်တွေ့ ကြုံကြပြီ။ တက္ကသိုလ်စာတိုက်နဲ့ အဝိုင်းလေးတဝိုက်မှာ မောင်းပြန်သေနတ်နဲ့ စစ်သားတွေကိုလည်း တွေ့နေကြရတယ်။ ကျောင်းဆောင်အရောက်ပြန်ကြမယ် ဆိုပြီး တက္ကသိုလ်နည်းပြဆရာတွေ ကထိကတွေနေတဲ့ အဆောင်ဘက်ဆီ လှည့်ပြီး ခြံစည်းရိုးတွေ၊ တိုက်ကြားတွေ ကျော်နေကြတယ်။

တက္ကသိုလ်နယ်မြေ ခြံစည်းရိုးကျော်ဖြတ်တာ ကျွမ်းနေကြလို့ နွားရိုင်းသွင်းချိန်မှ ပါမောက္ခအိမ်တွေ ဖြတ်ကျော်ပြီး သထုံဆောင်ဘေးရောက်လာတယ်။ ကျနော်က ပင်းယဆောင်ဘက်ကို ကော်ရစ်ဒါကနေ ဖြတ်ကျော်သွားတယ်။

ကျနော်တို့ အဆောင်ရှေ့ ပြန်ရောက်တော့ သူငယ်ချင်းတွေ ဟိုတစု ဒီတစု စကားပြောနေတာ တွေ့ရတယ်။ အဆောင်ပတ်ဝန်းကျင်တခုလုံး တိတ်ဆိတ်နေတယ်။ ကိုယ့်အဆောင် ကိုယ်ပြန်ရောက်တော့ ဝမ်းနည်းလာတယ်။ ဝမ်းနည်းသလို ခံစားရတယ်။ ဝမ်းသာ

တာက ကိုယ်အခန်းကိုယ်ပြန်ရောက်တာကိုး။ ဝမ်းနည်းသလို ခံစားရတာက အဆောင်နေကျောင်းသားတွေရဲ့ မျက်နှာက ညှိုးမည်းပြီး စိတ်မသက်မသာ ခံစားနေရတဲ့ ပုံဟာ အတိုင်းသားပေါ်နေကြပါတယ်။

ကျနော်လည်း အခန်းသော့ဖွင့်ပြီး တခြားအခန်းတွေ လျှောက်ကြည့်တယ်။ အဆောင်နေကျောင်းသားတွေ အများအပြား ပြန်မလာကြဘူး။ တစ်ချို့အခန်းက သော့ပိတ်ထားဆဲ။ တစ်ချို့အခန်းက သော့တန်းလန်းနဲ့ ကျောင်းသားပေါင်း ၂၀၀ နီးပါးရှိတဲ့ ကျနော်တို့ အဆောင်ဟာ ကျောင်းသား ၅၀ကျော်လောက်ပဲ အဆောင်မှာ ကျန်တော့တယ်။ ဘယ်ရောက်လို့ ဘယ်ပေါက်ကုန်မှန်း မသိတော့ဘူး။

သထုံဆောင်၊ စစ်ကိုင်းဆောင်၊ ပဲခူးဆောင်၊ ရွှေဘိုဆောင်တွေမှာလည်း ကျောင်းသားအများစု ပြန်မလာကြဘူး။ ကျောင်းဆောင်မှာ ကျန်တဲ့ ကျောင်းသားအများစုကတော့ ရပ်ဝေးနယ်ဝေး ကျောင်းသားတွေများတယ်။

ညနေ ၆နာရီလောက်မှာ G-3, G-4 မောင်းပြန်သေနတ်ကိုင် အသင့်အနေအထားနဲ့ စစ်သားတွေ အဓိပတိလမ်းမကြီးအတိုင်း နေရာတင်ယူလာတာ အဆောင်ထဲကနေ မြင်နေရတယ်။ အဆောင်ရှေ့က မိန်းတံခါးကြီးကိုလည်း သော့ခပ်ပိတ်ထားပြီး စစ်ဗိုလ်တယောက် တံခါးဝမှာ စောင့်နေတယ်။ အဓိပတိလမ်းမကြီးဖြတ်ပြီး တောင်ငူ၊ မန္တလေးကျောင်းဆောင်ဘက် သွားလို့မရတော့ဘူး။ ကျောင်းဆောင်ဘက် သွားလို့မရတော့ဘူး။ ကျောင်းဆောင်တစ်ခုနဲ့ တစ်ခုသွားလာတာ ပိတ်လိုက်ပြီ။

ကျနော်လည်း အချိန်ရတုန်း ကျနော်တို့အညာက သူငယ်ချင်းသိန်းနိုင်နေတဲ့ အင်းဝဆောင်ဘက် သွားတယ်။ သူငယ်ချင်းကို အခန်းထဲမှာပဲ သွားတွေ့တော့ တော်တော်ပျော်သွားတယ်။ ဘယ်လိုဖြစ်ကြတာလဲ၊ အခြေအနေဖြစ်ကြောင်းကုန်စင် သူငယ်ချင်းကိုပဲ မေးရတော့တယ်။

"မင်းတို့ အစည်းအဝေးပြီးလို့ မြို့ထဲထွက်သွားပြီးတဲ့နောက်မှာ အရပ်ဝတ် ဝတ်ထားတဲ့ စစ်စုံထောက်တွေ သမဂ္ဂအဆောက်အဦးထဲ ရောက်လာတယ်။ ရဲတချို့လည်း နောက်မှာ ကပ်ပါလာတယ်လို့ သိရတယ်။ အရပ်ဝတ် ဝတ်ထားတဲ့ စစ်စုံထောက်တွေက ကျောင်းသားခေါင်းဆောင်တွေကို ဝင်ဖမ်းတယ်။ ကျောင်းသားနဲ့ စစ်စုံထောက်တွေ အပြန်အလှန် ထိုးကြိတ်ကြပြီး ရုန်းရင်းဆန်ခတ် ဖြစ်ကြတယ်။ ကျောင်းသားတွေကလည်း စုံထောက်တွေနဲ့ ရဲတွေကို တွေ့ရာခဲတွေနဲ့ ပစ်ပေါက်ကြတော့ ရဲတွေနောက်က တပ်ကလည်း ပြန်ပါလာပြီး ကျောင်းသားတွေကို သေနတ်တွေနဲ့ ခြိမ်းခြောက်ကြတယ်။ မျက်ရည်ယိုဗုံးတွေနဲ့ ကျောင်းသားတွေကို လူစုခွဲတယ်။

ညနေ ၅ နာရီကျော်လောက်မှာ စစ်ကား(၂) စီးရောက်လာပြီး မန္တလေးဆောင်၊ ရာမညဆောင်နဲ့ အဓိပတိလမ်းမတလျှောက် မောင်းပြန်သေနတ်တွေနဲ့ ပစ်တော့တာပဲ။ သေနတ်စပစ်တော့ ကျောင်းသားတွေလည်း ဦးတည့်ရာပြေးကြတယ်။ "ငါလည်း မန္တလေးကျောင်းဆောင်ရှေ့က အဓိပတိလမ်းမကြီးရဲ့ ရေမြောင်းအတိုင်း ပြေးလာလို့ အဆောင်ပြန်ရောက်တာ။ နို့မဟုတ်ရင် မင်းနဲ့ငါ တွေ့ကြရမှာမဟုတ်ဘူး"လို့ ဝမ်းနည်းပက်လက် ပြောပြတယ်။

ပြီးတော့ ..... "အဓိပတိလမ်းမကြီးပေါ်က ပြေးနေကြတဲ့ ကျောင်းသားတွေကတော့ သေနတ်ဒဏ်ရာနဲ့ သွေးရဲရဲ အတုံးအရုံး လဲကျသွားကြတယ်။ မန္တလေးကျောင်းဆောင် ပေါ်တီကိုပေါ်က ရပ်ကြည့်နေတဲ့ ကျောင်းသားကို G-3 မောင်းပြန်သေနတ်နဲ့ပစ်တာ မြေညီထပ်ကျပြီး အသက်ပျောက်သွားတယ်။ စစ်သားတွေဟာ ကျောင်းသားတွေကို အပြေးချီတက်ပြီး တိုက်ခိုက်ကာ ပင်းယကျောင်းဆောင်ရှေ့အထိ ရောက်လာတယ်"လို့ ဆက်ပြောတယ်။ ကျနော်တို့ရဲ့ ပင်းယဆောင်ရှေ့အထိ ရောက်လာတယ်"လို့ ဆက်ပြောတယ်။ ကျနော်တို့ရဲ့ ပင်းယဆောင်ပေါ်တီကို လေးထောင့်တိုင်ကြီးမျက်နှာစာမှာလည်း သေနတ်ကျည်ဆန်ရာ လေးငါးပေါက် တွေ့ရတယ်။ ကျနော်တို့ အဆောင်ကျောင်းသားတွေနဲ့ ကျနော်တို့ကို လက်ညှိုးထိုးပြီး လှည့်ကြည့်ကြတယ်။

အဆောင်တွေကိုလည်း အဝေးကနေ သေနတ်နဲ့ လှမ်းပစ်တယ်။ ကျနော်သူငယ်ချင်း ညောင်လေးပင်

က ကျောင်းသားဟာ ကျည်ဆန် ၃ ချက် ထိပြီး လဲသွားတယ်။ ဆေးရုံကြီးကို အချိန်မီရောက်လို့ အသက်ရှင်နေပေမဲ့ ပါးစပ်ရွဲ့ ပါးကျိုးနဲ့ မျက်နှာတစ်ပိုင်း ပျက်စီးသွားရတယ်။ တချို့ကျောင်းသားတွေဟာ သေနတ်ဒဏ်ရာနဲ့ ကျောင်းသားသမဂ္ဂအဆောက်အဦထဲမှာ ဝင်ပုန်းနေကြရတယ်။ မြောင်းမြမှ ကျောင်းသား ကိုကျော်ဝင်းဟာ သေနတ်ဒဏ်ရာရခဲ့ပြီး နံရံမှာ သူ့သွေးနဲ့ စာရေးသွားခဲ့တယ်။ ကျောင်းသားအများအပြား ကျဆုံးခဲ့ရပြီး တချို့အင်းစိန်ထောင်မှာ ထိန်းသိမ်းဖမ်းဆီးထားခြင်း ခံနေကြရပြီ။

စစ်အစိုးရက ကျောင်းသား ၁၇ ဦးသာ သေဆုံးကြောင်း ရေဒီယိုမှ ကြေညာပေမယ့် အားလုံးပေါင်း သေကြေဒဏ်ရာရတာ အယောက် ၁၀၀ကျော်ပါတယ်။ ည ၆ နာရီကျော်လောက်မှာ ကျနော်တို့ အဆောင်တံခါးကို သော့လာခတ်ပါတယ်။ အလားတူ ပဲခူး၊ သထုံ၊ အင်းဝ၊ ရွှေဘို၊ စစ်ကိုင်း ကျောင်းဆောင်တွေကိုလည်း တံခါးသော့ခတ်လိုက်ပါတယ်။ ကျောင်းသားတွေ တဆောင်နဲ့ တဆောင် သွားလည်လို့ မရတော့ပါ။ အဓိပတိလမ်းမကြီးရဲ့ တဖက်မှာရှိတဲ့ မန္တလေး၊ တောင်ငူ၊ ရာမည စတဲ့ အမျိုးသားကျောင်းဆောင်တွေနဲ့ အင်လျား၊ ရတနာ၊ သီရိ စတဲ့ အမျိုးသမီးကျောင်းဆောင်တွေနဲ့ပါ အဆက်ပြတ်သွားတော့ အဲဒီဘက်က ဘာတွေ ဖြစ်ကုန်လည်းမသိရတော့ပါ။

အဓိပတိလမ်းမကြီးရဲ့ ကတ္တရာလမ်းမပေါ်မှာတော့ G3 သေနတ်ကို ကျောင်းဘက်ပြောင်းလှည့်ထားပြီး ဦးထုပ်ခေါင်းအုံးလုပ်ကာ ပက်လက်လှန်ပြီး စစ်သားများ နေရာယူ အိပ်စက်နားနေကြပါတယ်။ တက္ကသိုလ်ကျောင်းဆောင်အသီးသီး တိတ်ဆိတ်နေပါတယ်။ ကျောင်းသားအနည်းစုသာ သဟာယနှင့်စာဖတ်သင်းခန်းမှာ သတင်းစာဖတ်၊ ရေဒီယို နားထောင်နေကြတယ်။ ညဘက်မှောင်နေကြပေမယ့် ကျောင်းဆောင် တဆောင်နဲ့ တဆောင် သံချောင်းခေါက်ပြီး ဆက်သွယ်ကြတယ်။ တချက်တချက် အဆောင်ကြားက စစ်အစိုးရဆန့်ကျင်ရေး ကြွေးကြော်သံတွေ ကျယ်ကျယ်လောင်လောင် ထွက်ပေါ်လာပါတယ်။

ကျနော်နဲ့ အတူနေတဲ့ သူငယ်ချင်း ဝင်းနိုင်လည်း ပြန်ရောက်လာတာမို့ တယောက်နဲ့တယောက် တီးတိုးစကားပြောကြတုန်း မီးပျက်သွားပါတယ်။ တခြားအခန်းတွေလည်း မီးရောင်မတွေ့ရတော့ပါ။ တက္ကသိုလ်ကျောင်းဆောင်တွေကို စစ်အစိုးရက မီးဖြတ်၊ အဆောင်တံခါးတွေ ချိတ်ပိတ်ပြီး တက္ကသိုလ်နယ်မြေ တခုလုံး စစ်တန်းလျား လုပ်လိုက်ပါပြီ။

ရန်ကုန်တက္ကသိုလ်ကြီးရဲ့ အသဲနှလုံး အဓိပတိလမ်းမပေါ် စစ်ဖိနပ်သံတွေ ကျူးကျော်ရောက်ရှိနေပါပြီ။ သားကောင်းရတနာ၊ သမီးကောင်းရတနာ ကျောင်းသားကျောင်းသူတွေရဲ့ နီရဲတဲ့ သွေးစက်တွေ အမိတက္ကသိုလ်မြေ တပြင်လုံး စွန်းထင်းပေကျံနေရပါပြီ။ ယမ်းနဲ့ ယမ်းခိုး ရှူရှိုက်လိုက်ရတဲ့ ကံ့ကော်တောဟာ ကြေကွဲစွာ အမှောင်ရိပ်မှာ တိတ်ဆိတ်စွာ မျက်ရည်ကျနေပါပြီ။

ကျနော်တို့လည်း မှောင်ကြီးမဲမဲကြားမှာ ရင်နင့်စရာစကားတွေ ပြောကြရင်း မောမောနဲ့ အိပ်မောကျသွားပါတော့တယ်။

ဇူလိုင်လ (၈)ရက် ဝေလီဝေလင်းမှာ အဆောင်တစ်ခုလုံး တုန်လှုပ်သွားတဲ့ “ပေါက်ကွဲသံကြီး” မြည်ဟီးသံကြောင့် ကျနော်တို့ သူငယ်ချင်းနှစ်ယောက် အိပ်ရာက လန့်နိုးပါတယ်။ သူငယ်ချင်းဝင်းနိုင်က ကုတင်ပေါ်က လန့်ပြီး အခန်းအပြင် ထွက်ပြေးပါတယ်။ အခန်းတံခါးကလည်း တုန်လှုပ်ပြီး ပွင့်သွားပါတယ်။ ကျနော်လည်း အိပ်ရာကထပြီး ရေချိုးခန်းကနေ သထုံဆောင်ဘက် မျှော်ကြည့်လိုက်မိတယ်။

တက္ကသိုလ် အလေးမခန်းမဆောင်ဘက်က မိုးကောင်းကင်ကို မော့ကြည့်လိုက်တော့ မီးခိုးလုံးကြီးတွေ လိုမ့်တက်နေပါတယ်။ စာရွက်စာတမ်းတွေ လေထဲမှာ ပျံ့ဝဲပြီး မီးလောင်ပြာတွေ ကျလာနေပါတယ်။ ဘာဖြစ်မှန်းမသိကြလို့ ကျောင်းဆောင်ခန်းကနေ သထုံကျောင်းဆောင်ဘက်ဆီ ထွက်ကြည့်ကြတယ်။

တက္ကသိုလ်အလေးမအသင်း ခေါင်မိုးတွေ ပြိုကျနေတယ်။ နံရံတွေလည်း အက်ကြောင်းတွေနဲ့ ပြိုလဲနေတယ်။ မန္တလေးကျောင်းဆောင်ရဲ့ ကော်ရစ်ဒါလည်း အက်ကြောင်းပေါ်လာတယ်။ တောင်ငူတံခါးက ကျောက်တိုင်လည်း ဖုံးဒဏ်ကြောင့် အက်ကွဲသွားတယ်။

နောက် ကျောင်းသားသမဂ္ဂ အဆောက်အဦကြီးဘက် လှည့်ကြည့်တော့ ကျောင်းသားသမဂ္ဂ အဆောက်အဦကြီးဟာ သဲပုံစေတီလို။ ပြင်းထန်တဲ့ နံရံကပ်ဗုံးကြောင့် ပြိုကျပျက်စီးနေပါပြီ။ “စစ်အစိုးရက သမိုင်းဝင် ရန်ကုန်တက္ကသိုလ်ကျောင်းသားသမဂ္ဂ အဆောက်အဦကြီး”ကို မိုင်းဗုံးနဲ့ ဖြိုခွဲလိုက်ပြီ။

မီးလောင်ဗုံးရဲ့ ဒဏ်ကြောင့် မီးခိုးပြာများ အနံ့အသက်များဟာ တက္ကသိုလ်တခွင် လွင့်စင်နေပါတော့သည်။ နောက်စစ်သားများ မီးလောင်မြေ သမဂ္ဂ အဆောက်အဦတဝိုက် ကင်းချထားပါတယ်။

နံနက် ၇ နာရီကျော်လောက်မှာ ပြန်လာပြီး အလေးမရုံအတွင်း ဝင်ကြည့်ကြတယ်။ အလေးမရုံရဲ့ စားသောက်ခန်းလည်း ပျက်စီးသွားတယ်။ နို့ပုလင်းတွေ၊ ဖျော်ရည် ဘိလပ်ရည်ပုလင်းတွေလည်း ကွဲအက်ပြိုလဲနေတယ်။ (ကျနော်တို့ သူငယ်ချင်းတွေလည်း တညလုံး ဗိုက်ဆာနေကြတာမို့ ကောင်းတဲ့ နို့ပုလင်းတွေ ဆွဲယူပြီး ဗိုက်ဖြည့်လိုက်ရပါတော့သည်။)

အဆောင်နေကျောင်းသားတွေသာ သမဂ္ဂ မီးလောင်မြေကြည့်ပြီး ကိုယ့်အဆောင် ကိုယ်ပြန်ကြတယ်။ အဆောင်လည်း ပြန်ရောက်ကော ရေလည်းမလာ၊ မီးလည်းမလာ၊ ထမင်းလည်း မစားကြရတော့ပါ။ စစ်အစိုးရက အဆောင်နေကျောင်းသားတွေကို မီး၊ ရေ၊ ရိက္ခာ ဖြတ်လိုက်ပြန်ပါပြီ။ ကျောင်းဆောင်အတွင်း ကျောင်းသားတွေဟာ ဆူညံလာပြီး ဒေါသူပုန်ထကြပါတော့သည်။ သံချောင်းတွေ ခေါက်ကြပြီး “စစ်အစိုးရ အလိုမရှိ၊ အလိုမရှိ” ကြွေးကြော်သံတွေနဲ့ ကျောင်းသားသီချင်းများ ဆိုကြပါတယ်။ ရေဒီယိုနားထောင်နေတဲ့ ကျောင်းသားတယောက်က “ဗိုလ်နေဝင်း ရေဒီယိုကနေ မိန့်ခွန်းပြောမယ်”ဆိုလို့ ကျောင်းသားအများစုဟာ သဟာယနဲ့ စာဖတ်အသင်း အခန်းထဲ စုဝေးရောက်ရှိလာကြပါတယ်။

ဇူလိုက် (၈) ရက်နေ့ နံနက်(၈)နာရီ ရေဒီယိုသတင်းကနေပြီး ဗိုလ်နေဝင်းက “ဓားကိုဓားနဲ့ လှံကိုလှံနဲ့ ရင်ဆိုင်ဖို့ပဲရှိတော့တယ်”ဆိုတဲ့ ဓားဓားချင်း၊ လှံလှံချင်း မိန့်ခွန်းတိုနဲ့ ကျောင်းသားထုကြီးကို ခြိမ်းခြောက်ပြန်ပါတယ်။

ဗိုက်ရိုင်းလှချည်လား။ လက်နက်ဆိုလို့ အပ်တိုတချောင်းတောင်ကို မထားကြတဲ့ တိုင်းပြည်ရဲ့ အညွန့်အဖူး ကျောင်းသူကျောင်းသားတွေအပေါ် စစ်ရူးစစ်ဘီလူးသဘင်တွေပီပီ G3, G4 မောင်းပြန်သေနတ်တွေနဲ့ ထင်သလို ရမ်းကားသတ်ဖြတ်ပြီးတာတောင် အားမရနိုင်သေးဘဲ “ဓားကိုဓားချင်း လှံကိုလှံချင်း”လို့ ရမ်းရမ်းကားကား လူမိုက်စကား ခေါ်နေပြန်ပကလား။

အင်္ဂလိပ်နယ်ချဲ့များကတောင် လက်ဖျားနဲ့ မတို့ဝံ့ခဲ့တဲ့ သမိုင်းအစဉ်အလာကြီးမားလှတဲ့ ကျောင်းသားသမဂ္ဂ အဆောက်အဦကြီးကို ပြာပုံဖြစ်အောင် မိုင်းခွဲပြီး ဖြိုချရဲတာဟာ ရောမသတ္တိကြီးတဲ့လား။ စစ်အာဏာရှင် စစ်အာဏာရူးတွေဟာ အာဏာကလွဲလို့ ဘာမှတန်ဖိုးထားနားလည်သူတွေ မဟုတ်ကြောင်း ယုတ်မာကောက်ကျစ်သူတွေသာ ဖြစ်ကြောင်း ထပ်လောင်းဖော်ပြလိုက်တာပဲ ဖြစ်တယ်။ သူတို့ သေတောင် ဆပ်လို့ မကြေနိုင်တော့မယ့် သွေးကြွေးတွေ သမိုင်းကြွေးတွေ တင်ကျန်ခဲ့ပြီဆိုတာ အာဏာအဆိပ်တက်နေသူတွေ မသိနိုင်ခဲ့ပါကလား။

အဆောင်နေကျောင်းသားတွေ ၂၄နာရီအတွင်း အဆောင်က ထွက်ကြရမယ်တဲ့။

ရန်ကုန်တက္ကသိုလ်ကြီးကိုလည်း ရက်အကန့်အသတ်မရှိ ပိတ်လိုက်ပြီလို့ ကြေညာချက် ထုတ်ပြန်တယ်။

ကျောင်းဆောင်တွေမှာ နောက်ဆုံးကျန်နေတဲ့ ကျောင်းသားကလည်း ဗိုလ်နေဝင်းရဲ့ ထုတ်ပြန်ကြေညာချက်တွေကြောင့် စစ်အစိုးရပေါ် ကလဲ့စားချေချင်စိတ်တွေ ပိုပြီး တိုးလာတယ်။ စစ်အစိုးရရဲ့ ရန်လိုမုန်းထားမှုတွေကို နာကျည်းကြတယ်။ စစ်အစိုးရကို ကမ္ဘာမကြေ ဥဒါန်းမကြေ အတွင်းကြိတ်ပြီး စစ်ကြေညာတော့တယ်။

အဆောင်နေကျောင်းသားများ နံနက် ၁၀ နာရီ ထိုးပေမယ့် နံနက်စာ မစားကြရသေး။ နံနက် ၁၁ နာရီကျော်လောက်မှာ ကျောင်းသားရေးမှူး ဦးစံထွန်းနဲ့အတူ ဗိုလ်မှူးတဦး ပင်းယဆောင်ရှေ့မှာ ရောက်လာတယ်။ ကျောင်းသားရေးမှူးကို ကျောင်းသားတွေက အဝေးကနေ မြင်တွေ့ရင်ပဲ “တို့ ဆရာ လာပြီကွ၊ တို့ဆရာ လာပြီကွ”ဆိုပြီး အော်ဟစ်နှုတ်ဆက်ပါတယ်။ ကျောင်းသား

တစ်ချို့ကလည်း "ဆရာရေ ထမင်းမစားရသေးဘူး၊ ထမင်းဆာလှပြီ" ဟု အော်ကြသည်။ ကျောင်းသားရေးမှူး ဦးစံထွန်းက "မင်းတို့မပူကြနဲ့ ဆရာလာပြီ၊ မင်းတို့ ထမင်းစားဖို့ ပြင်ဦးမယ်"လို့ ရင်ဆို့သံကြီးနဲ့ ပြန်ပြောပါတယ်။

ကျနော်တို့ ကျောင်းသားရေးမှူး ဦးစံထွန်း ဟာ အမြဲတမ်း ပြုံးရွှင်ဖော်ရွေနေတဲ့ မျက်နှာသွင် ပြင်ရှိပါတယ်။ ကျောင်းသားကျောင်းသူတွေနဲ့ တပြုံးပြုံး စကားပြောလေ့ရှိပါတယ်။ ကျောင်းသားထုက ကျောင်းသားရေးမှူး ဦးစံထွန်းကို ချစ်လည်းချစ်ခင်၊ လေးလည်းလေးစားကြတယ်။ ဆရာ့ရဲ့ ဆုံးမဖျောင်းဖျမှုတွေကိုလည်း လက်ခံကြတယ်။ အခုအကြိမ် ဆရာမျက်နှာဟာ အပြုံးရောင် မသန်းနိုင်တော့ပါ။ ဆရာ့ရဲ့ မျက်နှာကြီးဟာ ညှိုးငယ်နေပါတယ်။ ငိုမလိုလိုနဲ့ မဲ့နေပါတယ်။ ငါတို့ဆရာလည်း ငါတို့လို ခံစားနေရပြီဆိုတာ ဆရာရဲ့ မတက်မကြွ လှုပ်ရှားမှုတွေဟာ ဖော်ပြနေပါပြီ။

တစ်ချို့ကျောင်းသားတွေက လက်ခုပ်လက်ဝါးတီး ရုံမက သံတိုင်များခေါက်ပြီး "ငါတို့ ဆရာကွ။ ငါတို့ဆရာ"လို့ အားပေးနှုတ်ဆက်ကြတယ်။ ဆရာဟာ အဆောင် ၅ ဆောင် ကျောင်းသားတွေကို သွားရောက်နှုတ်ဆက် အားပေးစကားပြောပြီး ကျောင်းဆောင်တွေကို ကျော်ပေးပြီး ဗိုလ်မှူးတစ်ဦးနဲ့ ခေါင်းငိုက်စိုက်ချပြီး ထွက်သွားပါတော့တယ်။

၆၂ ခုနှစ်က ကျောင်းသားရေးမှူး ဦးစံထွန်းနဲ့ ဦးယုခင် ကျောင်းသားရေးမှူး နှစ်ယောက်ရှိပါတယ်။ ဆရာဦးစံထွန်း အနားယူပြီးနောက် ဆရာဦးယုခင် တာဝန်ယူပါတယ်။ ၆၄ ခုနှစ်ရောက်တော့ ကျောင်းသားရေးမှူးစနစ်များ ဖျက်သိမ်းလိုက်ပါတယ်။ မွန်းတည့် ၁၂နာရီခန့်မှာ ကျောင်းဆောင် ၆ ဆောင်က ကျောင်းသားတွေစုစည်းပြီး သထုံကျောင်းဆောင် ထမင်းစားခန်းမမှာ ထမင်းကြော်ပြီး ကျွေးပါတယ်။ ပဲခူး၊ ပင်းယ၊ ရွှေဘို၊ စစ်ကိုင်း၊ အင်းဝ၊ သထုံ ကျောင်းဆောင်မှာ ကျန်နေတဲ့ ကျောင်းသား ၁၀၀ ကျော် အတွေးကိုယ်စီနဲ့ ထမင်းကြော် စားနေကြတာ ကြည့်ရင်း ရင်ထဲမှာ တခုခုလိုနေသလို ခံစားရတယ်။

ရန်ကုန်တက္ကသိုလ်နယ်မြေရှိ ပင်မအဆောင်တွေ မန္တလေး၊ တောင်ငူကျောင်းဆောင်တွေ၊ အင်းလျား၊ ရတနာအမျိုးသမီးကျောင်းဆောင်တွေမှာ ကျန်ရှိနေတဲ့ ကျောင်းသူကျောင်းသားတွေ အားလုံး ဇူလိုင်(၉)ရက်နေ့ နံနက်၁၂နာရီ နောက်ဆုံးထားပြီး အဆောင်များက ထွက်ခွာရန် အမိန့်ထုတ်ပြန်ထားတာမို့ ကျောင်းသူကျောင်းသားအားလုံး အမိတက္ကသိုလ်နယ်မြေက မခွဲခွာချင်ဘဲနဲ့ ထွက်ခွာကြရမှာမို့ မတက်မကြွနဲ့ အထုပ်အပိုး ပြင်ဆင်နေကြပါတယ်။ အဆောင်အသီးသီးက အဆောင်မှူးတွေကလည်း တက္ကသိုလ်ကျောင်းကြီး ရက်အကန့်အသတ်မရှိ ပိတ်လိုက်တာမို့ မိမိအရပ်ပြန်ပြီး အနားယူကြရန် ဖျောင်းဖျပြောဆိုပါတယ်။ ကားဂိတ်၊ မီးရထားဘူတာ၊ လေယာဉ်ကွင်းအထိ လိုက်လံပို့ဆောင်ပေးမယ်လို့လည်း ဆိုလာပါတယ်။ အဆောင်ကျောင်းသားများလည်း မွန်းတည့် ၁၂ နာရီထိုးမှာ အဆောင်အသီးသီးက ထွက်ခွာကြရပါတော့တယ်။

ကျနော်လည်း စိတ်လက်လေးလံစွာနဲ့ အထုပ်အပိုး တနိုင်သယ်ပြီး အဆောင်ရှေ့မှာ အသင့်စောင့်နေတဲ့ တက္ကစီကားပေါ် တက်လိုက်ရပါတယ်။ ကားလေးဟာ အဆောင်ရှေ့ထွက်လာပြီး အဓိပတိလမ်းမကြီးအတိုင်း အဝိုင်းလေးကို ဦးတည်မောင်းနေတယ်။ လမ်းမကြီးရဲ့ ဝဲယာမှာ သမဂ္ဂအဆောက်အဦမီးလောင်မြေမှာ မောင်းပြန်သေနတ်တွေနဲ့ ကင်းလှည့်နေတဲ့ စစ်သားတွေကို ငေးမောကြည့်ရင်း သုသာန်တစပြင်မှာ အောင်သေအောင်သား စားရန် ဆိုင်းငံ့နေတဲ့ လင်းတငှက်တို့ကို မြင်ယောင်နေရင်း အံကိုတင်းတင်းကြိတ်မိရင်း ကားဘီးလိမ့်ရာမှာ ရန်ကုန်ဘူတာကြီးဆီ လိုက်ပါသွားရပါတော့တယ်။ ဇူလိုင်(၇)ရက်အရေးတော်ပုံကြီးမှာ ကျဆုံးသွားကြတဲ့ အာဇာနည်ကျောင်းသူကျောင်းသားအပေါင်းအား ဦးညွှတ်အလေးပြုလိုက်ပါသည်။

**အခန်းအမှတ်(၅၀)**
**ပင်းယဆောင်**
**ရန်ကုန်တက္ကသိုလ်**
**ကျောင်းသားဟောင်းတဦး**

# တမာပင်ရိပ်က သမဂ္ဂအဆောက်အဦလေး

ဗမာပြည်မှာ တက္ကသိုလ်ကျောင်းသားများသမဂ္ဂ အဆောက်အဦ များများစားစားမရှိပါ။ သမိုင်းဝင် ရန်ကုန်တက္ကသိုလ်ကျောင်းသားများသမဂ္ဂ အဆောက်အဦ အပြင် မန္တလေးတက္ကသိုလ်ကျောင်းသားများသမဂ္ဂ အဆောက်အဦကိုသာ ကျွန်တော်သိပါသည်။ တခြား မကြားဖူးပါ။ တက္ကသိုလ်ကျောင်းသားများသမဂ္ဂများ သမဂ္ဂတွေရပ်တည်ခွင့်ရှိစဉ်က တက္ကသိုလ်ဆိုလို့ ရန်ကုန်တက္ကသိုလ်၊ မန္တလေးတက္ကသိုလ်၊ မော်လမြိုင်တက္ကသိုလ်နဲ့ မကွေးကောလိပ်၊ နောက်ပြီး ရန်ကုန်နဲ့ မန္တလေးတို့က ဆေးတက္ကသိုလ်တွေ၊ အင်ဂျင်နီယာတက္ကသိုလ်တို့သာရှိပါသည်။ နောင်မှာ တောင်ကြီးကောလိပ်၊ ပုသိမ်ကောလိပ် စသည်ဖြင့် ပေါ်လာသည်။ သို့သော်ထိုအချိန်မှာ ကျောင်းသားသမဂ္ဂများ ကျောင်းပရဝဏ်ထဲကနေ ထွက်ခွာလုဆဲဆဲ ဖြစ်ပါသည်။ အထက်တန်းကျောင်းသားများက သမဂ္ဂများ၏ ကံကြမ္မာလည်း တထပ်တည်း ဖြစ်ပါသည်။

မန္တလေးတက္ကသိုလ်ကျောင်းသားသမဂ္ဂ အဆောက်အဦမှာ သမိုင်းဝင် ရန်ကုန်တက္ကသိုလ်ကျောင်းသားသမဂ္ဂနှင့် နှိုင်းစာမည်ဆိုလျှင် အဖက်ဖက်က မယှဉ်သာပါ။ ရန်ကုန်တက္ကသိုလ်က အဆောက်အဦမှာ ပြည်သူတရပ်လုံး၏ နယ်ချဲ့ဆန့်ကျင်ရေး အရှိန်အဟုန်နှင့်အတူ စိတ်တက်ကြွနေသော သူဌေးဦးညိုက လှူဒါန်းတည်ဆောက်ပေးခဲ့သော နှစ်ထပ်အဆောက်အဦကြီးဖြစ်ပါသည်။ မန္တလေးတက္ကသိုလ်က အဆောက်အဦကတော့ တက္ကသိုလ်က ဆောက်ထားသော ထမင်းစားဆောင်များထဲက အဆောင်တစ်ဆောင်ကို သမဂ္ဂရုံးလုပ်ရန် ကျောင်းက သတ်မှတ်ပေးထားခြင်း ဖြစ်သည်။

ဤနေရာတွင်ဖြတ်၍ပြောလိုသော အချက်တချက်ရှိသည်။ ဗမာပြည်တွင် ကျောင်းသားသမဂ္ဂဆိုသည်မှာ ပြည်သူလူထုတိုက်ပွဲအဟုန်ဖြင့် ပေါ်ထွက်လာခြင်းဖြစ်သည်နှင့်အညီ တက္ကသိုလ်ကျောင်းသားများသည် စာသင်နှစ်တနှစ်စလို့ ငွေပေးသွင်းကြရာတွင် သမဂ္ဂကြေးဟူ၍ သုံးကျပ်ပေးသွင်းရပါသည်။ သမဂ္ဂအတွက် ကျောင်းအုပ်ချုပ်မှုက ငွေကောက်ပေးခြင်းဖြစ်သည်။

ထို့နောက် ထိုငွေများကို သမဂ္ဂငွေကိုင်လက်သို့ ကျောင်းရုံးကလွှဲပေးပါသည်။ ဤအစဉ်အလာမှာ ၆၂ ခုနှစ် စစ်အစိုးရတက်လာသောအခါမှာ ပျောက်သွားပါသည်။ သမဂ္ဂသည် ထိုငွေကို သမဂ္ဂရွေးကောက်ပွဲများ ပြုလုပ်ခြင်း၊ စာစောင်ထုတ်ဝေခြင်း စသည်တို့အတွက် သုံးပါသည်။ သမဂ္ဂသမိုင်းတွင် ငွေစာရင်းကွာခြင်း၊ အလွဲသုံးစားပြုလုပ်ခြင်း စသော မသမာမှုများ လုံးဝမကြားရသည်မှာ သမဂ္ဂ၏ ဂုဏ်တခုဟု ဆိုနိုင်ပါသည်။ အမှန်မှာတော့ ကိုယ့်အိတ်ထဲက စိုက်ပြီးလုပ်နေကြခြင်း ဖြစ်သည်။ နှစ်စဉ်ပင် မြို့မိမြို့ဖထံ အလှူခံထွက်ခြင်းလည်း ရှိသေးသည်။

မန္တလေးတက္ကသိုလ်ကျောင်းသားများသမဂ္ဂ အဆောက်အဦ၏ တည်နေရာမှာ ကျောင်းသူများနေသော ရွှေမန်းဆောင်ရဲ့ တောင်ဘက်နောက်ကျော၊ ရွှေပြည်ဆောင် ကျောင်းသားများ ထမင်းစားဆောင်၏ နောက်ဘက်တွင်ဖြစ်သည်။ အုတ်ခုံတစ်ခုပေါ်တွင် ဆောက်ထားသည့် ပေ (၈၀) လောက်ရှည်သော ကပ်တဲကြီးဖြစ်ပါသည်။ ရေနံချေးရောင်ဖြင့် မှိုင်းညို့ညို့ရှိသော ဤတဲကြီးအဝင် တံခါးအပေါ်တွင် မန္တလေးတက္ကသိုလ်ကျောင်းသားများသမဂ္ဂဆိုသော အနီရောင်ဆိုင်းဘုတ်တစ်ခု ရှိပါသည်။

ကျွန်တော် တက္ကသိုလ်ရောက်တော့ ဤဆိုင်းဘုတ်မှာ ဆေးပင်ကွာနေပါပြီ။ မြက်ပင်ရှည်များကြားမှာ ကပ်တဲကြီးရဲ့ ရှေ့မှာတမာပင်တန်းလေးရှိတာကြောင့် အဆောက်အဦမှာ ရန်ကုန်တက္ကသိုလ်ကျောင်းသားများသမဂ္ဂ အဆောက်အဦကြီးလို ဟိန်းမနေဘဲ ကုပ်ချောင်းချောင်းနိုင်သည်ဟု ထင်မြင်ခံစားရနိုင်ပါသည်။ ထိုအဆောက်အဦထဲကို မဝင်မီ တမာပင်ရိပ်မရောက်မီ ရေဆိုးမြောင်းလည်းမဟုတ်၊ ရေကောင်းမြောင်းလည်းမဟုတ်သော ရေမြောင်းတစ်ခုကို သစ်တုံးများပေါ်ကနေ ဖြတ်ရပါသည်။ ဘာပဲပြောပြော ပူပြင်းလှသည့် နေရောင်အောက်ကနေ ဒီကပ်တဲကြီးထဲဝင်လိုက်လျှင် အေးမြသွားသည်ကတော့ အမှန်ပင်။

ကပ်တဲကြီးထဲမှာ အခန်းမဖွဲ့ထားပါ။ ဟိုဘက် ထိပ် ဒီဘက်ထိပ် တောက်လျှောက်မြင်နေရပါသည်။ အရှေ့ဖက်ထိပ်က နံရံပေါ်တွင် ခွပ်ဒေါင်းအလံ နီနီရဲရဲ ကို အမြဲချိတ်ထားပါသည်။ ထိုအလံအောက်တွင် သမဂ္ဂ အမှုဆောင်များ အစည်းအဝေးလုပ်သည့် စားပွဲရှည် တလုံးရှိပါသည်။ ပင်ပေါင်ခုံထက် အနည်းအငယ်သာ ကြီးသည်ဟုထင်ပါသည်။ သူ့ပတ်လည်မှာ ထိုင်ခုံရှည် များ ရှိပါသည်။ ကုလားထိုင် သိပ်မရှိပါ။ ဘေးနားမှာ သဘာပတိ စကားပြောရာတွင် သုံးထောင့် စကားပြော စားပွဲမြင့်လေး တလုံးရှိပါသည်။ နောက်ပြီး ဥက္ကဋ္ဌထိုင် သော ဒေါင်းပုံကုလားထိုင် အမြင့်တလုံး။ အင်မတန် အသုံးနည်းသော ပရိဘောဂများပါ။

အခန်းထဲတွင် စာအုပ်ဘီဒို ၄-၅လုံး၊ အထဲမှာ စာအုပ်ကအပြည့်မဟုတ်။ မြောက်ဖက် နံရံ တနေရာ မှာ ဗိုလ်အောင်ကျော်ရဲ့ပုံ ပန်းချီကားကြီးတစ်ခု မှီ ထောင်ထားသည်။ ပတ္တူဖျင် ပေါ်တွင် စီပီယာရောင်ဖြင့် ရေးထားသော ကားကြီးဖြစ်သည်။ ကျနော်တို့မြင်နေကျ ဗိုလ်အောင်ကျော်၏ ကိုယ်တပိုင်းပုံဖြစ်ပြီး အမြင့်လူတ ရပ်ကျော်သည်။ နံရံတနေရာတွင် ဆရာကြီးသခင်ကိုယ် တော်မှိုင်းပုံ ချိတ်ထားသည်ကိုလည်း တွေ့နိုင်သည်။ နောက်ပြီး နိုင်ငံတကာ ကျောင်းသားလှုပ်ရှားမှု ပိုစတာအချို့ကိုလည်း နံရံများတွင် ကပ်ထားသည်။

အခန်းရှည်၏ အနောက်ဘက်ထိပ်ဖျားတွင်မူ ဂ က်စတင်နာ စာကူးစက်တလုံးတင်ထားသော စားပွဲတ လုံးရှိသည်။ အနီးအနားတွင် စာရွက်များက ပွစာကြဲလို့။

ကျွန်တော်ကတော့ ကျွန်တော့်အိမ်၏ အနေအထားကြောင့် ၁၃-၁၄နှစ် လောက်ကတည်းက သမဂ္ဂရုံးကို ရောက်ဖူးနေသည်။ ရောက်သည့်အခါ သမဂ္ဂ ခေါင်းဆောင်များကို သာမက ကျောင်းသားညီညွတ်ရေး တပ်ဦးကလူတွေ၊ အခြားတက်ကြွသူတွေကို တွေ့ရ သည်။ “ထောင်စာလေးများ”ကို လေးစားမိသည်။ တခါ တရံ တွေ့ရတတ်သော အမျိုးသမီးများကိုလည်း တအံ့ တသြ ကြည့်မိသည်။ အစည်းအဝေးများတွင် ခွပ်ဒေါင်း အလံတွေ တလူလူ မြင်ရသောအခါ တက်ကြွမိသည်။ ကျွန်တော့်အနေ နှင့် နိုင်ငံရေးကို ဘာမှနားလည်သည် မဟုတ်သော်လည်း သူတို့တွေ ကိုယ်ကျိုးအထိခိုက် ခံပြီး လုပ်နေကြမှန်းတော့ သိသည်။ ထိုတဲကြီးမှာပင် မန္တလေးတက္ကသိုလ်၏ တခေတ်ထွန်း တသုတ်ပေါ်ဟု ဆိုလောက်သည့် စာရေးဆရာ၊ ကဗျာဆရာ များကို လည်း ကျွန်တော်မြင်တွေ့ခဲ့ဖူးသည်။ တင်မိုး၊ မောင် သာနိုး၊ မောင်စွမ်းရည်၊ ကြည်အောင်၊ မောင်မိုးသူ၊ ကသာ ဝင်းကြွယ်၊ တက္ကသိုလ် မောင်ထွန်းဝေ၊ မောင် လေးမောင် (ကိုးကိုးကျွန်းတွင် ကျဆုံးသွားသူ) များလှ ပါသည်။

သမဂ္ဂရုံးတွင် သာမန်အချိန်၌ လူသိပ်မရှိ သော်လည်း ရွေးကောက်ပွဲကာလ ရှိသောအခါများ တွင်မူ အလွန်စည်ကားသည်။ တိုက်ဆိုင်သဖြင့် တက္ကသိုလ်သမဂ္ဂ ရွေးကောက်ပွဲများအကြောင်း နည်း နည်းရေးပြချင်ပါသည်။ ဤ ရွေးကောက်ပွဲများကို ဗမာပြည်တွင် တရားမျှတမှုအရှိဆုံး၊ အသန့်အရှင်းဆုံး ရွေးကောက်ပွဲဟု သတင်းစာများ အပါအဝင် လူအများ က အသိအမှတ်ပြုကြသည်။ ဤ ရွေးကောက်ပွဲများ ကို တက္ကသိုလ်က ဆရာ၊ဆရာမချည်း ဦးစီးကျင်းပခြင်း ဖြစ်သည်။ အပြင်ကလူတွေ၊ အစိုးရဌာနတွေ လုံးဝမ ပါဝင်ရ။ မဲခိုးခြင်း၊ မဲပုံးဖောက်ခြင်း မရှိ။ ဘယ်ဘက်ကမ ဆို အစစ်ဆေးခံနိုင်သည်။ တင်မိုး၏ နွယ်သာကီသံဖြတ် တစ်ပုဒ်တွင် ပါသလို”ဆရာတပည့် လက်ညီစွာငယ်၊ ကမ္ဘာက သိတဲ့ တက္ကသီလာရယ်” အမှန်ပင်ဖြစ်သည်။ ဒီအက်စ်အို၊ သန့်ရှင်း၊ အင်အားစသည့် နာမည်အမျိုးမျိုး ခံသော ဖ-ဆ-ပ-လ အဖွဲ့က ကျောထောက်နောက်ခံ ပြုပေးသူများ နှစ်စဉ် ဝင်အရွေးခံကြသည်။ တယောက် မျှ အရွေးခံရသည်ဟု မကြားဖူးပါ။ ရွေးကောက်ပွဲတွင် ဖ-ဆ-ပ-လ ခေါင်းဆောင် ဦးကျော်ငြိမ်း၏ ဇနီး ဒေါ်နွဲ့ ရီ ကိုယ်တိုင် ကျောင်းတွင် မဲပေးသူတွေကို ဘိလပ်ရည်၊ ဒံပေါက်စသည်များကို ကျွေးမွေးဧည့်ခံကာ လာရောက် ကူညီသည်။ သူတို့လူတွေ အပြတ်အသတ်ရှုံးပါသည်။ ရွေးကောက်ပွဲပြီးသည့်အခါ အနိုင်ရသောတပ်ဦးများက မြို့တွင်းသို့ ဘတ်စ်ကားများဖြင့် အောင်ပွဲခံ လှည့်လည် ရင်း “ဒီအက်စ်အိုတွေ ရှုံးကုန်ပြီ။ မာမီနွဲ့ရေ ကယ် လှည့်ပါဦး” ဟု သံချပ်ထိုးကြသည်။ အာဏာရဖဆပ လအနေဖြင့် မြူနီစပယ် ရွေးကောက်ပွဲနှင့် ပါလီမန် ရွေးကောက်ပွဲများတွင်ကား နည်းမျိုးစုံဖြင့် နိုင်အောင်

လုပ်နိုင်သော်လည်း ကျောင်းသားများနှင့်ဆရာများ လက်တွဲကြီးကြပ်သော တက္ကသိုလ်သမဂ္ဂ ရွေးကောက်ပွဲများတွင်ကား သူတို့ဘာမျှမတတ်နိုင်၊ ကျောင်းသားများအတွက် တကယ်တမ်း အနစ်နာခံ လုပ်ကိုင်သူများသာ အနိုင်ရရှိကြလေသည်။ ထို့ကြောင့်လည်း ဗမာပြည်မှာ အသန့်ရှင်းဆုံး ရွေးကောက်ပွဲဟု ခေါ်ဆိုနိုင်ခြင်းဖြစ်သည်။

ရွေးကောက်ပွဲ မဲရေတွက်သောအခါပွဲကြီးလမ်းကြီးတမျှ စည်ကားလှပြီး ပတ်ဝန်းကျင်နှင့်မြို့တွင်းမှပင် လာကြည့်ကြသည်။ မန္တလေးတက္ကသိုလ်တွင်ဆိုလျှင် ရွေးကောက်ပွဲကျင်းပသည့်ညမှာပင် ရေတွက်ပါသည်။ မဲပုံးကို ညမသိပ်ရပါ။ တက္ကသိုလ်စာကြည့်တိုက်ရှိရာ ရာဇဝတ်ခန်းမဆောင် အပေါ်ထပ်တွင် ဆရာ/မ များက ရေတွက်ပါသည်။ အရွေးခံသူ ကိုယ်စားလှယ်များနှင့် သတင်းထောက်များမှအပ တခြားဘယ်သူမှ မဝင်ရပါ။ ဝရံတာတွင် အရွေးခံအဖွဲ့များက စာသင်ကျောက်သင်ပုန်းကြီးများကိုထောင်ကာ တသုတ်ပြီးတသုတ် ရေတွက်ရရှိသောမဲများကို ရေးပြနေသည်။ မဲတသုတ် ရေတွက်ပြီးလို့ ထပ်ဖြည့်ရေးလိုက်တိုင်း 'ဝေါ'ကနဲ အသံကြီးကြားရပြီး လက်ခုပ်သံ၊ လက်ခေါက်မှုတ်သံတွေ သောသောညံသွားလေ့ရှိပါသည်။ အောက်က ရှေ့တည့်တည့်တွင်မူ ရွေးကောက်ပွဲဝင်အဖွဲ့များမှ ကျောင်းသူ/သားများသည် စားပွဲများဆင့်ကာ တီးမှုတ်ကခုန်နေကြသည်။ အိုးစည်ဗုံမောင်းသံလည်းပါ၊ အနောက်တိုင်း တူရိယာများလည်း ပါသည်။ သံချပ်ထိုးသူများလည်းရှိသည်။ ကျောင်းသားများကိုယ်တိုင် တီးမှုတ်သည်များလည်း ရှိသလို မြို့ထဲမှ ကိုယ်နှင့် ရင်းနှီးသူ ဂီတပညာရှင်များကို ဖိတ်ကာ တီးမှုတ်စေသည်လည်းရှိသည်။ မိန်းဟောဆီမှာ ထိုးထားသော ဆလိုက်မီးမောင်းများ အောက်တွင် အလံတဝဲဝဲဖြင့် ကခုန်နေကြသော မြင်ကွင်းကို ကျွန်တော်အခုထိ မြင်ယောင်နေပါသေးသည်။ ဒီအချိန်တွင် ဘွဲ့ရ၍ ကျောင်းနှင့်ကင်းကွာသွားသူများပင် ပြန်လာကြည့်တတ်ကြသည်။ ကျွန်တော်သည် တက္ကသိုလ်သမဂ္ဂရွေးကောက်ပွဲကို တခါသာမဲပေးခွင့်ရပြီး ကျွန်တော်တို့ တင်မြှောက်ခဲ့သည်မှာ နောက်ဆုံးတရားဝင် တကာသ အမှုဆောင်အဖွဲ့ဖြစ်ပါသည်။ ထိုစဉ်က ရွေးကောက်ခြင်းခံရသော ဥက္ကဋ္ဌမှာ ကိုစိုးဝင်းမောင် (ယခု BLSO ဥက္ကဋ္ဌ ကိုသံဒုတ် နှင့် ABSDF ဥက္ကဋ္ဌ ကိုသံခဲတို့ဖခင်) နှင့် အတွင်းရေးမှူးမှာ ယခုတိုင် ထောင်ထဲတွင် ရှိနေသေးသော ကိုအောင်သူတို့ဖြစ်သည်။

၁၉၆၂ခုနှစ်တွင် ရန်ကုန်တက္ကသိုလ်ကျောင်းသားများသမဂ္ဂ အဆောက်အဦကြီးအား စစ်အစိုးရက ဒိုင်းနမိုက်ဖြင့် ဖောက်ခွဲပစ်ပြီးသောအခါ မန္တလေးတက္ကသိုလ်ကျောင်းများသမဂ္ဂ အဆောက်အဦကိုလည်း (နောက်တနေ့မှာပဲဟုထင်သည်) လာဖျက်ပြီး အထဲက ပစ္စည်းများပါ အားလုံးကို လော်ရီကားနှင့် တင်သွင်းကြရာ အုတ်ခုံလေးသာ ငုတ်တုတ် ကျန်ရစ်လေသည်။

၇ ရက်ဇူလိုင်အရေးအခင်းကြီး၊ လူသတ်ပွဲကြီး ပေါ်ပေါက်ခဲ့သော်လည်း ကျောင်းသားများမှာ နောက်တွန့်ခဲ့သည်မဟုတ်ပါ။ ချက်ခြင်းဆိုသလိုပဲ တိုက်ပွဲတွေကို သဏ္ဌာန်မျိုးစုံနဲ့ ဖော်ထုတ်ကြပါသည်။ သမဂ္ဂခေါင်းဆောင်များမှာ အဖမ်းခံရသူခံရ၊ ပုန်းသူပုန်းရဖြစ်နေသဖြင့် မန္တလေးတွင် ကျွန်တော်တို့တတွေရှေ့တန်းကိုတက်ပြီး နေရာယူရပါသည်။ ကျွန်တော့်ဘဝမှာ ပထမဆုံးအကြိမ် လူကြားထဲ မိန့်ခွန်းပြောရသည်မှာ ဤသမဂ္ဂအဆောက်အဦနေရာ အုတ်ခုံပေါ်တွင် ဖြစ်ပါသည်။ ၇ ရက် ဇူလိုင် ခြောက်လပတ် (ဟုထင်သည်) အထိမ်းအမှတ်အခမ်းအနားတွင် ကျွန်တော်ကို "ကျောင်းသားနှင့် ဒီမိုကရေစီ"ဆိုသော ခေါင်းစဉ်တခု ပြောစေပါသည်။ ထိုစဉ်က ကျွန်တော့်အသက် (၁၇) နှစ်သာ ရှိပါသေးသည်။ ကျွန်တော် ဘာပြောရမှန်းမသိ။ ရက်တချို့ကြိုပြီး အသိပေးထားတာမှန်ပေမယ့် ကျွန်တော့်အတွက် ဘာပြောရမှန်း စဉ်းစားရ အလွန်ခက်ခဲခဲ့ပါသည်။

အခမ်းအနား ကျင်းပလို့ ကျွန်တော့်အလှည့်ရောက်လို့ သဘာပတိစားပွဲဘေးမှာ မတ်တပ်ရပ်လိုက်တော့ တုန်နေလိုက်တဲ့ဒူး ဘယ်လိုမှ ထိန်းမရတော့ပါ။ စားပွဲကိုကိုင်ပြီး ထိန်းတာလည်းမရပါ။ ချောင်းလည်းမဟန့်ဝံ့။ တက်ရောက်နားထောင်သူတွေ၊ အထူးသဖြင့် ရှေ့ဆုံးကထိုင်နေကြသော ကျောင်းသူများကတော့ သတိပြုမိသည်။ သူတို့နဲ့ ကျွန်တော်ကလည်း ဝါးတ

ပြန်ကျော်ကျော်သာ လှမ်းသည်။ သူတို့ အားလုံး ကျွန်တော့်ကို မကြည့်ရဲကြ။ အားနာလို့လား၊ သနားလို့လား မသိ၊ အားလုံးခေါင်းငုံ့ထိုင်နေကြသည်ကို ယခုတိုင် ကျွန်တော်မြင်ယောင်နေသည်။ ကျွန်တော်စဉ်းစားထားသော စကားများသည်လည်း ဘယ်ပြေးကုန်သည်မသိ။ လိုက်ဖမ်းလို့မရတော့။ နောက်ဆုံးအားနာပါးနာ တီးကြသော လက်ခုပ်သံများကြားမှာ ကျွန်တော့်စွန့်စားခန်း အဆုံးသတ်သွားသည်။ စားပွဲ၊ ကုလားထိုင်များကို သိမ်းတော့ ကိုကျော်ခင် (ပဲခူးရိုးမမှာ မှားယွင်းအရေးယူခံရသူ) က "ကောင်လေး၊ ဘာတွေလျှောက်ပြောမှန်း မသိဘူး" ဟုပြောပါသည်။ တခြားလူများက ပြုံးနေကြပါသည်။

အဲဒီနောက် ကျွန်တော်တို့တတွေ မြို့နယ်ဗကသ၊ ခရိုင်ဗကသ၊ ကျောင်းသားညီညွတ်ရေးတပ်ဦး စသည်တို့ကို အားသွန်၍ပြန်ဖွဲ့ကြသည်။ သို့သော် ပုံမှန်လုပ်နေကျ တက္ကသိုလ်က ကျောင်းသားများသမဂ္ဂ အဆောက်အဦထဲတွင် အစည်းအဝေးမလုပ်နိုင်တော့ပါ။ မန္တလေးခရိုင် ဗကသကို ရွှေကြီးမြင့်ဘုရားထဲတွင် ဖွဲ့စည်းရသည်။ ကဗျာဆရာ ကိုကြည်အောင်က ဥက္ကဋ္ဌဖြစ်သည်။ ကျွန်တော်က တွဲဖက်အတွင်းရေးမှူးလားမသိ ဖြစ်လာသည်။

ကျွန်တော် ကျောင်းသားညီညွတ်ရေးတပ်ဦး အဖွဲ့ဝင် (တရားဝင် အသုံးအနှုန်းမှာ ကောင်စီဝင်ဖြစ်ပါသည်။ ကောင်စီဝင်မှ တပ်ဦးညီလာခံကို တက်ခွင့်၊ တပ်ဦး အမှုဆောင်သစ် ရွေးရာတွင် မဲပေးခွင့်ရှိပါသည်။) ဖြစ်သည်မှာ ကျွန်တော် တက္ကသိုလ်ကို ရောက်သည့်နှစ်တွင် ကျင်းပသည့် တပ်ဦးညီလာခံတွင် ဖြစ်သည်။ ညီလာခံထဲတွင် လျှောက်လွှာတင်ပြီး အလွယ်တကူပင် ထောက်ခံမည့်သူ ရှာတွေ့သည်။

"ဒီကောင်ဆိုရင်တော့ ငါတို့ထောက်ခံမယ်ကွာ" ဟုဆိုပြီး ကိုစိန်မြင့် (စာရေးဆရာ၊ ဒါရိုက်တာ မောင်းမိုးသူ)နှင့် ကိုသောင်းရွှေ (ပေါင်းလောင်းဒေသတွင် လက်နက်ကိုင်လှုပ်ရှားရင်း ကျဆုံးသွားသူ) တို့က ချက်ချင်း လက်မှတ်ထိုးပေးကြသည်။ ၁၉၆၃ ခုနှစ် ကျောင်းသားတပ်ဦးကို ကျွန်တော်တို့ပြန်လည်ဖွဲ့စည်းကြတော့ မန်းတက္ကသိုလ်အဝင်က ပန်းခြံထဲက အဆောက်အဦလေးထဲမှာသာ ကျင်းပနိုင်တော့သည်။ ကပ်တဲမျှပင်မရှိတော့ပြီ။

ဤသမဂ္ဂမှ သခင်အောင်ဆန်း၊ သခင်ဗဟိန်း တို့လို နိုင်ငံခေါင်းဆောင်တွေ မထွက်ခဲ့တာတော့ အမှန်။ သို့သော် ကပ်တဲကြီးထဲမှာပဲ စားပွဲပေါ်အိပ်၊ အဆောင်နေ သူငယ်ချင်းတွေ တခြားထွက်စားတဲ့အခါ သူတို့ရဲ့ထမင်းဟင်းကိုစားပြီး ကျောင်းသားအရေး၊ ပြည်တွင်းငြိမ်းချမ်းရေးအတွက် အဆင်းရဲအနစ်နာခံကာ လုပ်ခဲ့သူများ မျိုးဆက်နှင့်ချီ ရှိခဲ့ပါသည်။ အချို့ဆိုလျှင် လက်နက်ကိုင်တော်လှန်ရေးထဲမှာပင် ကျဆုံးသွားခဲ့ပါသည်။ ကျောင်းသားအရေးများသာမက နယ်ချဲ့ဆန့်ကျင်ရေး၊ ကမ္ဘာ့ငြိမ်းချမ်းရေး၊ ယဉ်ကျေးမှု အနုပညာအရေး၊ ပညာရေးတို့ကို ဆွေးနွေးဆုံးဖြတ်ခဲ့ကြသည်။ ဗမာပြည်တွင်စစ်အစိုးရ၏ အာဏာသိမ်းမှုမှန်သမျှကို အစောဆုံး၊ ဆန့်ကျင် ကန့်ကွက်သည့် ဆုံးဖြတ်ချက်များကိုလည်း ဤကုပ်ချောင်းချောင်း တဲအိုကြီးထဲကပင် ထုတ်ပြန်ခဲ့ပါသည်။

ဤကပ်တဲကြီးထဲတွင် သခင်အောင်ဆန်း၊ သခင်ဗဟိန်းတို့၏ စိတ်ဓာတ်များ ကိန်းဝပ်နေသဖြင့်လည်း စစ်အစိုးရသည် ရန်ကုန်တက္ကသိုလ်ကျောင်းသားများသမဂ္ဂ အဆောက်အဦနှင့်အတူ ဖျက်သိမ်းပစ်ခဲ့သည်။ သူ့သမိုင်းနှင့်သူ၊ သူ့ သူရဲကောင်းနှင့်သူ ဂုဏ်ပြောင်ပါသည်။ 'ဖိုးလမင်းလည်း သူ့အဆင်းနှင့် အချင်းနှင့်' ဟုဆိုနိုင်ပါသည်။

ကျွန်တော့်အနေနှင့် သမိုင်းဝင် ရန်ကုန်တက္ကသိုလ်ကျောင်းသားများသမဂ္ဂ အဆောက်အဦကြီးကို ၄က်တသောင်း နားနိုင်တဲ့ ညောင်ပင်ကြီးတပင်နှင့် နှိုင်းပြီး မန္တလေးတက္ကသိုလ်သမဂ္ဂ အဆောက်အဦကို တော့ သူရေ့ကတမာပင် နှင့် နှိုင်းချင်ပါသည်။ အညာက တမာပင်သည် အပင်ငယ်သော်လည်း၊ သူ့အကိုင်းသူ့ အရွက်နဲ့ သူတတ်နိုင်သလောက်အရိပ်ပေးကာ လောကကို အလှဆင်ခဲ့ပါသည်။ အညာနွေ ပူလိုက်ပုံကိုတော့ အားလုံးအသိပါ။

**ဖိုးသံချောင်း**

(၇ ရက်ဇူလိုင် နှစ် ၄၀ ပြည့် မှ —)

# နိုင်ငံရေးသိမ်နှင့် ဗကသ မျိုးဆက်များ

**(၁) တကသအဆောက်အဦ (သို့) နိုင်ငံရေးသိမ်**

တကသအဆောက်အဦကို 'နိုင်ငံရေးသိမ်' ဟုခေါ်ဆိုနိုင်သည်။

'သိမ်' တို့၏ ဂုဏ်သတ္တိမှာ မည်သို့ဖျက်ဖျက် မပျက်နိုင်။ ရုပ်ဒြပ် အကောင်အထည် အနေဖြင့် ပျက်ချင်ပျက်မည်။ သို့သော် စိတ်ဓာတ်သဘောအရ အမြဲတည်ရှိနေမည်။

'သိမ်' ၏ သဘောမှာ သိက္ခာတင်ရာ ဖြစ်သည်။ တကသ 'နိုင်ငံရေးသိမ်' တွင် နိုင်ငံရေးသိက္ခာ တင်ခဲ့သူများ များပြားလှသည်။

ကိုနု၊ ကိုရာရှစ် စသော ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေး (ဖဆပလ) များ၊ ကိုအောင်ဆန်း၊ ကိုဗဟိန်း စသော ဗမာပြည်ကွန်မြူနစ်ပါတီ တည်ထောင်သူများ၊ ကိုဗဆွေ၊ ကိုကျော်ငြိမ်း စသော ဗမာပြည်ဆိုရှယ်လစ်ပါတီ တည်ထောင်သူများမှာ 'သိမ်ထွက်' များဖြစ်ပါသည်။

ဖဆပလ၊ ဗကပ၊ ဗဆပ တို့သည် လွတ်လပ်ရေး ဗိသုကာများလည်း ဖြစ်ကြသည်။ သူတို့ပဲ လွတ်လပ်ရေး ရအောင် တိုက်ခဲ့သည်။ ထို့ကြောင့် တကသ အဆောက်အဦသည် 'နိုင်ငံရေးသိမ်'၊ 'လွတ်လပ်ရေး သိမ်' ဟုခေါ်နိုင်သည်။

လွတ်လပ်ရေး ရပြီးနောက် ပြည်တွင်းစစ် ဇာတ်ကြမ်းကြီး ကပြကြရာတွင် တကသ(ဗကသ) ကို မည်သူကမည်သို့ သဘောထားသနည်း ဆိုသည်က အရေးပါလာသည်။ (တကသ) အဆောက်အဦသည်လည်း နိုင်ငံရေးသမိုင်းဝင်ပစ္စည်း ဖြစ်လာသည်။

တကသ အဆောက်အဦကို အုပ်စီးရန် ဖဆပလ ဆိုရှယ်လစ်အစိုးရကို လိုလားသော ကျောင်းသားက တဖက်၊ ပြည်သူ့ဒီမိုကရေစီရေး လိုလားသူကတဖက် အားပြိုင်ကြသည်။

ဖဆဆိုရှယ်တို့က ဒီမိုကရက်တစ် ကျောင်းသားအဖွဲ့ (DSO)၊ အင်အားအဖွဲ့များဖွဲ့ကာ အားပြိုင်ကြသည်။ တိုးတက်သောကျောင်းသားများက ကျောင်းသားညီညွတ်ရေးတပ်ဦး ဖွဲ့ကာ အားပြိုင်ကြသည်။ တလှျောက်လုံး တပ်ဦးက နိုင်သည်။

တကသ အဆောက်အဦအပေါ်တွင် တပ်ဦး အမြဲတမ်းရှိသည်။ ထို့ကြောင့် ဖဆပလဆိုရှယ်လစ်တို့က မကြည်ဖြူခဲ့ကြ။

ဖဆဆိုရှယ်တို့က တောထဲတွင် ဗကပ ချေမှုန်းရေး လုပ်သလို မြို့ပေါ်တွင် ဗကသ ချေမှုန်းချင်သည်။ ထို့ကြောင့် ဗကသ ကို မြေပေါ်ဗကပ ဟု စွပ်စွဲသည်။ တောထဲတွင် ဗကပ အမာခံဟု တံဆိပ်ကပ်ပေးလျှင် ထင်သလိုသတ်လို့ရသည်။ မြို့ပေါ်တွင် သတ်ချင်လျှင် (ဗကပ) တံဆိပ်ကပ်ပေးရမည်။ ထို့ကြောင့် ဗကပဟု စွပ်စွဲခြင်းဖြစ်သည်။

၁၉၅၃ အောက်တိုဘာ ကျောင်းတလပိတ်ရေးလှုပ်ရှားမှုကို ဖြိုခွဲရာတွင် အစိုးရက စတင်၍ အကြမ်းကိုင်လာသည်။ တကသ'သိမ်'ထွက် တဦး ဖြစ်သော ပြည်ထဲရေးဝန်ကြီး ဗိုလ်ခင်မောင်လေးက ပုလိပ်ကို သေနတ်ပစ် ဖြိုခွဲရန် အမိန့်ပေးသည်။ ပုလိပ်က မလုပ်ရဲဘဲ ချီတုံချတုံ ဖြစ်နေသည်။ ဗိုလ်ခင်မောင်လေးက စတင်းဂန်း(sten gen) ကိုယ်တိုင်ကိုင်ပြီး ပစ်ပြသည်။ ပုလိပ်ကို ရဲဆေးတင်ပေးခြင်းပင်။

ပုလိပ်သာမက စစ်တပ်ကပါ 'ရဲရင့်' သွားသည်ဟု ဆိုရမည်။ ၁၉၆၂ ခုနှစ်တွင် နေဝင်း၊ အောင်ကြီးစစ်အုပ်စုက ကျောင်းသားရာချီ သတ်ပုံသွားသည်။

ဒီ'သိမ်'ကြီး ရှိနေသမျှ စစ်အုပ်စုကို ဒုက္ခပေးနေမည်ဟု ဆိုကာ ဖြိုချပစ်လိုက်သည်။ နေဝင်းက 'သိမ်ထွက်'မဟုတ်ပါ။ အောင်ကြီးက 'သိမ်ထွက်'။ နှစ်ယောက်ပေါင်းပြီး ဖြိုချလိုက်ခြင်း ဖြစ်သည်။ 'ဗကပ မြေပေါ်ဌာနချုပ်' ဖြစ်နေလို့ ဖြိုရသည်ဟု ကြေညာခဲ့သည်။

'နိုင်ငံရေးသိမ်' မရှိလျှင် ဗကပတွေ၊ တပ်ဦးတွေ၊ စိန်ခေါ်သူတွေ အမြစ်ပြတ်မည် ထင်ပြီး လုပ်လိုက်ခြင်း ဖြစ်သည်။ သူတို့၏ မှန်းချက်နဲ့ နှမ်းထွက် မကိုက်ခဲ့ပါ။

၁၉၆၂ ခုနှစ် နောက်ပိုင်းတွင် ဗကသ ပေါ်

ပေါ်လွင်လွင် မရှိပါ။ သို့သော် မြေအောက်တွင်ရှိ နေသည်။ တကသအဆောက်အဦလည်း ရုပ်ဒြပ်ဖြင့် မရှိပါ။ သို့သော် ကျောင်းသားတိုင်း၏ ရင်ထဲတွင် ရှိ နေသည်။

၁၉၆၂ နောက်ပိုင်း ပေါ်သမျှ ကျောင်းသား လှုပ်ရှားမှုတိုင်းသည် ဗကသ မြေအောက်လှုပ်ရှားမှု ဖြစ်သည်။ အခွင့်သာလာလျှင် တကသအဆောက်အဦ လည်း ရုပ်ဒြပ်ဖြင့် ပြန်ပေါ်လာမည်။ ၁၉၈၈ က ပေါ်လု ပေါ်ခင် ဖြစ်ခဲ့သည်။ အနေးနှင့်အမြန် တနေ့တွင် ဖြစ် ပေါ်လာမည်ဟု ယုံကြည်သည်။ ဒေါက်တာမောင်မောင် ပြောသလို စစ်အုပ်စုက ဆောက်ပေးမယ် ဆိုတာမျိုးကို တော့ မျှော်လင့်ချက် ထားမနေနိုင်ပါ။

တကသအဆောက်အဦ 'နိုင်ငံရေးသိမ်' ကျောင်းသားတိုင်း၏ ရင်ထဲတွင် ရှိနေသမျှ စစ်အုပ်စုကို စိန်ခေါ်သူ မျိုးဆက်သစ်များ တသုတ်ပြီးတသုတ် မွေး ထုတ်ပေးနေဦးမည် ဖြစ်ပါသည်။

**(၂) ဗကသ မျိုးဆက်သစ်များ**

မိမိပါဝင် လှုပ်ရှားခဲ့သည့် အပိုင်းမှ စတင်မြစ်ဖျားခံ ကြည့်မိသည်။

**ဖဆပလ ခေတ်**

ထိုခေတ်က နိုင်ငံရေး စိတ်ဝင်စားသော ကျောင်းသား များထဲတွင် "ကျောင်းဆွေးဆွေး လူဆွေးဆွေး" ကြွေးကြော်သံဖြင့် ကျောင်းနေရင်း သမဂ္ဂလုပ်ငန်းလုပ် နေသူ တချို့ရှိသည်။ ကျွန်တော်သည် ထိုအထဲမှတ ယောက်ဖြစ်၏ ။

၅ တန်းတွင် ကျောင်းလခမပေးနိုင်၍ စာမေးပွဲ ဖြေခွင့်မရခဲ့။ နောက်နှစ်တွင် "အခမဲ့ပညာရေး စနစ်" ဖြစ်လာ၍ ကျောင်းပြန်တက်၏။ ၈တန်း မှစ၍ ကျောင်းသားသမဂ္ဂ လုပ်ငန်းများထဲတွင် အောက်ခြေသိမ်းပါဝင်လာခဲ့၏။

မြို့နေဆင်းရဲသား အိမ်ထောင်စုဝင် ကျောင်းသားတယောက်၏ စီးပွားရေး၊ အဆင့်နေရာ ဆက်သွယ်နေမှုကို ငယ်စဉ်ကပင် သိရှိခံစားနေရ ပါသည်။

ကျောင်းလခမပေးရသော်လည်း စာအုပ်ဖိုးနှင့် အဝတ်အစား နှစ်စုံ၊ သုံးစုံ ရှိဖို့ပင် မိဘများက မနည်း အားစိုက်ပေးရသည်။ ရေကြည်တွင် မောင်နှမ ၅ ယောက် စလုံး ကျောင်းထား၍မဖြစ်၊ မိန်းကလေး ၂ ယောက် ကျောင်းထုတ်လိုက်ရသည်။ မိဘကို ဈေးကူရောင်းပေး ကြရသည်။ အစ်ကို ၂ ယောက်က မွေးစားမိဘအိမ် သွား နေရသည်။

တဖက်တွင် ပြည်တွင်းစစ်၏ ဂယက်ရှိနေသည်။

ကျောင်းသား လူငယ်များ၏ ပညာရေးသည် တည်ငြိမ်မှုမရှိ။ ပြည်တွင်းစစ် စခါစနှင့် အရှိန်အဟုန် မြင့်နေစဉ် သုံး၊လေးနှစ်က ပိုဆိုးသည်။ တပြည်လုံးအနှံ့ ကျေးလက်စာသင်ကျောင်းတွေ ပိတ်လိုက်၊ ဖွင့်လိုက် လုပ်နေရသည်။ နောက်ပိုင်းတွင်လည်း ပြည်တွင်းစစ် ကြီးက ဇာတ်မျောနေသည်။

ဤအခြေအနေတွင် ဗကသသည် မိဘပြည် သူများ၏ အကျိုးစီးပွား၊ လူငယ်ကျောင်းသားများ၏ နောင်ရေးအတွက် စဉ်းစားလာပါသည်။ "ပြည်တွင်းစစ်" သည် သေချွတ်အခန်းမှ ပါဝင်နေသည်ကို သိရှိသဖြင့် ဆရာကြီး သခင်ကိုယ်တော်မှိုင်း၏ ပြည်တွင်းငြိမ်းချမ်း ရေး လုပ်ငန်းများတွင် တတပ်တအား ပါဝင်ခဲ့ကြသည်။

ဗကသ၏ ညွှန်ကြားချက်အတိုင်း ကျောင်းသား သမဂ္ဂများက တက်တက်ကြွကြွ လှုပ်ရှားပါသည်။

ဆရာကြီး သခင်ကိုယ်တော်မှိုင်း၏ အထက် ဗမာပြည် ပြည်တွင်းငြိမ်းချမ်းရေး သင်္ဘောခရီးကို မြို့နယ်အသီးသီးမှ သိုက်သိုက်မြိုက်မြိုက် ကြိုဆိုခဲ့ ကြ၏။ သို့သော် ကံဆိုးသည်မှာ ကျနော်တို့မြို့တွင် ဆရာကြီးဟောပြောခွင့် ရမသွားပါ။

ထိုနေ့က မြင်းခြံ သင်္ဘောဆိပ်သို့ သင်္ဘော ကပ်ချိန် စောနေပါသည်။ မိုးတွင်းမဟုတ်လျှင် မြို့နှင့် သင်္ဘောဆိပ်သည် ခြေလျင် မိနစ် ၄၀ ခန့်စာ ကွာလှမ်း နေတတ်သည်။ ထမ်းစင်ဝေါကြီး ပြင်ကာ ပြည်တွင်း ငြိမ်းချမ်းရေးအဖွဲ့နှင့် ကျောင်းသားများ ဆိပ်ကမ်းအ ရောက်မှာတော့ သင်္ဘောက ပြန်လည်ဆုတ်ခွါနေပါပြီ။

ပို၍ဆိုးသည့် အဖြစ်က မြို့ပေါ်ဖဆပလအမိန့် နှင့် ဆိုရှယ်လစ် ပြူစောထီး ပြောက်ကျားများက လူစု ပြီးဝိုင်းကာ ဆရာကြီးတို့ကို အဆင်းမခံ သံပုံးတီး

လွှတ်လိုက်ကြခြင်း ဖြစ်သည်။

ဘာပဲဖြစ်ဖြစ် ကြိုမရောက်သည်က ကျွန်တော်တို့အပြစ်၊ သို့သော် ဤနေရာတွင် ပြောချင်တာ တခုရှိသည်။ ကျောင်းသားသမဂ္ဂက ခံစားချက်များကို ပြည်သူသို့ ရင်ဖွင့်ရာတွင် အမြဲလိုလို ထည့်သုံးသော စကားတခွန်း ရှိပါသည်။

"အုပ်စိုးသူအဆက်ဆက် - ဟာ" ဆိုသော ကတ္တားပုဒ် ဖြစ်သည်။ လူမှုရေးဘဝ၊ ပညာရေးဘဝနှင့် ယှဉ်ပြောသော အစချီချက် ဖြစ်သည်။ ဘယ်အုပ်စိုးသူမှ မကောင်းခဲ့ကြပါ။ ယခုစစ်အစိုးရကတော့ အဆိုးဆုံးဖြစ်မည်။

နယ်ချဲ့ခေတ်က ဗိုလ်အောင်ကျော်၊ ကိုဘငွေး၊ မောင်တင်အောင်တို့ ကျဆုံးရသည်။

ဖဆပလခေတ် ၁၉၅၃ ခုနှစ် အောက်တိုဘာ ကျောင်းတလပိတ်ရေးတွင် ကျောင်းသားများ သွေးမြေကျရသည်။
၁၉၅၆ ခုနှစ်တွင် စိန့်ပေါ ကျောင်းသားကလေး ဟယ်ရီတန် ကျဆုံးရသည်။
(ကျွန်တော်တို့ ခရိုင်မှပင်) ကျောက်ပန်းတောင်း ကျောင်းသား ကိုလှထွန်း ပြူစောထီးများ၏ သတ်ဖြတ်ခြင်းကိုခံရသည်။

နယ်ချဲ့ခေတ်က ခံရသည်ကို နယ်ချဲ့လက်ချက်ဖြစ်၍ အထူးအထွေ ပြောစရာမလို။ အာဏာရ နိုင်ငံရေးသိမ်ထွက်များ လက်ချက်ကြောင့် ကျောင်းသားများ သွေးမြေကျရသည်မှာ နာကျည်းစရာ ဖြစ်သည်။

သူတို့အတွေးအခေါ် ပြောင်းနေကြပါပြီ။ ဦးဗဆွေက ဆရာကြီးသခင်ကိုယ်တော်မှိုင်းကို "ဒီလူကြီးလည်း တိုင်းပြည်ရောင်းမစားဘူး မပြောနိုင်ဘူး" လို့ သတင်းစာဆရာများကို ပြောရဲနေပါပြီ။

အာဏာရ ခေါင်းဆောင်များ အာဘော်ကို ကြည့်ပြီး တပည့်လက်သားများက လက်စောင်းထက်လာကြသည်။ ပျဉ်းမနားဗိုလ်တောက်ထိန်၊ လယ်ဝေးသခင်ကြည်ရှိန်(ဝဏ္ဏကျော်ထင်)၊ အောင်ပင်လယ်သိန်းဖေ၊ မိတ္ထီလာဆရာထီ၊ မြင်းခြံတောင်သာ ဦးစံပြည့်၊ ငါန်းဇွန် ဗိုလ်မှူးတက်မြင့် စသည်တို့ အပြိုင်အဆိုင် လက်စွမ်းပြကြသည်။ ပြည်သူတွေရော ကျောင်းသားများပါ လိုမ့်ခံခဲ့ကြရသည်။

'သိမ်ထွက်'တွေက ဒီလောက်ဖောက်ပြန်နေမှတော့ သိမ်ထဲဝင်ရင် ယားလို့ ကုတ်နေရမည့် သိမ်ထွက်မဟုတ်သူ မြင်းသမား မြသမား ဗိုလ်နေဝင်းက ကျောင်းသားကမဂ္ဂကို ကြည့်မရတာ မဆန်းပါ။

**အိမ်စောင့်အစိုးရခေတ်**

၁၉၅၈ ခုနှစ်တွင် ဗိုလ်နေဝင်း (ဆိုရှယ်လစ်ဗိုလ်များ) ပထမစစ်အုပ်စု အာဏာသိမ်းပါသည်။

ကျောင်းသားလောကတွင် ဒီအက်စ်အိုတို့ အင်အားတို့ နာမည်ပျက်နေပြီမို့ ဆက်သုံးလို့မရ။ စစ်တပ်ခါးပိုက်ဆောင်သန့်သန့် ကျောင်းသားအဖွဲ့ အစည်းတခု စမ်းသပ်ထူထောင်ချင်သည်။ ဆရာ၊ ဆရာမ အားကိုယူပြီး ကျောင်းကောင်စီ ဆိုတာ ဖွဲ့သည်။ ကျောင်းသားကိစ္စများကို ကျောင်းကောင်စီက တာဝန်ယူ ဖြေရှင်းသည်။ အစိုးရက အာဏာဖြင့် ပံ့ပိုးပေးသည်။ ဤနည်းဖြင့် ကျောင်းသားသမဂ္ဂများ၏ အခန်းကဏ္ဍပျောက်သွားအောင် လုပ်သည်။ ကျောင်းသားရေးရာများတွင် သမဂ္ဂကို အလိုလို ဘေးရောက်သွားစေသည်။ တရားဝင် ဖျက်သိမ်းတာ မလုပ်သေး။

ဒါကို ဗကသ သဘောပေါက်သည်။ ဌာနချုပ်ခေါင်းဆောင်များ နယ်ဆင်းကြသည်။ ကျွန်တော်တို့မြို့သို့ ဗကသ ဥက္ကဋ္ဌ ကိုဇော်ဝင်း တခေါက်၊ ဒုဥက္ကဋ္ဌ ကိုသက်တို့ တခေါက်စီလာတာ မှတ်မိသည်။

ကျောင်းကောင်စီ ရွေးပွဲတွေကို နည်းမျိုးစုံဖြင့် သပိတ်မှောက်ကြရန် ဗကသတွင် သဘောထားရှိသည်။ နောင်တွင် သမဂ္ဂနှင့် ကျောင်းကောင်စီ ပဋိပက္ခတွေ ရှိနိုင်သည်။ ကျောင်းသားချင်း ညီရင်းအစ်ကို ချစ်ကြည်သွေးစည်းမှု ပြိုကွဲနိုင်သည်။ ဆရာ-ကျောင်းသား ဆက်ဆံရေး ဖုထစ်ကုန်ကြလိမ့်မည်။ ဒါတွေကို ကျွန်တော်တို့ မြင်သည်။ မိဘများကကော -

'သပ်' တစ်ချောင်းနှင့် ၃-၄ စိတ်ကွဲအောင် အုပ်စိုးသူတို့ လုပ်ကြချေပြီ။ ပြောချင်သည်မှာ ပြည်သူတွေ အချင်းချင်းကြား၊ တိုင်းရင်းသား အချင်းချင်းကြား၊ လူတန်းစား လူ့အလွှာအသီးသီးကြား သွေးခွဲအုပ်ချုပ်ခဲ့

သည်မှာ နဝတ၊ နအဖ လက်ထက်ကျမှမဟုတ်၊ အုပ်စိုးသူအဆက်ဆက် ၏ လက်သုံးနည်း တရပ်ဖြစ်ကြောင်း-ပါ။

ကျောင်းကောင်စီရွေးပွဲ စပါပြီ။

ကျောင်းကောင်စီတွင် ကျောင်းသားသမဂ္ဂအမှုဆောင်များ ဝင်အရွေးမခံကြပါ။ သပိတ်မှောက်ကြဖို့ ကြိုတင်ပန်ကြားထားပါသည်။ "ဆရာတွေကို အားနာရင်လည်း မဲပုံးထဲမဲထည့်ခဲ့ဖို့၊ ဆုတ်ဖြဲထည့်ကြဖို့" ပြောပါသည်။ ဖြောင်ဆန့်ကျင်လိုသူများ ရှိလျှင်လည်း မိမိတို့သဘောဆန္ဒအရ ဆန့်ကျင်နိုင်ကြောင်း လှုံ့ဆော်ပါသည်။

သမဂ္ဂအမှုဆောင်တွေကတော့ ဖြောင်ဆန့်ကျင်ကြပါမည်။ ကျနော်တို့က သမဂ္ဂအမှုဆောင် မဟုတ်ကြသေးပါ။ သို့သော် ကိုယ့်အလှည့်ရောက်သည်နှင့် ကြီးကြပ်သူဆရာ၊ ဆရာမများရှေ့တွင် ကိုယ်ပိုင်သောမဲပြားကိုယ် 'ဖြောင်'ဆုတ်ဖြဲလိုက်ကြသည်။ သတင်းနှင့် ဓာတ်ပုံများ လူထုသတင်းစာတွင် ပါလာသည်။

အကျိုးရလဒ်ကတော့ ကျွန်တော်အပါအဝင် ကျောင်းသား ၁၅ ဦး၊ ကျောင်းသူ ၁ ဦး၊ ပေါင်း ၁၆ ဦး ရာသက်ပန် ကျောင်းထုတ်ခံလိုက်ရခြင်း ဖြစ်သည်။ ဂုဏ်ထူးတခု ရလိုက်သည်ဟု ထင်မှတ်ကြသည်။ တချို့က ပေးစာများအောက်တွင် လက်မှတ်ထိုးရာတွင် ကွင်းစကွင်းပိတ်နှင့် (ရာသက်ပန်) ဟု ရေးထည့်ကြသည်။ ဤကိစ္စအတွက် ၃၆ နာရီ အစာငတ်ခံ ဆန္ဒပြကြသည်။

ဤသည်မှာ "သိမ်ထွက်" မဟုတ်သူ အာဏာရချိန် ပေးအပ်ခြင်းခံရသော ဂုဏ်ထူးဖြစ်သည်။

**ပထစ ခေတ်**

၁၉၆၀ ခုနှစ် ရွေးကောက်ပွဲတွင် ဦးနု ပထစ အစိုးရတက်လာသည်။ ကျောင်းထုတ်ထားသူများ ကျောင်းနေခွင့်ပြုသည်။ "သိမ်ထွက်" ကြီး ဦးနု၏ ကျေးဇူး (ကျွန်တော့်အပေါ်တွင်) နှစ်ခုရှိသည်။

၅ တန်းတွင် ကျောင်းလခ မပေးနိုင်၍ ကျောင်းထုတ်ခံရပြီး နောက်တနှစ်တွင် အခမဲ့ ပညာရေးစနစ်ကျင့်သုံးကြောင်း ကြေညာခဲ့၍ ကျောင်းပြန်နေရခြင်း။

၆၀ ခုနှစ်တွင် ကျောင်းပြန်နေခွင့်ပြုခြင်းတို့ဖြစ်သည်။

သို့သော် ပြဿနာက တန်းခွဲ/တန်းချစနစ် ကျင့်သုံးလာခြင်း ဖြစ်သည်။ ယခင်က ၈ တန်း အောင်လျှင် တက္ကသိုလ်ဝင်စာမေးပွဲ တိုက်ရိုက်ဖြေခွင့် ရှိသည်။ ယခု ခွင့်မပြုတော့။

ဗကသ ညွှန်ကြားမှုအောက်တွင် တပြည်လုံး တန်းခွဲတန်းချ ကန့်ကွက်ပွဲတွေ ခြိမ့်ခြိမ့်သဲ ကျင်းပကြသည်။ တိုက်ပွဲကော်မတီတွေ ဖွဲ့ကြသည်။ ကျွန်တော်က မြင်းခြံခရိုင် တိုက်ပွဲကော်မတီ အတွင်းရေးမှူးတာဝန်ယူရသည်။ ကျောင်းဆင်းလာသော ကျောင်းသားများကို စုစည်းပြီး မြို့တွင်း စီတန်းလမ်းလျှောက် ဆန္ဒပြ၊ ဟောပြောကြသည်။

**တော်လှန်ရေးကောင်စီခေတ်**

အာဏာအရသာ တွေ့ဖူးထားသော စစ်အုပ်စုသည် ဒီတကြိမ် (၁၉၆၂၊ မတ်လ ၂ရက်) တွင်မူ ဝေ့လည်ကြောင်ပတ်လုပ်မနေတော့ဘဲ ဖြောင်အာဏာသိမ်း လိုက်ပါတော့သည်။

တဆက်တည်း လူတန်းစား လူ့အလွှာအသီးသီး၏ ဒီမိုကရေစီအခွင့်အရေး အားလုံးကို ပိတ်ပင်ထားလိုက်သည်။ စစ်အုပ်စု၏ ဒီမိုကရေစီ၊ သေနတ်ဒီမိုကရေစီ တခုသာ ကျန်ပါတော့သည်။

မြေပေါ်တွင် အန်တုရဲ၊ စိန်ခေါ်ရဲသော အဖွဲ့အစည်း၊ လူပုဂ္ဂိုလ်ဆိုလို့ များများစားစား မကျန်တော့ပါ။ ထိုအထဲတွင် ဗကသ ကျန်ခဲ့သည်။ ရန်ကုန်တွင် ဗကသ၊ တကသ၊ ရကသ စသည့် အခိုင်အမာ သမဂ္ဂကြီး ၃ ခုက အအုပ်အစည်းမပျက် ရှိနေဆဲ -

မြေပေါ်နိုင်ငံရေး ပါတီများသည် "မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်"အပေါ် အကဲဖြတ်ကြရင်းကတိတိလင်းလင်း ကွဲနေကြချိန်-

ဤအချိန်တွင် စစ်အစိုးရကို လက်တွေ့ကျကျ စတင်စိန်ခေါ်သူများကတော့(ထုံးစံအတိုင်း) ဗကသဦးဆောင်တဲ့ ကျောင်းသားများ ဖြစ်ကြပါသည်။

၁၉၆၂ ခုနှစ် ဇူလိုင် ၇ ရက် အရေးတော်ပုံပေါ်ပေါက်ခဲ့သည်။ ၇ ရက် ဇူလိုင် အရေးအခင်း နှင့်ပတ်သက်ပြီး သမိုင်းတွင် ကိစ္စ(၂)ရပ် ထင်ကျန်ရစ်ခဲ့

သည်။

(၁) အုပ်စိုးသူအစိုးရက ကျောင်းသားချည်းသန့်သန့် ပစ်ကွင်းထားပြီး ရာကျော်အောင် ပစ်ခတ်၊ သတ်ဖြတ်ခြင်းမှာ ကမ္ဘာတွင် ပထမဆုံးအကြိမ် ဖြစ်သည်။

(၂) သမိုင်းဝင် ကျောင်းသားသမဂ္ဂ အဆောက်အဦကြီးကို မိုင်းနှင့် ဖြိုခွဲ ဖျက်ဆီးပစ်လိုက်သည့် ဖြစ်ရပ်မှာလည်း ဗမာပြည်တပြည်တည်း ရှိသည်ဆိုသော အချက်များ ဖြစ်သည်။

နယ်တွင် ငြိမ်သွားအောင် စစ်အုပ်စု ဘယ်လိုကိုင်တွယ်ခဲ့ပါသလဲ။

ရန်ကုန်တွင် ဖြစ်ပျက်ခဲ့သော အချင်းအရာများကို (ယခုအခါတွင်) ကိုယ်တွေ့မျက်မြင် ပုဂ္ဂိုလ်များက အပီအပြင် ဖော်ထုတ်နေကြပါသည်။ နောက်ဆက်တွဲ နယ်များတွင် ဖြစ်ခဲ့သည့် ကိစ္စအချို့ တင်ပြပါမည်။

ရန်ကုန်တက္ကသိုလ်ကျောင်းသားများကိုလည်း ရာကျော်အောင် သတ်ပြီးခဲ့လေပြီ။ တနိုင်ငံလုံးလည်း ရာကျော်အောင် သတ်ပြီးခဲ့လေပြီ။ တနိုင်ငံလုံးရှိ အိမ်တိုင်းသည် (ခံစားမှုအရ) အသုဘအိမ်သဖွယ် ဖြစ်ကုန်ကြသည်။ ကြေကွဲမဆုံးဖြစ်ကြရသည်။

သမဂ္ဂအဆောက်အဦကြီးကို ဖောက်ခွဲပစ်လိုက်ပြီး နေဝင်းက “ဓါးခါးချင်း - လှံလှံချင်းမိန့်ခွန်း” ပေးပြီးသွားခဲ့ပြီ။

မိဘတွေက သားသမီးများကို ကျောင်းတောင်မသွားစေချင်ကြသေး။ ကျောင်းသားတွေက အိမ်မှာကုပ်မနေချင်ကြ။ ကျောင်းသို့သာ အာရုံရောက်နေကြသည်။ ကျောင်းရောက်တော့ ဆရာတယောက်က ဆီးပြောသည်။ “ကျောင်းမတက်မီ ဘယ်မှ သွားသွားလာလာ မလုပ်နဲ့၊ အတန်းထဲမှာပဲနေ၊ ကျောင်းတက်တာနဲ့ မင်းတို့တဦးချင်းကို ဗိုလ်မှူးမောင်မောင်နဲ့အဖွဲ့က ခေါ်တွေ့လိမ့်မယ်”တဲ့။

သို့သော် အစီအစဉ်က ပြောင်းသွားသည်။ ကျောင်းတက်သည်နှင့် အထက်တန်းကျောင်းသားအားလုံးကို ခန်းမထဲ ခေါ်သွင်းပါသည်။ ကျွန်တော်တို့ နာမည်ရှိသူများ ရှေ့တန်းမှာ ထိုင်ခိုင်းသည်။ စင်မြင့်ပေါ်မှာတော့ မြို့ခံတပ်ရင်းမှူး၊ အရေးပိုင်၊ ခရိုင်ဝန်နှင့် ကျောင်းအုပ်ဆရာမကြီး ရှိသည်။

ဆရာမကြီးက ရှေးဦးစကားပြောပြီး တပ်ရင်းမှူး ဗိုလ်မှူးမောင်မောင်က (၇) ရက် ဇူလိုင် အရေးအခင်းကိစ္စ အကျဉ်းချုံးပြောသည်။ အသတ်ခံရသူ ကျောင်းသားများကို တရားခံနေရာတွင်ထား၍ သတ်သူ စစ်အစိုးရကို မလွှဲသာဘဲ တာဝန်ထမ်းဆောင်သူများအဖြစ် ပုံဖော်ပါသည်။

နောက် ခရိုင်ရဲဝန်က အဓိကရုဏ်းကိစ္စများတွင် အုပ်ချုပ်သူများဘက်မှ တရားဥပဒေ အကြောင်းအရ လိုက်နာဆောင်ရွက်သည့် ကျင့်ထုံးများကို ရှင်းပြသည်။ ဗိုလ်မှူးမောင်မောင် ပြောစကားနှင့် အနှစ်သာရချင်း အတူတူပါ။ သူတို့ပြောတာ မှတ်မိသလောက် -

ကျောင်းသားများက ဥပဒေချိုးဖောက်မှု

အဆင့်ဆင့် လုပ်လာကြောင်း။

တက္ကသိုလ် အာဏာပိုင်များက ဘယ်လို သတိပေးပုံ။

ရဲများနှင့် ထိန်းသိမ်းပုံ။

မနိုင်၍ စစ်တပ်ကို အကူအညီတောင်းရပုံ။

စစ်တပ်က ပထမအဆင့်တွင် သတိပေး ခြောက်လှန့်ပစ်၊

ဒုတိယအဆင့်ရောက်မှ တတောင့်ချင်း၊ အောက်ပိုင်းကိုပစ်၊

တတိယအဆင့် ရောက်တဲ့အခါမှာတော့

အပေါ်ပိုင်းကို ပစ်တာ ဖြစ်ကြောင်း။

သေဆုံးတာနည်းနည်းပါးပါးပဲဖြစ်ကြောင်း စသည်တို့ပါဝင်သည်။

နိဂုံးချုပ်အဖြစ် နှစ်ယောက်စလုံး အလေးထားပြောသွားတာကတော့ “တို့ကတော့ ဝန်ထမ်းတွေဖြစ်တယ်။ အထက်က အမိန့်ပေးတာကို ဆောင်ရွက်ကြမှာပဲ။ မင်းတို့အနေနဲ့ ငြိမ်ငြိမ်စိမ်စိမ် နေကြပါ။ အေးအေးချမ်းချမ်း စာပဲ သင်ကြပါ။ ရန်ကုန်မှာဖြစ်တာ မင်းတို့နဲ့ မဆိုင်ဘူး” ဆိုတာပါပဲ။ ဒီလို သဘောမျိုး ခြိမ်းခြောက်ပြောဆိုပြီး ရုပ်သိမ်းလိုက်ပါသည်။

ကျွန်တော်တို့ ဘာဆက်လုပ်ခဲ့ကြသလဲ။

စစ်အုပ်စု ဘက်ကတော့ ရှင်းသည်။ သေနတ်နဲ့ အာဏာသိမ်းပြီး သေနတ်နဲ့ပဲ အာဏာကိုထိန်းကြတော့မည်။ ကျောင်းစာသင်ခန်းများသည် ပျော်မွေ့စရာမကောင်းတော့။ နိုင်ငံ့အရေး လုပ်ချင်ကိုင်ချင်သူများ

အတွက် အရင်းအနှီးက သိပ်ကြီးသွားပါပြီ။

စစ်ထောက်လှမ်းရေး၏ အာဏာအဝန်းအဝိုင်းကို တိုးချဲ့ပြီးရင်း တိုးလာသည်။ လက်နက်မရှိသူများကို လက်နက်ရှိသူက အဆမတန် အင်အားသုံးပြီး ဖြိုခွဲလိုက်တဲ့နောက်မှာ ကျွန်တော်တို့ ခဏတော့ ငြိမ်နေလိုက်ကြသည်။

သမဂ္ဂအဆောက်အဦ (နိုင်ငံရေးသိမ်) ကြီးလည်း မရှိတော့။ ဗကသ၊ တကသ၊ ရကသ ခေါင်းဆောင်အချို့လည်း အကျဉ်းထောင်တွေထဲ ရောက်ကုန်ကြပြီ။ ခေါင်းဆောင်မှု မဲ့နေချိန် စိတ်ဓာတ်ရေးရာသိမ်(ရင်ထဲ အသည်းထဲ)မှာတော့ သမဂ္ဂအဆောက်အဦကြီး မရှိတော့ဘူး။ ဘယ်သူ ဖောက်ခွဲလိုက်သလဲ။

ညီနောင် ကျောင်းသား ၁၀၀ ကျော် ကျဆုံးကုန်ကြပြီ။ ဘယ်သူ ပစ်သတ်သလဲ။ ဒါပဲရှိသည်။

ဒါကို ကျောင်းသားများသာမက မိဘပြည်သူများကလည်း မမေ့။ ကမ္ဘာ့ပြည်သူများကလည်း အမှတ်ထင်ထင်ရှိသည်။ ဥရောပခရီးတွင် ကျောင်းသားသတ်သော ဗိုလ်နေဝင်း ကြက်ဥပုပ်နှင့် အပေါက်ခံရသည်။ သို့သော် ဗိုလ်နေဝင်းက 'လည်' သည်။ ဖောက်ပြန်ရေးသမားများ၏ ဖော်နည်းကားများကို အရည်ကျိုသောက်ထားသည်။ အကြမ်းဖက် သတ်ဖြတ်တာပြီးလျှင် 'မှိုင်း' တိုက်တာ လုပ်ရမည်ကို သူသိသည်။

"မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်"တို့၊ "ပြည်တွင်းငြိမ်းချမ်းရေး စေ့စပ်ဆွေးနွေးပွဲ" တို့လုပ်သည်။ ဝဲ-ယာ အင်အားစုအချို့၊ ကျောင်းသားခေါင်းဆောင်အချို့ကို ဝယ်ယူရရှိသွားသည်။ စေ့စပ်ဆွေးနွေးပွဲကာလ ၆၃ ခုစာသင်နှစ်တွင် ကျွန်တော် မန္တလေးတက္ကသိုလ် ရောက်နေပါပြီ။ တက္ကသိုလ်အနီး ဗောဓိကုန်းရပ်မှာ အိမ်လေးတအိမ်ကို ငှားပြီး မြင်းခြံသား ၆ ယောက်စုနေကြသည်။ "သပြေရိပ်" ဟု အမည်တွင်သည်။ အားလုံးလောက်က မတကသ၊ ကျောင်းသားညီညွတ်ရေးတပ်ဦး၊ ဗကသအမှုဆောင် စသည့်တာဝန်များ ယူထားကြသည်။ ကိုအောင်သူက မန္တလေးတက္ကသိုလ်ကျောင်းသားများသမဂ္ဂ(မတကသ) အတွင်းရေးမှူး၊ ကိုမြသွင်၊ ကိုကျော်ဝင်း (ရှစ်လေးလုံးကာလ ပခုက္ကူမြို့တွင် ကျဆုံး) တို့က ကျောင်းသားညီညွတ်ရေးတပ်ဦး၊ မန္တလေးအရှေ့တောင်မြို့နယ် ဗကသဥက္ကဋ္ဌက ကိုလေးမောင် (ကိုကိုးကျွန်းအာဇာနည်)၊ အတွင်းရေးမှူးက ကျွန်တော်ဖြစ်သည်။ ကျန်တယောက်က အထွေထွေ။

မတကသ ရုံးခန်းကလည်း မရှိတော့။ ဖျက်ထားခံလိုက်ရပါပြီ။ ဒါကြောင့် သမဂ္ဂလုပ်ငန်းများကို ကျွန်တော်တို့ အိမ်မှာပင် လုပ်ကြသည်။ သို့သော် မှတ်မှတ်ရရ (၇)ရက် ဇူလိုင် နှစ်ပတ်လည် အခမ်းအနားကို အမိုးအကာ မရှိတော့သော မတကသ အဆောက်အဦ အုတ်ခုံပေါ်တွင် ကျင်းပဖြစ်အောင် ကျင်းပလိုက်ကြသည်။ ဒါက ဘာကိုပြပါသလဲ။

"ဗကသဟာ လုပ်စရာရှိတာကို လုပ်တဲ့အစဉ်အလာကို ထိန်းသိမ်းတယ်။ လုပ်စရာရှိလျှင် မေ့မထား။ လုပ်ရတဲ့အချိန်၊ လုပ်ရတဲ့နေရာမှာ လုပ်တယ်" ဆိုတာကို ပြသည်။ ကျွန်တော်တို့ "သပြေရိပ်သာ" တွင် အမြဲလိုလိုရှိနေသူ (သို့) တနေ့တခေါက် မှန်မှန်ရောက်နေသူ ၄ ဦးခန့်ရှိပါသည်။

တယောက်က ကိုကျော်ခင် (မဆလ အတွင်းရေးမှူး(၂) ဗိုလ်မှူးကြီးသန်းစိန်၏ ညီ၊ တောတွင်းမှာပင် မှားယွင်းအရေးယူခံရသူ) သူက ကျောင်းသားညီညွတ်ရေးတပ်ဦး ဥက္ကဋ္ဌ။ နောက်တယောက်က တပ်ဦးအတွင်းရေးမှူး ကိုသောင်းရွှေ(တောခိုသွားရာမှ ပေါင်းလောင်း တွင် ကျဆုံးသွားသူ)၊ ပြီးတော့ ကိုငွေးလှ (မန္တလေးထောင်တွင်း ကျဆုံးသွားသူ) နှင့် ကဗျာဆရာ ကြည်အောင် တို့ဖြစ်သည်။ သူတို့သည် "သပြေ"တွင် တထောက်နားပြီးမှ ကျောင်းသွားတက်သူများ ဖြစ်သည်။ ကျောင်းရက်ရှည်ပိတ်ရက်ကြုံလျှင် RIT ကျောင်းသား ကိုစိုးဝင်း(လူထုဦးလှ-ဒေါ်အမာသား၊ တောတွင်းတွင် မှားယွင်းအရေးယူခံရသူ) လည်း ကိုကျော်ခင်နှင့်အတူ ရောက်လာတတ်သည်။ ဒီအခါမျိုးမှာ ရန်ကုန်ကျောင်းသား လှုပ်ရှားမှုများအကြောင်း တဝကြီး ကြားရသည်။

မပြတ်လို ရောက်နေတတ်သူ ၃ ဦးရှိသေးသည်။ မန်းဆေးသိပ္ပံမှ ဆရာဝန်လောင်းများဖြစ်ကြသော ဒေးဒရဲမှ ကိုလှဆောင်(ပဲခူးရိုးမတွင် ကွယ်လွန်)၊ ကိုအေးမြင့်(ခေါ်) အောင်သွင်မိုး(ကိုကိုးကျွန်းပြန်) နှင့် ကိုဘမူ(ဒေါက်တာ တင့်ပိုင်နိုင်ဦး) တို့ဖြစ်ကြသည်။

၆၃ ခုနှစ် ပြည်တွင်းငြိမ်းချမ်းရေး စေ့စပ်ဆွေးနွေးပွဲ အောင်မြင်ရေး မန္တလေးတွင် ကျင်းပသော ၇ ခရိုင် ဆန္ဒပြပွဲတွင် ကျွန်တော်တို့ကျောင်းသားများ တပျော်တပါး ပါဝင်ခဲ့ကြသည်။ သို့သော် ပြည်သူအများ မျှော်လင့်တောင့်တနေကြသော “စေ့စပ်ဆွေးနွေးပွဲ” သည် မအောင်မြင်ခဲ့ပါ။ ၆၃ ခုနှစ် နိုဝင်ဘာလလယ်လောက်တွင် စစ်အစိုးရက တဖက်သက် ဖျက်သိမ်းပစ်လိုက်ပါသည်။

မြို့တက်ပြီး ဆွေးနွေးလာသော လက်နက်ကိုင် အဖွဲ့အစည်းများ တောတွင်းပြန်ပို့ပြီး မကြာလိုက်ပါ။ ဒီဇင်ဘာလကစပြီး အဖမ်းအဆီးများ ခပ်စိတ်စိတ် လုပ်လာသည်။ ရန်ကုန်ကျောင်းသားများ တောထဲပြေးဝင်နေကြရကြောင်း၊ သတင်းများ ဖြိုးဖြိုးဖျောက်ဖျောက် ကြားနေရသည်။ မန္တလေးမှ ကျောင်းသားခေါင်းဆောင် အချို့လည်း ရှောင်ကြရသည်။ ကျောင်းလည်းပိတ်လိုက်ပြီဖြစ်၍ နယ်ကျောင်းသားများ နယ်ပြန်ကြသည်။ အိမ်ရောက်၍မှ အသားမကျသေး၊ အဖမ်းအဆီးများ လိုက်လာသည်။ မြင်းခြံတွင် ကျောင်းသား/သူ ၁၀ ဦး ခန့်ကို ထောင်ထဲဆွဲထည့်လိုက်သည်။ အပုန်းအရှောင် ကောင်းသူများသာ လွတ်ကြသည်။

၆၄ ခုနှစ် တနှစ်လုံး ကျောင်းသားများအားမွေးနေကြသည်။ ၆၅ ခုနှစ် ရောက်တော့ အထက်ဗမာပြည် ကျောင်းသားလှုပ်ရှားမှုကို တာဝန်ယူမည့် ရဲဘော်တယောက် ပဲခူးရိုးမမှ လျှို့ဝှက်ပြီး ပြန်ရောက်လာသည်။ ရဲဘော်ဌေးလှပါ။ ထောင်မှ ထွက်လာသူ ကိုလေးမောင်နှင့် ကျွန်တော်က ကျောင်းပြန်တက်နေသည်။ လူဟောင်းများ ပြန်စုမိသည်။ လူသစ်များကို တိုးချဲ့စည်းရုံးကြသည်။ တောင့်တင်းသော ယူဂျီကွန်ယက်ကြီး ဖြစ်လာသည်။ သို့သော် ၆၆ ခုနှစ် နှစ်လယ်တွင် အချေမှုန်းခံလိုက်ကြရပြန်သည်။ ဤတခါမှာတော့ ထောင်အဆင့်အဆင့်ပြောင်းပြီး ကိုကိုးကျွန်းအထိ ရောက်သွားကြသည်။ ကျွန်တော်တို့၏ လုပ်ငန်းများကား ရပ်မသွား။ အပြင်ကျောင်းမတက်ရလည်း၊ တက္ကသိုလ်မှ ဘွဲ့ဒီဂရီမရလည်း ထောင်တွင်းဘွဲ့များ ရအောင်ယူကြသည်။

ထောင်အပြင်ဘက်တွင် ကျန်နေသော သမဂ္ဂကျောင်းသားများကလည်း ခေတ်၏ရေစီးကြောင်းနှင့်အညီ တိုက်ပွဲဆင်မြဲ ဆင်လျက်ရှိကြသည်။ ထောင်တွင်းထောင်ပြင် ဘယ်သူမှ အိပ်မောကျ မနေကြပါ။ ကျွန်တော်တို့ ထောင်ထဲရောက်ပြီးလို့မှ မကြာမီ ဗိုလ်နေဝင်း၏ လှည့်ကွက်အောက်တွင် တရုတ်-ဗမာ အရေးအခင်း ဖြစ်ပွားသည်။ ဆန်ပြတ်လပ်မှုနှင့် အမေရိကန်ဆုလာဘ် မျှော်ကိုးမှုအောက်တွင် ဗိုလ်နေဝင်း၏ ချိန်ကိုက်လှုပ်ရှားမှုပါ။ ကျောင်းသားများ ဝင်နွှဲကြသည်။ မန္တလေးထောင် တိလပ်ဆောင်ထဲမှာ နေ့ဝက်မျှ ခေါ်သွင်းထိန်းသိမ်းထားတာ တွေ့လိုက်ရသည်။

မြေအောက် ဗကသက နေဝင်း၏ အကောက်ကြံမှုကို ဖွင့်ချဟန့်တားကြသည်။ သူတို့ကတော့ ထောင်ထဲ နှစ်ရှည်ဧည့်သည် အဖြစ် ရောက်လာကြကာ ကိုကိုးကျွန်းအထိ ပါလာကြသည်။ ကျောင်းသားဟူသည် နှံ့စပ်သည်။ အလွှာပေါင်းစုံက လာသူများဖြစ်၍ သူတို့အဝိုင်းထဲတွင် သတင်းစုံရှိသည်။ နိုင်ငံရေးကို ခဏအတွင်း အကဲဖြတ်နိုင်သည်။ ၆၇ ခုနှစ်က ဦးတည်ချက်လွဲသွားသည်ကို ၆၉ ခုနှစ် ကျွန်းဆွယ်အရေးခင်းတွင် စစ်အုပ်စုကို ဦးတည်ချက်ထားပြီး ထိထိမိမိ တိုက်ပွဲဆင်လိုက်နိုင်ကြသည်။ ၇၃ ခုနှစ် ထောက်ကလွတ်လာပြီးနောက် ကျွန်တော် ကျောင်းသားမဟုတ်တော့ပါ။ ဘေးမှ ပံ့ပိုးကူညီသူသာ ဖြစ်နေသည်။

သို့သော် ဗကသ ရေစီးကြောင်းကြီးကတော့ ဆက်လက်စီးဆင်း နေပါသည်။ မြင်သာတာရော တိတ်တဆိတ်ပါ ယှဉ်တွဲစီးဆင်းနေတာကို တွေ့နေရသည်။ ၇၄ မေ၊ ဇွန် အလုပ်သမားအရေးအခင်းကို ထောက်ခံသည်။ ဦးသန့်စျာပနကိစ္စတွင် ရှေ့တန်းပြန်တက်သည်။ မှိုင်းရာပြည့် ဆက်လက်ဆင်နွှဲသည်။

ထောင်ထဲဝင်သွားကြသည်။ ပြန်ထွက်လာကြသည်။ ပြန်လုပ်ကြသည်။ မလှုပ်ရှားနိုင်သည့်အချိန်တွင် လေ့လာနေကြသည်။ ကျောင်းစာတွင် အာရုံစိုက်နေကြသည်။ သမဂ္ဂစိတ်ဓါတ်၊ ဗကသစိတ်ဓါတ် ဘယ်တော့မှ မပျက်သည့် သဘောကို ပြနေခြင်းဖြစ်သည်။ ဒါကြောင့်လည်း “အောင်ကျော်ကြီးသေလျှင် အောင်ကျော်လေးများ မွေးဖွားသည်”။ “တကသ(ဗကသ)မသေ၊ ဘယ်တော့မှမသေ”လို့ ကြုံးဝါးနိုင်ကြတာပါ။ ယခုအထိ ဗကသ အောင်ပွဲမခံနိုင်သေးပါ။ သို့သော်

တာဝန်ကျေခဲ့သည်။

စစ်ကြီးမဖြစ်မီ ဗကသက ဗမာပြည် နိုင်ငံရေး၏ အဓိက ဇာတ်ဆောင်များ မွေးဖွားပေးခဲ့သည်။ ဇာတ်ကြမ်း၊ ဇာတ်နု၊ အလွမ်းဇာတ်၊ ဇာတ်လမ်းစုံ ကခဲ့ကြသည်။

**(၃) နိဂုံး**

ဗုဒ္ဓရဲ့ ဘာသာရေး"သိမ်"က "ရေဖျက်၊ မီးဖျက်၊ ကမ္ဘာပျက်တောင် နောက်ဆုံးမှ အဲဒီမြေနေရာ ပျက်တယ်" လို့ဆိုသည်။ တကသ အဆောက်အဦ ရှိနေစဉ် အဲဒီ "နိုင်ငံရေးသိမ်"က မွေးပေးလိုက်သည့် မျိုးဆက်များထဲတွင်...

ပထမ မျိုးဆက်များအဖြစ် ကိုနု၊ ကိုရာရှစ်၊ ကိုအောင်ဆန်း၊ ကိုဗဟိန်း၊ ကိုဗဆွေ၊ ကိုကျော်ငြိမ်းတို့က ဗွေဆော်ဦး "တကသသိမ်" ဝင်ခဲ့ကြသည်။ ဒီမှာပင် နိုင်ငံရေးသိက္ခာတင်ခဲ့ကြသည်။ ကျောင်းသားမျိုးဆက်ဆိုသည်မှာ လေးငါးဆယ်နှစ်ရှိလျှင် ပြောင်းပါသည်။ မျိုးဆက်အစဉ်အဆက် ရှိသည့်အနက် လွတ်လပ်ရေးခေတ်နောက်ပိုင်းတွင် ထင်ရှားသူများမှာ ကိုသက်၊ ကိုတင်ထွန်း၊ ကိုလှရွှေ၊ ကိုစိန်ဝင်း(ခရမ်း)၊ ကိုလှကြည်၊ ကိုဉာဏ်ဝင်း စသူများ ဖြစ်သည်။

တကသသိမ်မှ ထွက်လာသူ အနည်းစုသည် ပြည်တွင်းစစ် တိုက်ပွဲတွင် မှားယွင်းပြီး အရေးယူခံခဲ့ကြရသည်။ ကိုကျော်ခင်၊ ကိုစိုးဝင်း၊ ကိုအောင်သိန်းနိုင်၊ ကိုခင်ဝင်း၊ ကိုသိန်းထွန်း (NLD ဒေါ်မြင့်မြင့်ခင်၏ မောင်) စသည့် ကျောင်းသားခေါင်းဆောင်များ ဖြစ်ပါသည်။ ၁၉၆၂ ခုနှစ် တကသ အဆောက်ဦ မရှိသည့်နောက် ကျောင်းသားအရေး ဆက်လက်လုပ်ကိုင်ကြသူ ဗကသရဲဘော်များကိုတော့ "စိတ်ဓါတ်ရေး သိမ်ထွက်" များလို့ သတ်မှတ်ချင်ပါသည်။

ဗကသ ယူဂျီကာလ စစ်ကိုတော့ ၆၃ ခုစေ့စပ်ဆွေးနွေးပွဲများ ပျက်အပြီး အဖမ်းအဆီးတွင် ရှောင်ကြတိမ်းကြရသည့် အချိန်မှ စတွက်ရမည် ထင်သည်။ ဗကသ ပထမ ယူဂျီမျိုးဆက်ကို ဤအချိန်မှ စတင်မွေးဖွားသည်။ ထောင်တွင်း ထောင်ပြင် လက်ဆင့်ကမ်းသွားကြသည်။ ၁၉၈၈ အရေးခင်းကာလကျမှ ဗကသ ပေါ်ပေါ်ထင်ထင် ထွက်လာသည်။ ရှစ်လေးလုံးမှ မွေးထုတ်လိုက်သည့် ဗကသ ခေါင်းဆောင်စုကတော့ ကိုမင်းကိုနိုင်၊ ကိုမိုးသီးဇွန်၊ ကိုအောင်ဒင် နှင့် ကိုကိုကြီး စသူတို့ ဖြစ်သည်။

ဗကသ ယူဂျီမှ "နိုင်ငံရေးသိမ်ထွက်" မျိုးဆက်သစ်ခေါင်းဆောင်များ တသုတ်ပြီးတသုတ် မွေးထုတ်ပေးနေသည်။ ၁၉၉၆ ခုနှစ်တွင် နောက်ဆုံးအသုတ် ထွက်လာသည်။ ဗမာပြည်အနာဂတ်နိုင်ငံရေးကို ထို"နိုင်ငံရေးသိမ်"ထွက်များပဲ အဓိက ကပြရှေ့ဆောင်သွားကြ ပါလိမ့်မည်။ ။

**အောင်ငြိမ်း (မြင်းခြံ)**

(၇ ရက် ဇူလိုင် နှစ် ၄၀ ပြည့် မှ — )

# ဘွဲ့နှင်းသဘင်၊ သစ်ပုတ်ပင် နဲ့ မာလာမန္တလေး၊ ဟိုအဝေးမှာ

■ ကျောင်းသားခေါင်းဆောင်ဟောင်းတဦး

မိမိ အမိတက္ကသိုလ်ကြီးနဲ့ လွဲခဲ့၊ ခွဲခဲ့ရတာ၊ ဒီကနေ့ဆိုရင် နှစ်ပေါင်း (၅၅)နှစ် ရှိခဲ့ပါပြီ။ ၁၉၆၃ ခုနှစ် နိုဝင်ဘာ (၁၄) ရက်နေ့မှာ၊ တော်လှန်ရေးကောင်စီအစိုးရနဲ့ တော်လှန်ရေးအင်အားစုများအကြား၊ ပြည်တွင်းစစ်ရပ်စဲပြီး၊ ပြည်တွင်းငြိမ်းချမ်းရေး ရယူတည်ဆောက်ကြဖို့ ဆွေးနွေးနေကြတဲ့ ငြိမ်းချမ်းရေးဆွေးနွေးပွဲ ပျက်ပြားသွားခဲ့ပါတယ်။ ဒီအခြေအနေကို အကြောင်းပြပြီး ရန်ကုန်တက္ကသိုလ်ကြီးကို ရက်အကန့်အသတ်မရှိ ပိတ်လိုက်ကြောင်း အစိုးရက ကြေညာခဲ့ပါတယ်။ ဆရာကြီးသခင်ကိုယ်တော်မှိုင်းရဲ့ "သူမနာ၊ ကိုယ်မနာ"တဲ့ နည်းနဲ့ ငြိမ်းချမ်းရေးကို ရှာဖွေနိုင်ကြလိမ့်မယ်လို့ မိမိတို့ကျောင်းသားများက အများကြီး မျှော်လင့်ထားကြပါတယ်။ ရန်ကုန်မြို့ပေါ်မှာရှိတဲ့ တက္ကသိုလ် နှင့် သောလိပ်များ၊ အထက်တန်းကျောင်းသားများ အားလုံးဟာ ပြည်သူ့ကော်မတီကြီးက ဦးစီးကျင်းပခဲ့တဲ့ နိုဝင်ဘာ (၁၀) ရက်နေ့၊ ၆-ခရိုင်ငြိမ်းချမ်းရေးဆန္ဒပြပွဲကြီးမှာ ထောင်နဲ့ချီပြီး ပါဝင်လှုပ်ရှားခဲ့ကြပါတယ်။ အခုတော့ ခဲလေသမျှ သဲရေကျ ဖြစ်ခဲ့ကြရပါပြီ။ သမဂ္ဂများနဲ့ ကျောင်းသားများဟာ အစိုးရအမိန့်ကို ဆန့်ကျင်ပြီး နိုဝင်ဘာ (၂၂) ရက်နေ့အထိ အိမ်မပြန်ရေးလှုပ်ရှားမှုဆင်နွှဲခဲ့ကြပါတယ်။ ရေ၊ မီး၊ အစာ အဖြတ်ခံရပါတယ်။ မိန်းမသားဖြစ်သူများ နှင့် ကျောင်းသူများကို အိမ်ပြန်ကြဖို့ ဖျောင်းဖျကြရပါတယ်။ နိုဝင်ဘာ(၁၇)ရက်နေ့မှာ အိမ်ပြန်ကြပါတယ်။ ကျောင်းသားများက ဖယောင်းတိုင်ထွန်း၊ အင်လျားမှာ ရေချိုး၊ ကမာရွတ်လှည်းတန်းလူထုကြီးက အစာရေစာ၊ ဆေးဝါး အားလုံး ပေးကမ်းထောက်ပံ့ကြပါတယ်။ 'အိမ်မပြန်ရေး" လှုပ်ရှားမှု အဆိုကို၊ ပင်းယဆောင်ရှေ့ ကျောက်တိုင်ပေါ်တွင် သမဂ္ဂကြီး (၃) ခု ကိုယ်စား၊ မိမိတင်ခဲ့ပါတယ်။ ဆရာကြီးသခင်ကိုယ်တော်မှိုင်း ကြီးမှူးတဲ့ ပြည်တွင်းငြိမ်းချမ်းရေးအဖွဲ့က "သားတို့၊ မြေးတို့ အိမ်ပြန်ကြပါကွယ်။ မလိုလားအပ်တာတွေကို ဘဘ မမြင်ပါရစေနဲ့၊ လိမ္မာကြပါ"လို့ နှိုးဆော်စာကို ရဲဘော်သုံးကျိပ်ဝင် ဗိုလ်မှူးချုပ်ကျော်ဇောက အဓိပတိလမ်းမကြီး အဝင်ဝမှာ ဖတ်ကြားပါတယ်။ အဲ့ဒါကြောင့် မိမိတို့ ကျောင်းသားအဖွဲ့အစည်းများနဲ့ ကျောင်းသားများက နိုဝင်ဘာ(၂၂)ရက်နေ့ကစပြီး မိဘရပ်ထံ အေးအေးဆေးဆေး ပြန်ခဲ့ကြပါတယ်။

အဲဒီ(၂၂)ရက်နေ့ကစပြီး မိမိဟာ အမိတက္ကသိုလ်ကြီးနဲ့ ခွဲခဲ့ရတာ ဒီကနေ့အထိပဲလို့ မှတ်ယူချင်ပါတယ်။ မိမိဟာ ၁၉၅၆-၅၇ ခုနှစ်၊ ပညာသင်နှစ်မှာ တက္ကသိုလ်ရောက်လာပြီး၊ ဝိဇ္ဇာဘာသာရပ်များ သင်ယူသူဖြစ်လို့ ထီးတန်းဥပစာကောလိပ်မှာ အဆောင်ရပါတယ်။ စာသင်ခန်းနဲ့ အိပ်ဆောင်က တဝင်းထဲပါပဲ။ မိန်းကလေးများက ပင်မတက္ကသိုလ်မှာရှိတဲ့ အဆောင်ကနေ ထီးတန်း/ ရန်ကင်းကောလိပ်တို့ကို ဖယ်ရီကားနဲ့ လာကြပြန်ကြရပါတယ်။ ထီးတန်းဆောင်မှာ အဆောင်နေကျောင်းသား (၁၅၀) ကျော်ကျော်ပဲ ရှိပါတယ်။ အဆောင်မှူးက ဆရာကြီးဦးအေးဖေ(မဟာဝိဇ္ဇာ) ပါ။ ထီးတန်းဆောင်မှာ သဟာရနဲ့ စာဖတ်အသင်း (The Social and Reading Club (S & R)) ရှိပါတယ်။ S & R အမှုဆောင်ကို အဆောင်သားထုက မဲပေးရွေးကောက်ကြတာပါ။ ၁၉၅၆ -၅၇ စာသင်နှစ်မှာ မိမိက ထီးတန်း S & R ရဲ့ အတွင်းရေးမှူး၊ စိုင်းအောင်းဝင်က ဥက္ကဋ္ဌ ပါ။ အမှုဆောင် (၂၁) ဦး ပါဝင်ပါတယ်။ S & R ဟာ အဆောင်သားထုရဲ့ သာမှု၊ နာမှုများ အားလုံးကို ဆောင်ရွက်ရပါတယ်။ အထူးသဖြင့် နေ့စဉ် အစားအသောက် အဆင်ပြေဖို့ပါ။ အဆောင်ကြေး (၅၀) ကျပ်၊ ကျောင်းလခ-၁၅/- တလ(၆၅)ကျပ်ပေးရပါတယ်။ ဆင်းရဲသားကျောင်းသား (မိမိတို့လို)က တလ-၈၅/နဲ့ ၁၀၀ိ/-ကျပ် ကြားနဲ့ နေရပါတယ်။ ချောင်လည်သူများ၊ သူဌေးသားသမီးများက ၃၀၀ိ/-ပါ။ စပါးတင်းတရာကို ၃၀၀ိ/-ပါ။ အများသုံးဆန်တပြည် (၆၅) ပြားပါ။ ဆီတပိဿာ (၃) ကျပ်နှင့် (၂၅)ပြားဈေး ရှိပါတယ်။ ကျောင်းသားတယောက်အတွက် ထမင်းနှစ်

နပ်၊ မုန့်နှင့် ကော်ဖီ တနေ့ (၁)ကျပ်နှင့် (၁၃)ပြားနှုန်းနဲ့ ကျွေးပါတယ်။ နေ့စဉ် အသားတမျိုး၊ ဟင်းသီးဟင်းရွက်ကြော်၊ ဟင်းချို ပေးပါတယ်။ စားလို့ဖြစ်ပါတယ်။ နေ့စဉ် ထမင်း၊ ဟင်း အဆင်ပြေစေဖို့ ဒုအဆောင်မှူးနဲ့ S & R အမှုဆောင်အဖွဲ့က ညှိနှိုင်းဆောင်ရွက်ကြပါတယ်။

အဲဒီစဉ်က တက္ကသိုလ်မှာ အားကစားအသင်းပေါင်းစုံ ရှိပါတယ်။ မောင်မယ်ရွေးပွဲများ ရှိပါတယ်။ သမိုင်း၊ မြန်မာစာစတဲ့ ဘာသာရပ်ဆိုင်ရာ အသင်းများ ရှိပါတယ်။ ရန်ကုန်တက္ကသိုလ် အနုပညာအသင်းနဲ့ ဗုဒ္ဓသာသာအသင်းကြီး ရှိပါတယ်။ ခရိုင်နဲ့ မြို့နယ်အသင်းများရှိပါတယ်။ လူမျိုးစုအလိုက် အသင်းများရှိပါတယ်။ ရန်ကုန်တက္ကသိုလ် လူမျိုးစုကျောင်းသားများအဖွဲ့ချုပ် ရှိပါတယ်။ ခရိုင်နဲ့ မြို့နယ်အသင်းများရှိပါတယ်။ လေ့လာရေးခရီးစဉ်များ၊ ပစ်ကနစ်များ ထွက်တတ်ကြပါတယ်။ တကသအဆောက်အဦမှာ အကြောင်းအရာစုံ ဟောပြောပွဲများ၊ ဉာဏ်ကြီးရှင်ဖြေဆိုပွဲများ၊ စကားရည်လုပွဲများ ကျင်းပကြပါတယ်။ အားကစားပြိုင်ပွဲအမျိုးမျိုး ရှိပါတယ်။ ရန်ကုန်တက္ကသိုလ် ကလောင်အသင်းရှိပါတယ်။ ပုလဲပန်း မဂ္ဂဇင်းထုတ်ပါတယ်။ ရန်ကုန်တက္ကသိုလ် နှစ်လည်မဂ္ဂဇင်း ကော်မတီက နှစ်လည်မဂ္ဂဇင်း ထုတ်ပါတယ်။ တကသ အိုးဝေ မဂ္ဂဇင်းကော်မတီက အိုးဝေမဂ္ဂဇင်း ထုတ်ပါတယ်။ ရန်ကုန်တက္ကသိုလ် သတင်းထောက်အသင်း ရှိပါတယ်။ စစ်ပညာသင်ချင်ရင် သင်ဖို့ ရန်ကုန်တက္ကသိုလ် တပ်ရင်း ရှိပါတယ်။

လွတ်လပ်ရေးနေ့၊ သီတင်းကျွတ်၊ တန်ဆောင်တိုင်၊ သင်္ကြန်ပွဲများမှာ မိန်းကလေးကျောင်းဆောင်များမှာ အကျွေးအမွေးအမျိုးမျိုး နဲ့ ကျွေးမွေးဧည့်ခံတတ်ကြပါတယ်။ နှစ်ကုန်ပိုင်း၊ နှစ်ဆန်းပိုင်းများမှာ မိန်းကလေး၊ ယောကျ်ားလေး အဆောင်တိုင်းက နှုတ်ဆက် ညစာစားပွဲကြီးများ ကျင်းပလေ့ရှိကြပါတယ်။ အဲဒီပွဲကြီးများမှာ အမာစိန်၊ နွဲ့နွဲ့စန်း၊ ရှုမဝတင် စတဲ့ နာမည်ကြီးအငြိမ့်များ ထည့်သွင်းကပြစေခဲ့ပါတယ်။ ခေတ်အလိုက် နည်မည်ကြီးကြတဲ့ စန္ဒယားချစ်ဆွေ၊ ကိုမြကြီး၊ ကိုမိုးဝေ၊ ကိုမင်းနောင်၊ ကိုသန်းလှိုင်၊ မာမာအေး၊ ရီလေး၊ နွဲ့လေး၊ သဇင်ကြီး၊ ချိုပြုံး၊ မောင်မောင်ကြီးစတဲ့ နာမည်ကြီးအဆိုတော်များကို ဖိတ်ကြား ဧည့်ခံစေခဲ့ပါတယ်။ ဒီညစာ စားပွဲကြီးများဟာ ပညာသင်နှစ် ကုန်ဆုံးပြီးခါနီးမှာ ကျင်းပတဲ့ပွဲများဖြစ်တာကြောင့် နှုတ်ဆက်ညစာစားပွဲကြီးလည်း ဖြစ်ပါတယ်။ ဒီညစာ စားပွဲကြီး ဘယ်လောက် စည်ကားသိုက်မြိုက်သလဲဆိုတာဟာ အဆောင်သဟာယနဲ့ စာဖတ်အသင်းရဲ့ အစွမ်းအစကို စစ်ဆေးသလိုဖြစ်တာကြောင့် အဆောင်တိုင်းက S & R များဟာ ကျားကျား၊ မမ ဒီပွဲကြီးကို အကောင်းဆုံး အစည်ကားအသိုက်မြိုက်ဆုံး ဖြစ်အောင် ကြိုးပမ်းကြစမြဲ ဖြစ်ပါသည်။

ဗကသများ အဖွဲ့ချုပ်၊ တကသနဲ့ ကျောင်းသားညီညွတ်ရေးတပ်ဦးစတဲ့ ကျောင်းသား အဖွဲ့အစည်းကြီးများ ကိုယ်တိုင်ပါဝင် ကြိုးပမ်းကြတဲ့ ပွဲကြီး(၂)ပွဲ ရှိပါသေးတယ်။ အဲဒါကတော့ (၂)နှစ် တကြိမ် အလှည့်ကျကျင်းပကြတဲ့ ‘ကျောင်းသားပွဲတော်’ နဲ့ ‘တက္ကသိုလ်နဲ့ကောလိပ်ပေါင်းစုံ တွေ့ဆုံဆွေးနွေးပွဲ’ ပါပဲ။ ဒီ (၂)ပွဲကို အံလွဲပြီး ကျင်းပကြပါတယ်။ ဒီ(၂)ပွဲလုံးက အရေးကြီးပါတယ်။ ကျောင်းသားပွဲတော်ကို သမဂ္ဂကြီးများက ပွဲအလုပ်ကို ကိုယ်စားပြုနိုင်တဲ့ ကျောင်းသားသမဂ္ဂခေါင်းဆောင်များပါဝင်တဲ့ ကပွဲကော်မတီ ဖွဲ့စည်းပြီး အဲဒီကပွဲကော်မတီရဲ့ တာဝန်ခံမှုနဲ့ ကျင်းပတဲ့ပွဲမျိုးပါ။ ခေတ်ပြိုင်ကျောင်းသားထုရဲ့ ဘဝအခြေအနေမျိုးကိုလည်း ထင်ဟပ်၊ အနုပညာတန်ဖိုးလည်း မနိမ့်တဲ့၊ ဇာတ်လမ်း၊ ဇာတ်ထုပ်များ၊ အော်ပရာများကို တင်ဆက်ကြရပါတယ်။ ၁၉၅၉ ခုနှစ်၊ ဇန်နဝါရီလ၊ တတိယကြိမ် ကျောင်းသားပွဲတော်မှာ Main Theme အဖြစ်နဲ့တင်ပြတဲ့ “ဆံမြိတ်လည်းပြေ၊ ပန်းလည်းကျေ” ဆိုတဲ့ ဇာတ်ဟာ၊ ဒီဇာတ်မျိုးပါပဲ။ ဒီဇာတ်က အမျိုးသားယဉ်ကျေးမှုကို အထင်သေး ကျောခိုင်းပြီး၊ ခေတ်ပေါ်ယဉ်ကျေးမှုဆိုတာနောက် လိုက်သွားခဲ့တဲ့ အထက်လွှာကျောင်းသူတဦး ဘဝအလှပျက်ပုံကို တင်ပြထားတဲ့၊ ရုပ်ရှင်မင်းသားကြီး ဒါရိုက်တာနဲ့ တေးပြုဆရာ မင်းသားကြီးကိုမြတ်လေးရဲ့ ဇာတ်ပါ။ ဇာတ်လိုက်က ဇာတ်ဆရာဦးဖိုးစိန်ရဲ့မြေး မင်းသားကိုမင်းစိန်ပါ။ မင်းသမီးက သူငယ်ချင်း မေဘယ်လ်ကိုကြီးပါ။ သူတို့ဟာ ဆံမြိတ်ကို သူငယ်ချင်းတွေ မမေ့နိုင်အောင် ကပြသရုပ်ဆောင်ခဲ့ကြတာပါ။ ဒီဇာတ်

ဟာ ၁၉၅၆ ခုနှစ်၊ တကာသငွေရတုသဘင်ပွဲမှာ တင်ဆက်ခဲ့တဲ့ “ညီမလေးမာလာ” အရိပ်ပြဇာတ် 'Shadow Play' လို ကျောင်းသားထုအကြား ပေါက်ခဲ့တဲ့ မင်းသားကြီးကိုမြတ်လေးရဲ့ ဖန်တီးမှုပါ။ “ညီမလေးမာလာ” ဇာတ်ဟာ တကယ့်အဖြစ်လားလို့ ကျောင်းသားများက မေးခဲ့ကြပါတယ်။ ညီမလေးမာလာက ကျောင်းဆက်တက်ဖို့ အာမခံချက်မဲ့သွားတဲ့ မာလာကျောင်းဆောင်သူတဦးဘဝကို နိဂုံးချုပ်သွားပုံနဲ့ တင်ဆက်ထားတဲ့ ငြိမ်းချမ်းရေးတောင်းဆိုထားတဲ့ ဇာတ်ပါ။

လွတ်လပ်ရေးရကာစက ရန်ကုန်တက္ကသိုလ်မှာ ကျောင်းသားများကို ကိုယ်စားပြုထားတဲ့ ကျောင်းသားအဖွဲ့အစည်းက ရန်ကုန်တက္ကသိုလ်၊ တိုးတက်သောကျောင်းသားများအင်အားစုပါ။ The Rangoon University Students' Progressive Force' ပါ။ 'တိုးတက်' လို့ မှတ်ယူ ခေါ်ဝေါ်ကြပါတယ်။ (အစိုးရဘက်က) 'DSO' ပါ။ The Democratic Students' Organization ပါ။ ဒုဝန်ကြီးချုပ်ဦးကျော်ငြိမ်းကိုယ်တိုင် ဦးစီးကွပ်ကဲပါတယ်။ ၁၉၅၃ ခုနှစ်၊ အောက်တိုဘာလထဲမှာ ကျောင်းသားတွေ စာသင်ချိန်နည်းတယ်ဆိုတဲ့ အကြောင်းပြချက်နဲ့ တလ ပိတ်နေကျ အောက်တိုဘာကျောင်းပိတ်ရက်ကို (၁၅)ရက် လျှော့လိုက်ပါတယ်။ ဒါကို DSO များက ကျောင်းတက်ခိုင်းပါတယ်။ အောက်တိုဘာ (၃) ရက်နေ့မှာ ပဋိပက္ခများ အတော်ပြင်းထန်ပါတယ်။ 'တိုးတက်'များက အင်းဝဆောင်ကို သပိတ်စခန်း လုပ်ထားပါတယ်။ ဖဆပလအစိုးရပြည်ထဲရေးဝန်ကြီး ဦးကျော်ငြိမ်းအမိန့်နဲ့ အင်းဝဆောင်သပိတ်စခန်းကို ပစ်ခေတ်နှိမ်နင်းပါတယ်။ ကျောင်းသားများက “အင်းဝဆောင်တံတိုင်း၊ သွေးပြိုင်းပြိုင်းနီ၊ ကျည်ပတ်လည်ဝိုင်း၊ အာဏာရူး အရိုင်းတို့ဒဏ် တို့ခံရသည်” လို့ သီချင်းစပ်သီဆိုကြပါတယ်။

၁၉၅၃-၅၄ ခုနှစ်မှာ ကျင်းပတဲ့ တကာသရွေးကောက်ပွဲမှာ DSOများက မဲခိုးကြလို့ 'တိုးတက်' များက အဲဒီရွေးကောက်ပွဲကို ဖျက်ပစ်လိုက်ကြပါတယ်။ တကာသအဆောက်အဦကို အစိုးရလုံခြုံရေးတပ်များက ခေတ္တခဏ ထိန်းချုပ်ထားတယ် ဆိုပါတယ်။ အဲဒီကာလများအတွင်းမှာပဲ The Students' United Front (SUF) “ကျောင်းသားညီညွတ်ရေးတပ်ဦး” ကို ကျောင်းသားများက (ပြန်လည်ဖွဲ့စည်း) ခဲ့ကြတယ် ဆိုပါတယ်။

ဖဆပလအစိုးရက “ရဲခေါင်ကျောင်းသားများ အင်အားစု” ဆိုတာကို ဖွဲ့စည်းခဲ့ပါတယ်။ အဲဒီရဲခေါင်ကျောင်းသားများ အင်အားစုကို (ဗကပ) ထံမှ လက်နက်ချခဲ့တဲ့ ကိုချစ်သန်းထွန်း၊ ကိုဖုန်းမြင့်နဲ့ TUCB ဌာနကြီးမှူးဖြစ်နေတဲ့ ဦးညွန့်သိန်းနဲ့ ကိုမောင်မောင်ကြီးတို့ကို တကာသရွေးကောက်ပွဲမှာ ဝင်ပြိုင်ခိုင်းပါတယ်။ အဲဒီရွေးကောက်ပွဲမှာ မယ်ဗမာမစိန်အေး(သခင်သာခင်သမီး)၊ မခင်ပြုံးနဲ့ သခင်ဗစိန်သမီး ခင်နှင်းရီတို့ကို ရွေးကောက်ပွဲဝင်ခိုင်းပါတယ်။ ရှုံးပါတယ်။

၁၉၃၁ ခုနှစ်၊ ဇန်နဝါရီလ (၃၁) ရက်နေ့မှာ အတည်ပြုတဲ့ တကာသဖွဲ့စည်းပုံ အခြေခံဥပဒေမှာ ပထမအကြိမ်ရွေးကောက်ပွဲမှာ တကာသ ဥက္ကဋ္ဌ၊ ဒုတိယ ဥက္ကဋ္ဌ၊ ငွေထိန်း (၃) ဦး ရွေးကောက်ရပါမယ်။ ငွေထိန်းက ဘွဲ့ရပြီးသူဖြစ်ရပါမယ်။ ဒုတိယအကြိမ်ရွေးကောက်ပွဲမှာ (၆) ယောက် အရွေးခံရပါမယ်။ ပထမ၊ ဒုတိယ ရွေးကောက်များကို တဖွဲ့တည်းက အနိုင်ရမယ်ဆိုလျှင် (ဖွဲ့စည်းပုံဥပဒေအရ) တကာသ အမှုဆောင် (၉) ဦးရဲ့ (ပထမအကြိမ်) အမှုဆောင်( E.C) အစည်းအဝေးထိုင်ရပါမယ်။ (အဲဒီအစည်းအဝေးအရ) (၁) အိုးဝေမဂ္ဂဇင်း အယ်ဒီတာနဲ့ (၂) စာကြည့်တိုက်မှူးတို့ကို ရွေးချယ်ခန့်အပ်ရပါမယ်။ တကာသအမှုဆောင် (၁၁) ယောက် ဖြစ်ပါတယ်။

နောက် စာသင်နှစ် တနှစ်ကူးရင် တကာသအလုပ်အစည်းအဝေး လုပ်ရပါမယ်။ လွန်ခဲ့တဲ့နှစ်က တကာသလုပ်ခဲ့သမျှ အလုပ်အားလုံးကို ဒုဥက္ကဋ္ဌက တာဝန်ယူပြီးအစီရင်ခံစာ(Report) ရေးပြီး အလုပ်အစည်းအဝေးမှာ အစီရင်ခံရပါမယ်။ ဘဏ္ဍာရေးရှင်းတမ်း တင်ပြရပါမယ်။ သူတင်ပြတဲ့ ငွေစာရင်းရှင်းတမ်းကို အစိုးရအသိအမှတ်ပြု R.A နှစ်ယောက်က မှန်ကန်ကြောင်း လက်မှတ်ထိုးပေး ရပါမယ်။ ဒီငွေစာရင်းကို တကာသအလုပ်အစည်းအဝေး (Business Meeting) မှာ တင်ပြရပါမယ်။ ငွေစာရင်း မှန်ကန်ကြောင်း အတည်ပြုမှုရယူရပါမယ်။ ငွေစာရင်းနဲ့ ဒုတိယဥက္ကဋ္ဌ အစီရင်ခံစာကို အလုပ်အစည်းအဝေးမစခင် (၁၅)ရက် ကြိုပြီး

ကျောင်းသားထုကို အသိပေး ကြေညာထားရပါမယ်။

အလုပ်အစည်းအဝေးပြီးမှ ရောက်ရှိနေတဲ့ ပညာသင်နှစ်အတွက် ရွေးကောက်ပွဲများကို တကာသ ဖွဲ့စည်းပုံ အခြေခံဖွဲ့စည်းပုံ နှင့်အညီ ကျင်းပပေးရပါမယ်။ ပြိုင်မယ့်သူ အဖွဲ့အစည်းမရှိလည်း ရွေးကောက်ပွဲများကို ဖွဲ့စည်းပုံနှင့်အညီ ဆောင်ရွက်ရမှာသာ ဖြစ်ပါတယ်။

မိမိ ၁၉၅၇-၅၈ ခုနှစ်မှာ ထီးတန်းကောလိပ် ရောက်ပြီး ၁၉၅၇-၅၈ ခုနှစ်မှာ ပဲခူးဆောင်ရောက်ပါတယ်။ ၁၉၅၈-၅၉ ခုနှစ်မှာ မန္တလေးဆောင်ရောက်ပါတယ်။ မန္တလေးဆောင် S & R မှာ G.S ဖြစ်ပါတယ်။ ၁၉၅၈-၅၉ ခုနှစ် တပ်ဦးနဲ့ ရဲခေါင် ပြိုင်ကြတဲ့ တကာသရွေးကောက်ပွဲ ပြိုင်ဆိုင်မှုဟာ အတော်ပြင်းထန်ပါတယ်။ ရဲခေါင်အဖွဲ့က သုံးတဲ့ကား အားလုံးဟာ မာစီဒီးကားချည်းပါပဲ။ ရဲခေါင်ကျောင်းသား အင်အားစုများရဲ့နောက်မှာ ဘယ်လို လူမှုရေးအင်အားစုများ ရှိနေတယ်ဆိုတာ ရှင်းပါတယ်။ ရဲခေါင်ကျောင်းသားများ အင်အားစုများဟာ ပင်မတက္ကသိုလ်က ယုဒသန် (ဂျပ်ဆင်ခန်းမ) မဲရုံ၊ ထီးတန်း၊ ရန်ကင်း၊ ဆေးသိပ္ပံ၊ စက်မှုသိပ္ပံ စတဲ့ မဲရုံများ အားလုံးမှာ ရှုံးနိမ့်ခဲ့ပါတယ်။ ၁၉၅၈-၅၉ ခုနှစ် နောက်ပိုင်းက စပြီး၊ ၁၉၆၂ ခုနှစ်၊ ဇူလိုင်လအထိ ကျောင်းသားညီညွတ်ရေးတပ်ဦး နဲ့ ဘယ်လိုအဖွဲ့အစည်းမျိုးမှ လာရောက်ယှဉ်ပြိုင်တာမျိုးမှ မရှိတော့ပါဘူး။ ဒါပေမဲ့ ထူးခြားဖြစ်စဉ်တခု ရှိခဲ့တာကို ဖော်ပြချင်ပါတယ်။

၁၉၆၀ ခုနှစ်၊ ဖေဖော်ဝါရီလ(၆)ရက်နေ့ ရွေးကောက်ပွဲမှာ ဝန်ကြီးချုပ်ဟောင်းသခင်နုရဲ့ ပြည်ထောင်စုပါတီဟာ မဲဆန္ဒနယ် (၂၅၀)အနက်၊ (၂၀၃) နေရာ ရပါတယ်။ တည်မြဲ ဖဆပလက (၃၉) နေရာနဲ့ ပမညတက ရေးတမြို့နယ်မှာပဲ ရပါတယ်။ ၁၉၆၀ ခုနှစ် ရွေးကောက်ပွဲရဲ့ ထူးခြားချက်က (တည်မြဲဖဆပလများ ရွေးကောက်ပွဲမှာ အနိုင်ရစေဖို့ ဘက်လိုက်မဲဆွယ်မှုနဲ့ ဗိုလ်မှူးချုပ်အောင်ရွှေ၊ ဗိုလ်မှူးကြီးလှမော်၊ ဗိုလ်မှူးကြီး တင်မောင်၊ ဗိုလ်မှူးကြီးကြည်ဝင်း၊ ဗိုလ်မှူးကြီးသိန်းတုတ်၊ ဗိုလ်မှူးကြီးချစ်နိုင်တို့ ရာထူးမှ နုတ်ထွက်ခဲ့ရပါတယ်။ (မြန်မာနိုင်ငံရေး၊ ဒုတိယတွဲ ၁၉၅၈-၁၉၆၂ ခုနှစ်၊ စာ-၄၀၁)။) ပြည်ထောင်စုပါတီဟာ ရန်ကုန်မြို့နီစပယ် ရွေးကောက်ပွဲများမှာလည်း(လုံး၀) အနိုင်ရခဲ့ပါတယ်။ အောင်ပွဲများကြောင့် ပထစပါတီဟာ မာနထက်၊ ယုံကြည်မှုလွန်ကဲလာပြီး ရန်ကုန်တက္ကသိုလ်ကောင်စီထဲမှာ (ကိုလိုနီခေတ်ကတည်းက ဘယ်သူမှမပြိုင်ဖူးခဲ့တဲ့) ကျောင်းသားကိုယ်စားလှယ် (၂)ဦး နေရာကို ရွေးကောက်ပွဲမှာ ပြိုင်ဖို့ ကြိုးစားလာခဲ့ပါတယ်။ မိမိတို့ ကျောင်းသားကိုယ်စားလှယ်(၂)ဦးက မစ္စတာတီပီဝေါင်းနဲ့ ဒေါက်တာမောင်မောင်ကျော်တို့ နှစ်ဦးပါ။ ဒီကိစ္စအတွက် ကျောင်းသားနှင့် အစိုးရ clash မဖြစ်စေဖို့ ပထစပါတီဌာနချုပ်က လူကြီးများနှင့် ညှိနှိုင်းဖို့ သဘောထားရှိကြပါတယ်။ ပထစပါတီ G.S က ICS ဦးချမ်းသာ ပါ။ ဆွေးနွေးကြတဲ့အခါ သူက ဒါ ပေါ်လစီပါပဲတဲ့။ ပြိုင်ကြတာပေါ့တဲ့။ မင်းတို့ရှုံးမှာ ကြောက်လို့လားတဲ့။ ဒို့ကိုယ်စားလှယ်(၂)ဦးက မစ္စတာရာရှစ်နဲ့ ဦးဝင်းပါတဲ့။ ဟိုစဉ်က သူတို့ဟာ ကျောင်းသားခေါင်းဆောင်တွေပါ။ မိမိတို့ ကျောင်းသားများနဲ့ ကျောင်းသားအဖွဲ့အစည်းများက ဖဆပလကွဲကတည်းက ငြိမ်းချမ်းရေး ဒီမိုကရေစီရေး အတွက် ဝန်ကြီးချုပ်သခင်နု ကို ထောက်ခံခဲ့ကြတာပါ။ ကျောင်းသားကိုယ်စာလှယ်နှစ်ဦးဟာ ပထစပါတီအတွက် ဘာမှအရေးမကြီးလှပါဘူး။ မင်းတို့ ရှုံးမှာကြောက်လို့လားလို့ ထပ်မေးတော့ မဟုတ်ပါဘူး။ ပထစအစိုးရနဲ့ ကျောင်းသားနဲ့ clash မဖြစ်ချင်လို့၊ အန်ကယ်တို့ ရှုံးမှာစိုးလို့ပါလို့ ပြောတော့ ‘အေး၊ ဒါဆိုလည်း ပြိုင်ကြတာပေါ့ကွာ’ လို့ ပထစ G.S က ခပ်မာမာပြောပါတယ်။ မိမိတို့နဲ့ ပထစပါတီ ပြိုင်ကြပါတယ်။ မဲရုံမပိတ်မီ၊ မဲမရေမီ ညနေ(၃) နာရီမှာ ရွေးကောက်ပွဲမှာ ကျောင်းသားကိုယ်စားလှယ်များ အနိုင်ရပြီလို့ သမဂ္ဂကြီး(၃)ခုက သတင်းထုတ်ပြန်ခဲ့ပါတယ်။ မဲရေတွက်ပြီးတဲ့အခါ ကျောင်းသားကိုယ်စားလှယ်များက မဲ(၃၀၀၀) ကျော် အသာနဲ့ အနိုင်ရခဲ့ပါတယ်။ မိမိတက္ကသိုလ်ကျောင်းသားဘဝ (၁၉၅၇ - ၆၃)အတွင်းမှာ ရဲခေါင်ကျောင်းသားများ အင်အားစုကို (၅၈-၅၉)မှာ နိုင်ခဲ့တာ၊ အခု ပထစပါတီကို နိုင်ခဲ့တာများနောက်က အရေးကြီးတဲ့သင်ခန်းစာက ကျောင်းသားများ၊ ပညာတတ်များဟာ အမြဲတမ်း အမှန်တရားနဲ့ အတူရှိ

တယ်ဆိုတဲ့ သင်ခန်းစာပါပဲ။ ဒီရွေးကောက်ပွဲ(၂)ခုလုံးဟာ အာဏာရအစိုးရနဲ့ ပြိုင်ရ တိုက်ရတဲ့ပွဲချည်းပဲဖြစ်ပါတယ်။ ဒါပေမဲ့ ကျောင်းသားများက အနိုင်ရခဲ့ကြပါတယ်။

မိမိဟာ ၁၉၅၆-၅၇ ခုနှစ်မှာ ထီးတန်းကောလိပ်ကို စတင်ရောက်ရှိခဲ့ပြီး ထီးတန်းကောလိပ်ကျောင်းသားညီညွတ်ရေးတပ်ဦးရဲ့ စည်းရုံးရေးတာဝန်ယူခဲ့ရပါတယ်။ ပင်မတက္ကသိုလ်ကြီးရောက်တဲ့အခါ ပဲခူး၊ မန္တလေးစတဲ့ ကျောင်းဆောင်များရဲ့ S & R အတွင်းရေးမှူးနဲ့ ဥက္ကဋ္ဌတာဝန်များ၊ ၁၉၆၀-၆၁ ခုနှစ်မှာ S & R အဖွဲ့ချုပ်ရဲ့ အတွင်းရေးမှူးတာဝန် ယူခဲ့ရပါတယ်။ အဆောင်များမှာ SUF ရဲ့ကောင်စီဝင်အဖြစ်လည်း တာဝန်ယူရပါတယ်။ ၁၉၆၀- ၆၁ ပညာသင်နှစ်မှာ မိမိဟာ ဗကသများအဖွဲ့ချုပ် (၆)ကြိမ်မြောက် ကွန်ဂရက်က ရွေးချယ်တင်မြောက်ခဲ့တဲ့ အတွင်းရေးမှူးအဖွဲ့ဝင်တဦး ဖြစ်လာပါတယ်။ ဥက္ကဋ္ဌအဖြစ် ဦးညိုဝင်းခေါင်းဆောင် တဲ့ RU/SUF ရဲ့ အထွေထွေအတွင်းရေးမှူး ဖြစ်လာခဲ့ပါတယ်။ ၁၉၆၀ -၆၁ ခုနှစ် တကသအမှုဆောင်အဖွဲ့ဝင်နဲ့ အိုးဝေမဂ္ဂဇင်း တာဝန်ခံ ဖြစ်လာခဲ့ပါတယ်။ RU ကျောင်းဆောင်ကော်မတီကို ပို့လွှတ်တဲ့ တကသကိုယ်စားလှယ် (၂)ဦးထဲက တဦးဖြစ်လာပါတယ်။ နောက်တဦးက S & R အဖွဲ့ချုပ် ဥက္ကဋ္ဌဖြစ်တဲ့ ဦးခွန်ဝင်းလှိုင် ဖြစ်ပါတယ်။ မိမိဟာ ၁၉၅၈-၅၉ ခုနှစ်မှာ ၁၉၆၁-၆၂-၆၃ ခုနှစ် နွေကျောင်းပိတ်ရက်များမှာ တကသရဲ့ နွေရာသီတာဝန်ခံအဖြစ် ဆောင်ရွက်ခဲ့ပါတယ်။ မိမိဟာ မိမိရဲ့ ကျောင်းစရိတ်အတွက် တကသဥက္ကဋ္ဌဖြစ်တဲ့ ကိုဗဆွေလေး၊ ကိုကျော်ဆွေ(စာရေးဆရာမင်းကျော်)၊ ကိုမောင်မောင်ညွန့် (ကဗျာဆရာ မင်းလှညွန့်ကြူး) တို့ ဦးစီးထူထောင်ထားတဲ့ လူငယ်သိပ္ပံကျောင်း (စံရိပ်ငြိမ်)မှာ မိမိကို JAT အဖြစ် တစ်လ ၁၅၀ ကျပ်နဲ့ စာပြခွင့်ပေးခဲ့ကြပါတယ်။ အဲဒီနှစ်ထဲမှာ တကသအမှုဆောင်အဖွဲ့က တကသစာအုပ်ဆိုင်မှာ တစ်လ ၈၀ ကျပ်နဲ့ အရောင်းစာရေးလေး ခန့်ထားပေးပါတယ်။ ဒီတော့ မိမိကျောင်းစရိတ်အတွက် အိမ်ကို အပူမကပ်ရတော့ပါဘူး။ အဲဒီစဉ်က အလွတ်ပညာသင်ကျောင်းများနဲ့ ကျောင်းဆရာများဟာ ပညာတတ် အလုပ်လက်မဲ့ပြဿနာအတွက် (ယာယီ) ထွက်ပေါက် ဖြစ်လာခဲ့ပါတယ်။ (ဒုတိယထွက်ပေါက်ကတော့) အိပ်ချ်၊ ဂျီ၊ ပီလက်မှတ်ရ အထက်တန်းရှေ့နေများနဲ့ ရှေ့နေလုပ်ငန်းပါပဲ။ ဒီကနေ့လည်း ဒီလိုပါပဲ။ ဘီအေ/ ဘီအက်စ် ဘွဲ့လက်မှတ်နဲ့ မရပ်တည်နိုင်ကြပါဘူး။ ဒီကနေ့ခေတ်မှာ ပညာရေးဆိုတာ ICE ပဲလို့ ပြောဆိုနေကြတယ် မဟုတ်ပါလား။ ဂျင်နရယ်ဒီဂရီက ပညာတတ်တယောက်ဘဝကို လုံခြုံမှုမပေးနိုင်ပါဘူး။ နဂိုအတိုင်းပါပဲ။ မိမိ ၆၀/၆၁ မှာ ကျောင်းပြီးတော့ ဥပဒေဝိဇ္ဇာသင်တန်း ဆက်တက်ခဲ့ပါတယ်။ ( အခု ကမာရွတ်(၂)၊ ယခင်က ကျားစံပြ အထက်တန်းကျောင်းမှာ မိမိ ပထမ အထက်တန်းပြဆရာ၊ နောက် ကျောင်းအုပ် ဖြစ်လာပါတယ်။)

၆/၂/၆၀ ခုနှစ် အထွေထွေရွေးကောက်ပွဲမှာ အာဏာပြန်ရလာတဲ့ ဝန်ကြီးချုပ်ဟောင်းသခင်နု အစိုးရကို ၂/၃/၆၂မှာ (ကကချုပ်) ဗိုလ်ချုပ်ကြီးနေဝင်း ဦးစီးတဲ့ တော်လှန်ရေးကောင်စီ(စစ်ကောင်စီ)က အာဏာသိမ်းယူခဲ့ပါတယ်။ အညမညအတွေးအခေါ်/ မဆလလမ်းစဉ်/ မဆလပါတီ စတဲ့ အဆင်သစ်၊ အသွင်သစ်များနဲ့ အာဏာသိမ်းခဲ့တာပါ။ ဥပဒေတွင်း မော်ကစ်ဝါဒီများဖြစ်တဲ့ ဝိစ္စရသခင်ချစ်မောင် ခေါင်းဆောင်တဲ့ (မလညပ) ပမညတများက ဒီအာဏာသိမ်းမှုကို ထောက်ခံခဲ့ကြပါတယ်။ အဲဒီစဉ်က ဥပဒေအတွင်း မော်ကစ်ဝါဒီများအားလုံးက ထောက်ခံခဲ့ကြပါတယ်။ အာဏာရပါတီဖြစ်တဲ့ ပထစပါတီ၊ တည်မြဲဖဆပလတို့က ရေငုံနှုတ်ပိတ်နေကြပါတယ်။ မောင်စူးစမ်း (ရဲဘော်ချမ်းအေး(ခ)ရဲဘော်တင်ရွှေ) ကလည်း ထောက်ခံပါတယ်။ နိုင်ငံတော်ဘဏ်မှာ အထူးအရာရှိ ဝင်လုပ်ခဲ့ပါတယ်။ ဗကသများအဖွဲ့ချုပ်၊ တကသ(တပ်ဦး)နဲ့ ရကသတို့က ဒီ ၆၂ အာဏာသိမ်းမှုဟာ စစ်တပ်အာဏာလိုချင်လို့ အာဏာသိမ်းတာမှတပါး အခြားဘာမျှမဟုတ်ပါဘူးလို့ သဘောထားကြေညာချက် ထုတ်ပြန်ခဲ့ပါတယ်။ ကျောင်းသားထု အစည်းအဝေးကြီးများကျင်းပပြီး ကန့်ကွက်ခဲ့ကြပါတယ်။ (ဒီအချက်ဟာ၊ ဇူလိုင်(၇)ရက် ကျောင်းသားအရေးတော်ပုံ ဖြစ်ပေါ်ခဲ့ရတဲ့ အရင်းခံ အကြောင်းပါပဲ။ တကသအဆောက်အဦကို ဖြိုဖျက်ပစ်ခဲ့တဲ့ အရင်းအကြောင်းပါပဲ။ 7th July

အကြောင်း မပြောဘဲ တကာသအဆောက်အဦ ပြန်ဆောက်ဖို့ပြောတာရဲ့ နောက်မှာ ဘာကြံရွယ်ချက်များ ရှိနေပါသလဲ။ စဉ်းစားကြည့်ချင်စရာ ဖြစ်ပါတယ်။ 7th July အရေးအခင်းဟာ ကျောင်းသားလှုပ်ရှားမှုတခုလုံးကို လက်စသတ်ပစ်ဖို့ ကြံရွယ်တာသာ ဖြစ်ပါတယ်။

နွေဦး၊ လေရူးတွေ ပြင်းပြင်းထန်ထန် တိုက်ခတ်လာတဲ့အခါ ကြွေရက်များ လေပွနောက်ရာ ပါကြရသလိုပါပဲ။ မိမိဘဝဟာ ၁၉၆၃ ခုနှစ်၊ နိုဝင်ဘာ (၂၂) ရက်နေ့ လေပွေအမွှေ့မှာ အင်းလျားပြာပြာ၊ ဘွဲ့နှင်းသဘင်၊ သစ်ပုတ်ပင်နဲ့ ရေတမာတန်း၊ အဓိပတိလမ်းမ၊ မာလာနဲ့ မန္တလေး ဟိုအဝေးမှာ မှုန်မှေးကျန်ရစ်ခဲ့ကြပြီ။

မိမိတက္ကသိုလ်ကျောင်းသား ဘဝကို ခက်ခက်ခဲခဲ ဖြတ်သန်းနေရတဲ့ကာလ မြန်မာနိုင်ငံရေးဘဝက ခုလိုရှိပါတယ်။ ။

၁၉၄၈ ခုနှစ်မှာ စခဲ့တဲ့ ပြည်တွင်းစစ်ဟာ ဖွဲမီးများလို တငွေ့ငွေ့ လောင်မြိုက်ဆဲပါပဲ။ ၁၉၅၆ ခုနှစ်မှာ ဆရာကြီးသခင်ကိုယ်တော်မှိုင်းက ပြည်တွင်းငြိမ်းချမ်းရေးအဖွဲ့ ဖွဲ့စည်းခဲ့ပြီး သူမနာကိုယ်မနာတဲ့နည်းနဲ့ စစ်ရပ်စဲဖို့ မေတ္တာရပ်ခံကြပါတယ်။ ဥပဒေအတွင်းမှာရှိတဲ့ (ပမညတ)များနဲ့ ရှိရှိသမျှ လူထုလူတန်းစား အဖွဲ့အစည်းအမျိုးမျိုးက ဆရာကြီးကို ထောက်ခံခဲ့ကြပါတယ်။

ပြည်တွင်းငြိမ်းချမ်းရေးပြဿနာကို ဖြေရှင်းကြရမှာ အစိုးရအဆက်ဆက်ဟာ ဘယ်ခေတ်ကာလမျိုးက အစိုးရမျိုးပဲဖြစ်ဖြစ် လက်နက် အပ်(ချ)၊ တပ်ဖျက်၊ ဥပဒေအတွင်းဝင်၊ ဥပဒေအတွင်းမှာ (အတိုက်အခံအဖြစ်နေမလား) အာဏာရအစိုးရနှင့် ပေါင်းမလား။ ပေါင်း (သို့မဟုတ်) ထောက်ခံတဲ့ ပေါ်လစီကို တလျှောက်လုံးကိုင်စွဲခဲ့ကြတာပါ။ ဒါကြောင့် အရှည်တည်တံ့တဲ့ ငြိမ်းချမ်းမှုမျိုး ဘယ်တုန်းကမှ မရရှိခဲ့ကြပါဘူး။ ၁၉၅၈၊ ပြည်တွင်းစစ် ဆယ်နှစ်ပြည့်တဲ့နှစ်မှာ မြန်မာအမျိုးသားလူထုကြီးက ကြီးမားတဲ့ ငြိမ်းချမ်းရေး အင်အားပြပွဲကြီးဆင်နွှဲခဲ့ကြပါတယ်။ ၁၉၆၃ ခုနှစ်၊ နိုဝင်ဘာလ (၁၀) ရက်နေ့ မြို့တော်ခန်းမ၊ ဆူးလေစေတီတော်၊ မဟာဗန္ဓုလပန်းခြံ ဝွဆုံမှာ ကျင်းပတဲ့ ငြိမ်းချမ်းရေး အင်အားပြပွဲကြီးမှာ ပြည်သူသိန်းချီပြီး ပါဝင်တက်ရောက်ခဲ့ပါတယ်။

၁၉၅၆ ခုနှစ်၊ ဖေဖော်ဝါရီလ (၂၆) ရက်နေ့မှာ ကျင်းပခဲ့တဲ့ တတိယအကြိမ်ရွေးကောက်ပွဲမှာ ပြည်တွင်းစစ်ရပ်စဲရေး၊ ပြည်တွင်းငြိမ်းချမ်းရေး ကြွေးကြော်သံကို ကိုင်စွဲပြီး ပါဝင်ယှဉ်ပြိုင်ခဲ့တဲ့ (ပမညတ) အတိုက်အခံအဖွဲ့ကြီးဟာ ကိုယ်စားလှယ် (၄၆) နေရာနဲ့ လူထု သန်းပေါင်း ၁.၅ သန်းကျော် ထောက်ခံမှုကို ရရှိခဲ့ကြပါတယ်။ ဒီရွေးကောက်ပွဲရဲ့ အကျိုးဆက်နဲ့ ဖဆပလ အဖွဲ့ချုပ်ကြီးအတွင်းက ဆိုးရွားတဲ့အကျင့်ပျက် ခြစားမှုကြီးကြောင့် ၁၉၅၈ ဇွန်အတွင်းမှာ ဖဆပလ ဂိုဏ်းချုပ်ကြီးအတွင်း ဂိုဏ်းကွဲသွားခဲ့ရပါတယ်။ ဦးနု၊ သခင်တင်၊ သခင်ကျော်ဒွန်းတို့က သန့်ရှင်းဖဆပလ ဖြစ်လာကြပြီး ဦးဗဆွေ နဲ့ ဦးကျော်ငြိမ်း ကိုယ်စားပြုတဲ့အစုက တည်မြဲဖဆပလ ဖြစ်လာခဲ့ကြပါတယ်။ လွှတ်တော်အတွင်းမှာ ပမညတ ထောက်ခံမှုနဲ့ မဲအများဆုံးရခဲ့တဲ့ သခင်နုအစုက အစိုးရဖွဲ့ဖြစ်ပါတယ်။ ၁၉၆၀၊ ဖေဖော်ဝါရီလ (၆) ရက်နေ့မှာ ကျင်းပခဲ့တဲ့ ရွေးကောက်ပွဲမှာ ပထစ က (၂၀၃) နေရာနဲ့ တည်မြဲက (၃၉) နေရာပဲ အနိုင်ရပါတယ်။ ပမညတများ တယောက်မှမရပါ။ ၁၉၅၈ နှင့် ၆၂ ခုနှစ်အတွင်းမှာ အာဏာရ ဖဆပလ အဖွဲ့ချုပ်ကြီးဟာ -

(၁) တည်မြဲအစု (ဦးဗဆွေ၊ ဦးကျော်ငြိမ်း၊ တည်မြဲနှင့် ဆိုရှယ်လစ်တပ်မှူးကြီးများအစု)။

(၂) ဦးနု၊ သခင်တင်၊ ဗိုလ်မင်းခေါင်၊ ဒေါ်ခင်ကြည်၊ သခင်ကျော်ဒွန်းတို့ပါတဲ့ သန့်ရှင်းဖဆပလအစု

(၃) ဗိုလ်ချုပ်ကြီးနေဝင်းဦးစီးတဲ့ ဆိုရှယ်လစ်နှင့် တည်မြဲတပ်မှူးကြီးများအစု သုံးစုကွဲသွားပါတယ်။

၁၉၆၂ ခုနှစ် မတ်လ (၂)ရက်နေ့မှာ စစ်ဖက်က အာဏာသိမ်းခဲ့တာ စုစုပေါင်း (၂၆) နှစ်ကြာပါတယ်။

စစ်တပ်က ၆၂ ခုနှစ်မှာ ဘာကြောင့် အာဏာ သိမ်းခဲ့တာပါလဲ။ ။

(၁) ပြည်တွင်းစစ်ကြောင့်၊ စစ်တပ်က အရေးပါလာလို့။

(၂) ဗိုလ်ချုပ်ကြီးနေဝင်းနဲ့ သူ့လူရင်းကြီးများကလည်း အာဏာရချင်လာကြတာကြောင့်ပါပဲ။ (မဆလတို့ အညမညတို့က စစ်အာဏာရှင်စနစ်ကို ဖုံးဖို့ဖိဖို့ပါပဲ။ (ဝိဓူရသခင်ချစ်မောင်၊ ဦးဘငြိမ်တို့က ဗိုလ်နေဝင်း နောက်လိုက်သွားခဲ့ကြပါတယ်။ 'ခွေးကတက်ချစ်မောင်' ဆိုတဲ့ သမိုင်းသာ ကျန်ရစ်ရှာပါတယ်။

(၃) သခင်နု၊ ဦးကျော်ငြိမ်းစတဲ့ အရပ်သား လစ်ဘရယ် ခေါင်းဆောင်များကလည်း ဂိုဏ်းကွဲလွဲနေကြပါတယ်။
(၄) လက်ဝဲနိုင်ငံရေးအင်အားစုများ အကြားမှာလည်း ပြည်တွင်းနှင့် နိုင်ငံတကာ လူတန်းစားတိုက်ပွဲများ အတွင်း ဆိုရှယ်လစ်စနစ် ဂိုဏ်းအတွင်း အယူဝါဒရေး၊ နိုင်ငံရေး၊ စည်းရုံးရေးအရ ဂိုဏ်းကွဲနေကြပါတယ်။

ဒီလိုအခြေအနေများကြောင့် မြန်မာ့လူအဖွဲ့အစည်းအတွင်း စစ်အာဏာရှင်စနစ် ပေါ်ထွက်လာပြီး ဒီကနေ့အထိ စစ်အာဏာရှင်စနစ် ဖျက်သိမ်းရေးတိုက်ပွဲ ကြန့်ကြာနေတာဖြစ်ပါတယ်။ စစ်တပ်ကို ကျောထောက်နောက်ခံပြုထားတဲ့ ဗြူရိုကရက် အရင်းရှင်စနစ်နဲ့ ဗြူရိုကရက်အရင်းရှင်လူတန်းစားဟာ စစ်တပ် ၂၀၀၈ ဖွဲ့စည်းပုံနဲ့ ဗြူရိုကရက်အရင်းရှင်လူမှုအစုဟာ နိုင်ငံရေး၊ စီးပွားရေးအရ၊ အခြေတကျ နေရာချထားပြီး ဖြစ်ပါတယ်။ နှစ်ပေါင်း (၁၉၆၂-၂၀၁၂) (၅၀)၊ ရာစုနှစ် တဝက် ရှိပြီးဖြစ်ပါတယ်။
၁၉၄၇ ခုနှစ် အခြေခံဖွဲ့စည်းပုံ စည်းမျဉ်းဥပဒေဟာ ၁၉၅၈ ခုနှစ်အထိပဲ တည်တံ့ခဲ့ပါတယ်လို့ ဆိုရပါမယ်။ ဘာကြောင့်လဲဆိုတော့ ၁၉၅၈ ခုနှစ်နဲ့ ၁၉၅၉ ခုနှစ်မှာ (ကကချုပ်)ကို အာဏာလွှဲဖို့ ပုဒ်မ-၁၁၆ ကိုပြင်ခဲ့ရပါတယ်။ ဒါကြောင့် ၄၇ ခုနှစ် ဖွဲ့စည်းပုံအခြေခံဥပဒေဟာ ၁၉၅၈ ခုနှစ်အထိသာ အမှန်တကယ် တည်တံ့ခဲ့ပါတယ်။ ဒါကြောင့် မြန်မာ့လူ့အဖွဲ့အစည်းဟာ ၁၉၅၈ ခုနဲ့ (အခု) ၂၀၁၂ ခုနှစ်အထိ နှစ်ပေါင်း ၅၄ နှစ်ကာလဟာ အခြေခံအားဖြင့် ပြည်တွင်းစစ်နဲ့ စစ်အာဏာရှင်စနစ် အုပ်စိုးမှုအောက်မှာချည်း နေခဲ့ကြရတာပါ။ မြန်မာ့လူ့အဖွဲ့အစည်းဟာ ဗြူရိုကရက်အရင်းရှင်စနစ်၊ ခရိုနီအရင်းရှင်စနစ်၊ ဆွေမျိုးသားချင်းကောင်းစားရေး စီးပွားရေးစနစ်အောက်မှာ ဝေ်တလှည့်၊ ပြတ်တလှည့် နေခဲ့ကြရတာကြာပါပြီ။

လက်ရှိအခြေအနေမှာ NLD နဲ့ တိုင်းရင်းသား လူမျိုးစုံ အမျိုးသားတော်လှန်ရေး အင်အားစုများနဲ့ ပါတီစုံစနစ်အတွင်း ပေါ်ထွက်လာကြတဲ့ လူမျိုးစုအဖွဲ့အစည်းများနဲ့ ဖြစ်တည်စ လစ်ဘရယ်ဒီမိုကရေစီ အင်အားစုများဟာ၊ နိုင်ငံရေးအရ၊ စီးပွားရေးအရ၊ လူမှုရေးအရ၊ သြဇာကြီးမားတဲ့ Liberal Social Force ကြီးတခု ဖြစ်လာဖို့ ရုန်းကန်ကြရပါဦးမယ်။ အလုပ်သမားများ၊ လယ်သမားကြီးများနဲ့ မြို့နေ ပညာတတ်အလွှာများကို အမာခံအင်အားဖြစ်လာအောင် စုရုံးကြရပါဦးမယ်။ ဒါ အတွက် အချိန်ကာလတခု ယူကြရဦးမှာ ဖြစ်ပါတယ်။

မြန်မာ့လူ့အဖွဲ့အစည်းဟာ လွတ်လပ်ရေးခေတ် (၆၄) နှစ်တာ ကာလပတ်လုံး ပြည်တွင်းစစ်နှင့် စစ်အာဏာရှင်စနစ်ဒဏ်ကို တနေ့မပျက်၊ တရက်မလပ် ပုံစံမျိုးစုံနဲ့ ခံစားခဲ့ကြရပါတယ်။ ဒီအထဲမှာ လယ်သမားများ၊ အလုပ်သမားများ၊ ကျောင်းသားများနှင့် မြို့နေ အထက်တန်းလွှာများဟာ ကြီးမားတဲ့ ဆုံးရှုံးနစ်နာမှု၊ အကြမ်းဖက်ဖိနှိပ်သတ်ဖြတ်မှုများကို တွေ့ကြုံရင်ဆိုင်ကျော်လွှားခဲ့ကြပါတယ်။ "တိုက်ပွဲမရှိရင် အောင်ပွဲမရှိနိုင်ဘူး" ဆိုတဲ့ သင်ခန်းစာဟာ မြန်မာပြည်လူထုကြီးရဲ့ (၆၄)နှစ် တိုက်ပွဲအတွေ့အကြုံက ပေးခဲ့တဲ့ သမိုင်းရေး သင်ခန်းစာပါပဲ။

**ကျောင်းသားခေါင်းဆောင်ဟောင်းတဦး**
ဇူလိုင် (၇) ရက်၊ ၂၀၁၂

(ဇူလိုင် ၇ နှစ် ၅၀ ပြည့် မှ — )

# ဥဒါန်းမကြေ

အဆင်းလဲပျက်-နောက်ဘက်မှသာ
လိုက်ပါစွမ်းနိုင်-သာခွေယိုင်မျိုး
ကျုပ်ခြေကျိုးကို အဆိုးဆို၍ဝေဖန်ပါ။ ။

**■ ဟသ်ာမြေ - တင့်ဇော်**
[ဥဒါန်းမကြေ မှ —]

---

# သက်သေ

နီနီတချို့
ညို့ညို့တသွင်
အရိပ်ထင်သည်
သည်ရင်ပြင်မှသွေးကွက်များ။ ။

**■ ခင်ကြော့နှောင်း(ဗန်းမော်)**
[ဥဒါန်းမကြေ မှ —]

---

# စစ်တမ်း

ကံ့ကော်တွေခင်း၊ ဒို့ကျောင်းဝင်းမှာ
ထုံသင်းရနံ့ ကြွယ်ဖူးသည်။ ။
ကျည်ဆံတွေခင်း၊ ဒို့ကျောင်းဝင်းမှာ
ထုံသင်းယမ်းနံ့ ကြွယ်ဖူးသည်။ ။
သွေးရည်တွေခင်း၊ ဒို့ကျောင်းဝင်းမှာ
ကောက်သင်းအလောင်းကောက်ဖူးသည်။ ။

**■ မောင်ချစ်**
[ဥဒါန်းမကြေ မှ —]

# ဇူလိုင် ၇ ရက် အရေးတော်ပုံနှင့်ပတ်သက်၍ မတကသ သဘောထား

၇ ရက်ဇူလိုင် အရေးတော်ပုံသည် ဖက်ဆစ်ဆန်သော ဖိနှိပ်ချုပ်ချယ်မှု ဆန့်ကျင်ရေး လှုပ်ရှားမှုကြီးတစ်ရပ်ပင် ဖြစ်သည်။ မြန်မာနိုင်ငံသမိုင်းတစ်ခုလုံးနှင့် ဒုတိယကမ္ဘာစစ်ပြီးနောက်ပိုင်းတွင် ကမ္ဘာတစ်ခုလုံး၌ မပေါ်ပေါက်ခဲ့ဘူးသေးသော ရက်စက်မှုလည်း ဖြစ်ပေသည်။ တစ်တိုင်းတစ်ပြည်လုံးမှ မိဘပြည်သူများ၏ ကြေကွဲ ရင်ဆို့ခဲ့ရသော ဝမ်းနည်းဖွယ်ရာ ဖြစ်ရပ်ကြီးလည်း ဖြစ်ပေသည်။ မျှော်မှန်းချက်ကြီးစွာဖြင့် ရင်နှစ်သည်းခြာတို့၏ အနာဂတ်ကို အိပ်မက်မက်နေဆဲတွင် ရင်ကျိုးခဲ့ရသော ကျောင်းသားမိဘများ၏ ဆုံးရှုံးမှု မုန်တိုင်းကြီးလည်း ဖြစ်ပေသည်။

ဤအရေးတော်ပုံတွင် တိုင်းပြည်၏ အနာဂတ်သားကောင်းရတနာပေါင်း မြောက်မြားစွာသည် ရေတိမ်တွင် နစ်ခဲ့ကြရသည်။ ရန်ကုန်တက္ကသိုလ်နယ်မြေသည် ရဲရဲနီသော ကျောင်းသားထု၏သွေးများ ချောင်းစီးမတတ်ဖြစ်ခဲ့ရသည်။ တက္ကသိုလ် ပရိဝုဏ်တစ်ခုလုံး ကျည်ဆံနှင့် ယမ်းငွေ့များ လွှမ်းဖုံးခဲ့သည်။ စစ်တလင်းပမာ အလောင်းချင်းထပ်ကာ မြင်မကောင်းသော ရှုခင်းသည် တက္ကသိုလ်အား အနိဋ္ဌာရုံ ကားချပ်ကြီးအဖြစ် ဖန်တီးခဲ့ပေသည်။

ဤမျှ ဆိုးဝါးပြင်းထန်လှသော အရေးတော်ပုံကြီး၏ အဖြစ်မှန်ကိုဖော်ထုတ်ရင်း ဖြစ်ရပ်၏အခြေခံကို အလေးအနက် သုံးသပ်လိုပေသည်။ ဤ ဇူလိုင် အရေးတော်ပုံသည် စစ်တပ်အာဏာပိုင်များ၏

(၁) ထင်ရာစိုင်း၍ ငါတကော ကောလိုသော စစ်ဝါဒ စစ်မာန။

(၂) ကျောင်းသားထုအပေါ်တွင် ထားရှိခဲ့သော ဖိနှိပ်ချုပ်ချယ်ရေး အာယာတ တရား။

(၃) ပြည်သူလူထုနှင့် ကျောင်းသားထု၏ ဆန္ဒဖြစ်သော ငြိမ်းချမ်းစွာဖြေရှင်းရေးမူကို ပစ်ပယ်ကာ အကြမ်းဖက်နည်းကို သုံးစွဲခြင်းတို့မှ ပေါက်ဖွားလာခြင်းဖြစ်လေသည်။

ကျောင်းသားလှုပ်ရှားမှု သမိုင်းတလျှောက်လုံးကို ကြည့်လျှင်လည်း အာဏာပိုင်တို့၏ အကြမ်းဖက်ဝါဒနှင့် ကျူးကျော်မှုများကသာ ဤဖြစ်ရပ်ဆိုးမျိုးကို ပေါက်ဖွားစေခဲ့ကြောင်း အထင်အရှားတွေ့ရပေမည်။ ရဲဘော်အောင်ကျော်သည် ငြိမ်းချမ်းစွာဆန္ဒပြရင်း နယ်ချဲ့သမားတို့၏ အကြမ်းဖက်နှိမ်နင်းမှုအောက်တွင် ကျဆုံးခဲ့ရခြင်းဖြစ်သည်။

ထိုအခါ ဗိုလ်အောင်ကျော်တို့ ခေါင်းဆောင်သော ကျောင်းသားထုက ငြိမ်းချမ်းစွာ ဆန္ဒပြခဲ့ကြသည်။ ကျူးကျော်ခဲ့သော နယ်ချဲ့သမားများကပင် အကြမ်းဖက်ဝါဒကိုအသုံးပြုကာ ဖြေရှင်းခြင်းအားဖြင့် ဗိုလ်အောင်ကျော်အား သတ်ဖြတ်ခဲ့ကြသည်။

ဆယ်နှစ်ဆယ်မိုး ဖဆပလလက်ထက်တွင် ဖြစ်ပွားခဲ့သော အောက်တိုဘာအရေးတော်ပုံသည်လည်း အာဏာပိုင်တို့၏ တမင်ဖန်တီးမှု ကျူးကျော်မှုများမှ ပေါက်ဖွားလာသည့် အကြမ်းဖက်နှိပ်ကွပ်မှုကြီးပင် ဖြစ်ပေသည်။

ပြည်သူတို့၏ တရုတ်ဖြူဆန့်ကျင်ရေးအာရုံကို ရင်နှစ်သည်းခြာ ကျောင်းသားများအပေါ်သို့ လွှဲပြောင်းပေးလိုသဖြင့် ကျောင်းတလပိတ်သော အစဉ်အလာကို ၁၅ ရက် ပိတ်ရေးအဖြစ် အသေကိုင်ချမှတ်ကာ ဆူပူမှုကို ဖန်တီးခဲ့သည်။ ဆူပူလာသောအချိန်တွင် အကြမ်းဖက်နည်းဖြင့် ဖြေရှင်းကာ နှိပ်ကွပ်လိုက်ကြခြင်း ဖြစ်ပေသည်။

ဟယ်ရီတန် အရေးတော်ပုံသည်လည်း အာဏာပိုင်တို့၏ ချို့ယွင်းချက်ကို လူသတ်လက်နက်ဖြင့် ဖြေရှင်းလိုက်ကြခြင်းဖြစ်သည်။

ကျောင်းသားထုက မကျေနပ်၍ ဆန္ဒပြသောအခါ အကြမ်းဖက်နည်းကို သုံးလျက် လက်နက်ဖြင့် လူသတ်၍ နှိပ်ကွပ်လိုက်ကြသည်။ တဆက်တည်းတွင် ကျောင်းသားထုအား လာဘ်ထိုးနည်းများဖြင့် ပြည်သူကို မြှုပ်နှံလိုက်ကြပေသည်။

၁၉၆၁ ခုနှစ်တွင် ဖြစ်ပေါ်ခဲ့သော မန္တလေးတက္ကသိုလ်၏ စနစ်သစ်အရေးတော်ပုံကို ကြည့်လျှင်လည်း အာဏာပိုင်တို့၏ တဖက်သတ်ချမှတ်မှု အခြေအနေနှင့် မအပ်နိုင်သောမူကို အသေဖက်တွယ်

ကိုင်စွဲမှုနှင့် နောက်ဆုံး အကြမ်းဖက်ကျူးကျော်မှုကို တွေ့ရပေမည်။ သင်ကြားမှုအခြေအနေ လုံးဝမပြည့်စုံသော ကာလမျိုးတွင် စာမေးပွဲ စနစ်မှုသစ်တခုကို ဖွတ်အတင်းချမှတ်ခဲ့ကြသည်။ ကျောင်းသားထုက စာမေးပွဲစနစ်ကို မူအားဖြင့် လက်ခံခဲ့သည်။ သို့သော် ပထမဦးစွာ လိုအပ်နေသော ကျောင်းသုံးပရိဘောဂ၊ ဆရာနှင့် အဆောက်အဦ တိုးချဲ့ပါ။ ဤသင်ကြားမှု အခြေအနေများ မပြည့်စုံမီကာလတွင် စနစ်သစ်ကို ရပ်ဆိုင်းထားပါဟူ၍ တင်ပြခဲ့ကြသည်။

သို့သော် အာဏာပိုင်တို့သည် လုံးဝလိုက်လျော မှုမပြုခဲ့ဘဲ နောက်ဆုံး ၁၉၆၂ ခု စက်တင်ဘာလတွင် လက်နက်ဖြင့် အကြမ်းဖက်ဖြေရှင်းလိုက်ကြသည်။

ကျောင်းသားအမြောက်အမြား ဒဏ်ရာရခဲ့သည်။ ဖမ်းဆီးချုပ်နှောင်ခြင်း ဝရမ်းနှင့် ဆုငွေများ ထုတ်ဆင့်ခြင်း၊ ကျောင်းမှထုတ်ပယ်ခြင်းတို့ကို ပြု၍ ပြင်းထန်စွာ ဖိနှိပ်ချုပ်ချယ်ခဲ့ကြသည်။

ဤသမိုင်းအစဉ်ကိုကြည့်လျှင် ကျောင်းသားတိုက်ပွဲအားလုံး၌ အာဏာပိုင်တို့၏ ကျူးကျော်မှု၊ အကြမ်းဖက်မှု ကျောင်းသားထုနှင့် ပြည်သူ့ဆန္ဒ ပစ်ပယ်မှုများကို တွေ့ရပေမည်။ တစ်ဆက်တည်းတွင် ကျောင်းသားထု၏ ငြိမ်းချမ်းစွာ ပညာသင်ကြားရေးကို ချစ်မြတ်နိုးခြင်း၊ ငြိမ်းချမ်းစွာဆန္ဒပြနည်းဖြင့်သာ တောင်းဆိုကာ လှုပ်ရှားခဲ့ခြင်းကို တွေ့ရပေမည်။

ဇူလိုင်အရေးတော်ပုံသည်လည်း စစ်တပ်အာဏာပိုင်တို့၏ ကျူးကျော်မှု ကျောင်းသားထုနှင့် ပြည်သူ့ဆန္ဒ ပစ်ပယ်မှု၊ အကြမ်းဖက်မှုများမှ ပေါက်ဖွားလာကြောင်း တွေ့ရပေမည်။

စစ်တပ်အစိုးရသည် တက်လာစဉ်ကတည်းက ဖိနှိပ်ဖောင်းတီး၍ ထွက်လာခဲ့သည်။ ထိုအာဏာသိမ်းပွဲမှာပင် ကျောင်းသားရဲဘော်တယောက်ဖြစ်သော စဝ်မီမီ သိုက်မှာ အစတေးခံလိုက်ရသည်။

အာဏာသိမ်းပြီးသော သက်တမ်းသုံးလအတွင်းမှာပင် ကျောင်းသားထုအား ဖိနှိပ်ရေးလုပ်ငန်းကို စတင်လာပေသည်။ ပညာသင်ကြားရေးဌာနများနှင့် လုံးဝမအပ်စပ်ဘဲ စစ်တပ်သဏ္ဍာန်ပါသော စည်းကမ်းများကို ချမှတ်လိုက်ကြသည်။ ချမှတ်ရာတွင်လည်း ကျောင်းသားထု ဆန္ဒယူခြင်း၊ ညှိနှိုင်းခြင်း လုံးဝမရှိဘဲ ကြော်ငြာဘုတ်တွင် အမိန့်ထုတ်နည်းမျိုးဖြင့် တဖက်သတ် တချက်လွှတ် ချမှတ်လိုက်ကြခြင်း ဖြစ်ပေသည်။ စည်းမျဉ်း၏ အနှစ်သာရပိုင်းသည် ဖိနှိပ်ချုပ်ချယ်ရေး သက်သက်ကို ဖော်ပြလျက် လုပ်မှုလုပ်ဟန်သည် စစ်ဝါဒ၊ စစ်မာနနှင့် ငါတကောကောသော ဖက်ဆစ်လက္ခဏာကို ဆောင်နေပေသည်။ အာဏာပိုင်တို့၏ ထိုလုပ်ဟန်သည် စစ်မှန်သော စည်းကမ်းများဖြစ်သည့် တိုင်အောင်လည်း မအောင်မြင်နိုင်သော လုပ်နည်းလုပ်ဟန်သာ ဖြစ်ပေသည်။

စည်းကမ်းတစ်ခု အောင်မြင်ရေးသည်

(၁) ၎င်းစည်းကမ်းသည် လိုက်နာရမည့်သူများ၏ ဘဝနှင့် ဟပ်မိရန်။

(၂) လိုက်နာရမည့်သူများ ကိုယ်တိုင် အသိနှင့်ယှဉ်၍ လက်ခံလာရန်တို့ လိုပေသည်။

ကျောင်းသားထုဆန္ဒကို မယူခြင်း၊ ညှိနှိုင်းမှုမပြုခြင်းတို့သည် ဘဝနှင့်ဟပ်မိသော စည်းကမ်းများ ဖြစ်မလာခြင်း၏ အခြေခံဖြစ်ပေသည်။

တဖက်သတ် စစ်မိန့်ဆန်ဆန်ချမှတ်၍ ဖွတ်အတင်းလိုက်နာစေခြင်းသည် အသိနှင့်ယှဉ်၍ လက်ခံလာစေရေးကို မရယူနိုင်သော လုပ်ဟန်သာဖြစ်ပေသည်။

ထို့ကြောင့် အာဏာပိုင်တို့၏ စည်းကမ်းသည် အနှစ်သာရအရရော လုပ်ဟန်အရပါ မှားယွင်းခဲ့သည်မှာ ထင်ရှားပေသည်။

ကျောင်းသားထုအနေနှင့် စည်းကမ်းထားရှိရေးကိုမူအားဖြင့် လက်ခံကြောင်း အတိအလင်း တင်ပြခဲ့သည်။ တဆက်တည်းတွင် အထက်ပါအတိုင်း ကျောင်းသားထုဆန္ဒယူရေး၊ ဆရာ၊ ကျောင်းသားနှင့် အာဏာပိုင်တို့ သုံးဦးသုံးဖလှယ် ညှိနှိုင်းရေးဆွဲရေး၊ အသိနှင့်လက်ခံလာအောင် ပညာပေးရေးတို့ကို ပြုလုပ်ရန် အကြိမ်ကြိမ် တင်ပြခဲ့ပေသည်။

သို့သော် အာဏာပိုင်များက မျက်နှာစုံညီ တွေ့ဆုံခွင့်ကိုပင် ခါးခါးသီးသီးငြင်းပယ်ကာ တကာသ၏ တင်ပြချက်ကို လုံးဝဥပေက္ခာ ပြုခဲ့ပေသည်။

**စာမျက်နှာ ၆၂ သို့ —**

# 7JULY

ဆဲဗင်းဂျူလိုင် မှတ်တမ်း

# 1962

## MARCH

၁၉၆၂ ခုနှစ်၊ မတ်လ ၂ ရက်နေ့မှာ ဗိုလ်ချုပ်နေဝင်းက နိုင်ငံတော်အာဏာကို သိမ်းယူလိုက်ပါတယ်။ စစ်အာဏာသိမ်းမှုကိုကန့်ကွက်ကြောင်း တကာသ၊ ရကာသ၊ ဗကာသတို့က ၁၉၆၂ ခုနှစ် မတ်လ၄ရက်နေ့မှာပူးတွဲကြေညာချက်ထုတ်ပြန်ခဲ့ပါတယ်။ မတ်လ ၉ ရက်နေ့မှာတော့ ရန်ကုန်တက္ကသိုလ်နဲ့ မန္တလေးတက္ကသိုလ်အက်ဥပဒေကို တော်လှန်ရေးကောင်စီက ဖျက်သိမ်းလိုက်ပြီး မတရားကျောင်းဆောင်စည်းကမ်းများထုတ်ပြန်ကာ ကျောင်းသားထုကို စတင်ဖိနှိပ်လာပါတော့တယ်။ ဒါကြောင့် ကျောင်းသားထုကြားမှာ တော်လှန်ရေးကောင်စီအပေါ် မကျေနပ်မှုတွေ တစတစ တိုးပွားလာခဲ့ပါတယ်။



## JULY

ဇူလိုင်လဆန်းမှ စတင်ပြီး ကျောင်းသားထု အစည်းအဝေးတွေကျင်းပကာ ဖိနှိပ်ချုပ်ချယ်တဲ့ မတရားကျောင်းဆောင်စည်းကမ်းတွေကို ကန့်ကွက်ကြောင်း တညီတညွတ်တည်း ဆုံးဖြတ်ခဲ့ကြပါတယ်။ ဇူလိုင်လ ၃ ရက်နေ့မှာတော့ ရန်ကုန်ခရိုင်ကျောင်းသားသမဂ္ဂက ကြီးမှူးပြီး သမဂ္ဂခန်းမမှာ ကျောင်းသားထု အစည်းအဝေးကျင်းပကာ ကမောက်ကမ ပညာရေးစနစ်ဖျက်သိမ်းပေးရေး နဲ့ မတရား အဆောင်စည်းကမ်းများ ရုပ်သိမ်းပေးရေး တောင်းဆို ဆန္ဒပြခဲ့ပါတယ်။



ဇူလိုင်လ ၆ ရက်နေ့ ရွှေဘိုဆောင် အစည်းအဝေးမှာ ကန့်ကွက်တယ်လို့ဆုံးဖြတ် ရုံတင်မကတော့ဘဲ ကြွေးကြော်သံတွေ အော်ဟစ်ပြီး အဆောင်အပြင်ထွက်ကာ လှည့်လည်ဆန္ဒပြကြပါတော့တယ်။



အဲ့ဒီအခါမှာ အနီးအနားကျောင်းဆောင်တွေက ကျောင်းသားတွေပါ ပူးပေါင်းပါဝင်လာတာကြောင့် ဆန္ဒပြကျောင်းသားထုကြီးဟာ တဖြည်းဖြည်းကြီးမားလာခဲ့ပါတယ်။ အဲ့ဒီညမှာ ဆန္ဒပြကျောင်းသားထုဟာ ပြည်၊ ပုဂံ၊ တကောင်းကျောင်းဆောင်တွေအထိပါ လှည့်လည်ဆန္ဒပြခဲ့ကြပါတယ်။

အိုးဝေ
အိုးဝေ
စာစောင်



# JULY 7

ဇူလိုင်လ ၇ ရက်နေ့ နေ့လယ် ၁ နာရီမှာတော့ သမဂ္ဂအဆောက်အဦအစည်းအဝေးခန်းမမှာ ကျောင်းသားထုအစည်းအဝေး ကျင်းပခဲ့ပါတယ်။ အဲဒီအစည်းအဝေးမှာ ဖိနှိပ်ချုပ်ချယ်တဲ့ ကျော င်း ဆော င် စ ည်း က မ်း တွေ ကို ကန့်ကွက်ကြောင်းနဲ့ တက္ကသိုလ်အက်ဥပဒေတွေကို ကန့်ကွက်ကြောင်းတခဲနက် ဆုံးဖြတ်ခဲ့ကြပါတယ်။ အစည်းအဝေးအပြီးမှာတော့ ကျောင်းသားထုဟာ သမဂ္ဂအဆောက်အဦရှေ့က စတင်ကာ ကျောင်းဝန်းထဲ လှည့်လည်ကြွေးကြော်ဆန္ဒပြခဲ့ကြပါတယ်။ ဆန္ဒပြပွဲအပြီးဘွဲ့နှင်းသဘင်ရှေ့မှာငြိမ်းချမ်းစွာလူစုခွဲလိုက်ပါတယ်။



နေ့လယ် ၂ နာရီမှာ ရဲကား ၂ စီး တကာသထဲဝင်လာပြီး တကာသဥက္ကဋ္ဌ ကိုဗဆွေလေး၊ ဗကာသဥက္ကဋ္ဌကိုသက်၊ ရကာသ အတွင်းရေးမှူး ကိုဉာဏ်ဝင်းအပါအဝင် ကျောင်းသားခေါင်းဆောင်တွေကိုဝင်ရောက်ဖမ်းဆီးလိုက်ပါတယ်။



ရဲကားတွေ ချက်ချင်းပြန်ထွက်သွားပြီး ကျန်ခဲ့တဲ့ရဲတွေကလည်း တကာသကိုဝင်စီးလိုက်ပါတယ်။ ကျောင်းသားခေါင်းဆောင်တွေကို ရုတ်တရက်ဖမ်းဆီးလိုက်တာကြောင့် ကျောင်းသားထုဟာ လှုပ်လှုပ်ရှားရှားဖြစ်သွားရပါတယ်။ အဲ့ဒီနောက်မှာတော့ ကျောင်းသားတွေဟာ ရန်ကုန်တက္ကသိုလ်ဝင်းတံခါးကို သော့ခတ်ပြီး ပိတ်လိုက်ပြီး တကာသဝင်းထဲဝင်ဖို့ကြိုးစားကြပါတော့တယ်။ ဒိုင်းကိုယ်စီကိုင်ထားတဲ့ ရဲတွေက ဝိုင်းဝန်းပိတ်ဆို့ပြီး နံပတ်တုတ်နဲ့ ရိုက်သူကရိုက်ကာ မျက်ရည်ယိုဗုံးတွေနဲ့စတင်ပစ်ခတ်ဖြိုခွင်းခဲ့ပါတယ်။ ကျောင်းသားတွေသွေးသံတရဲရဲဖြစ်လာပြီး ရဲများကလည်း မျက်ရည်ယိုဗုံးတွေနဲ့အဆက်မပြတ်ဖြိုခွင်းခဲ့ပါတယ်။ ဒါပေမဲ့ ကျောင်းသားထုဟာ တစတစများပြားလာခဲ့တာကြောင့် ရဲများတက္ကသိုလ်ဝင်းထဲကပြန်လည်ထွက်ခွာသွားရပါတယ်။

နေ့လယ် ၄ နာရီခန့်မှာ တပ်ရင်း ၄ က စစ်သားအပြည့်တင်လာတဲ့ စစ်ကား ၂ စီး တက္ကသိုလ်ရိပ်သာလမ်းပေါ် ရောက်လာပြီး ဆေးရုံရှေ့မှ ဓမ္မာရုံထိတိုင်အောင် တပ်ဖြန့်ကာ တက္ကသိုလ်ဝန်းကျင် တခုလုံးကို ပိတ်ဆို့ထားလိုက်ပါတော့တယ်။ အဲ့ဒီစစ်သားတွေဟာ စစ်မြေပြင်မှာ တခါမှအသုံးမပြုရသေးတဲ့ ဂျီသရီးမောင်းပြန်ရိုင်ဖယ်တွေနဲ့ ကျောင်းသားထုကို တရစပ်ပစ်ခတ်ခဲ့ပါတယ်။ အဲ့ဒီလို ရုတ်တရက် ပစ်ခတ်မှုကြောင့် ကျောင်းသားပေါင်းရာနဲ့ချီကျဆုံးခဲ့ပြီးရာနဲ့ချီဒဏ်ရာရခဲ့ပါတယ်။



ဇူလိုင်လ ၈ ရက်နေ့ မနက် ၃ နာရီအချိန်မှာ တကာသအဆောက်အဦကို ဗိုလ်နေဝင်းအစိုးရက ဗုံးခွဲဖျက်ဆီးလိုက်ပါတော့တယ်။ အဲ့ဒီည ၇ နာရီအချိန်မှာ ဗိုလ်နေဝင်းက "ဓားကိုဓားချင်း လှံကိုလှံချင်းဆိုင်ရန်သာရှိတော့ကြောင်း" မြန်မာအသံရေဒီယိုကနေ အသံလွှင့်ပြီး စိန်ခေါ်ခဲ့ပါတယ်။

**— စာမျက်နှာ ၅၉ မှ**

ကျောင်းသားထုအနေနှင့် ဘဝနှင့်ဟပ်မိသော အသိဖြင့် လိုက်နာနိုင်သော စည်းကမ်းများအရ ကျောင်းဆောင် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ကို ရယူလိုသည်။ ကျောင်းဆောင်ကိုယ်ပိုင်အုပ်ချုပ်ခွင့်သည် သမဂ္ဂများ၏ အစဉ်တစိုက် တောင်းဆိုခဲ့သော အခွင့်အရေးလည်း ဖြစ်ပေသည်။ ကျောင်းဆောင် ကိုယ်ပိုင်အုပ်ချုပ်ခွင့် ရှိခြင်းအားဖြင့်

(၁) ကျောင်းသားများ၏ဘဝကို ကျောင်းသားများက ပိုမိုထိတွေ့သိရှိခြင်း။

(၂) ဒီမိုကရေစီ အုပ်ချုပ်မှုစနစ်ကို လက်တွေ့ကျင့်သုံး၍ အလေ့အကျင့်ဖြစ်လိုခြင်း။

(၃) ကျောင်းသားအခွင့်အရေးများကို ထိရောက်စွာ ကာကွယ်နိုင်ခြင်း။

(၄) ဆရာကျောင်းသား နားလည်မှု ပိုမိုရရှိနိုင်ခြင်းတို့ကြောင့် သမဂ္ဂများအနေနှင့် အစဉ်တစိုက် တောင်းဆိုခဲ့ရခြင်း ဖြစ်ပေသည်။

ဆိုရှယ်လစ်နိုင်ငံများတွင် "မျိုးညွန့်ကလေးများ" ခေါ် ဆယ်နှစ်အောက်ကလေးများ၏ ကျောင်းမှာပင် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ပေးကာ ဒီမိုကရေစီအုပ်ချုပ်ရေးစနစ်ကို အလေ့အကျင့် ပြုပေးကြပေသည်။

အခြား ဒီမိုကရေစီတိုင်းပြည်များတွင်လည်း ကျောင်းသားများကို ကိုယ်ပိုင်အုပ်ချုပ်ခွင့်များ ပေးထားသည်ဖြစ်ပေသည်။

ကိုယ်ပိုင်အုပ်ချုပ်ခွင့်သည် ကျောင်းသားများ ထင်ရာလုပ်ရေးအတွက်မဟုတ်ဘဲ ဆရာ ကျောင်းသား ညှိနှိုင်းမှုဖြင့် စနစ်ကျစွာ အုပ်ချုပ်ရေးသာဖြစ်ပေသည်။

ထိုသို့ အခြေခံကျသော ကျောင်းသားထု၏ တင်ပြချက်များကို လုံးဝဥပေက္ခာပြုခြင်း ခံခဲ့ရပေသည်။ သို့သော် ငြိမ်းချမ်းစွာ ပညာသင်ကြားရေးကို ချစ်မြတ်နိုးသော ကျောင်းသားထုသည် ငြိမ်းချမ်းစွာသာ ဆန္ဒပြ တောင်းဆိုမှုကိုပြုခဲ့ကြသည်။ ငြိမ်းချမ်းစွာလှုပ်ရှားတောင်းဆိုမှု၊ မျက်နှာစုံညီဖြေရှင်းမှုသည် ကျောင်းသားသမဂ္ဂများ၏ အခြေခံမူဖြစ်ကြောင်း ကျောင်းသားလှုပ်ရှားမှုသမိုင်းက သက်သေခံလျက်ရှိပေသည်။ လက်နက်မဲ့သူများပီပီ အကြမ်းဖက်မှုကိုလည်း မလိုလားခဲ့ကြပေ။ ပေါက်ကွဲမှုတိုင်းသည်လည်း အာဏာပိုင်တို့၏ ကျူးကျော်မှု အကြမ်းဖက်မှုမှ ပေါက်ဖွားလာကြောင်းကိုလည်း သမိုင်းဖြစ်ရပ်များက အထင်အရှား ပြလျက်ရှိပေသည်။

ပြီးခဲ့သော ဇူလိုင်အရေးတော်ပုံ၏ ဖြစ်စဉ်အမှန်ကို ပြန်လည်သုံးသပ်လျှင်လည်း စစ်တပ်အာဏာပိုင်တို့၏ ကျူးကျော်မှု၊ အကြမ်းဖက်မှုများကို ရှင်းလင်းစွာ မြင်ရပေသည်။ အာဏာပိုင်တို့၏ တဖက်သတ် ငါတကောကောမှုကြောင့် ဖြစ်ပေါ်လာသော ကျောင်းသားပြဿနာအား အေးချမ်းစွာဖြေရှင်းရမည့်အစား လက်နက်ကိုကိုင်စွဲ၍ ဖြေရှင်းခဲ့ကြပေသည်။ ၇-၇-၆၂ ရက်တွင် ငြိမ်းချမ်းစွာဆန္ဒပြနေသော ရန်ကုန်တက္ကသိုလ် ကျောင်းသားထုအား အာဏာပိုင်တို့သည် လက်နက်ကိုင်အပြည့်အစုံဖြင့် ဝိုင်းဝန်းခြိမ်းခြောက်ကာ လှုံ့ဆွခဲ့ကြပြန်သည်။ သို့သော် ရန်ကုန်တက္ကသိုလ်ကျောင်းသားထုသည် ခြိမ်းခြောက်လှုံ့ဆွမှု၏ ကျော့ကွင်းသို့ ဇွတ်တိုးခြင်းမပြုဘဲ ငြိမ်းချမ်းစွာ ဆန္ဒပြပွဲကို ရုပ်သိမ်းလိုက်ကြသည်။ လူစုခွဲပြီး အေးဆေးစွာနေထိုင်ပြီးဖြစ်သော ကျောင်းသားထုအား ထပ်မံနှိုးဆွသည့်သဘောဖြင့် အာဏာပိုင်တို့သည် ကျောင်းဝင်းအတွင်းသို့ တရကြမ်းဝင်ကာ ခေါင်းဆောင်များအား ရိုက်နှက်ဖမ်းဆီးကြတော့သည်။ ခေါင်းဆောင်များအား ဖမ်းဆီးလိုက်သဖြင့် ကျောင်းသားများ ပြန်လည်စုစည်းလာသော အခါတွင်မှ လက်နက်ကိုင်တို့သည် သတိမပေး အချက်မပြဘဲ စက်သေနတ်၊ မောင်းပြန်သေနတ်များဖြင့် တရစပ် ပစ်ခတ်ကြတော့သည်။ ပစ်ခတ်ရာတွင်လည်း လူစုခွဲရေး ရည်ရွယ်ချက်မျိုးဖြင့် မဟုတ်ဘဲ လက်နက်ကိုင် ရန်သူချင်း စစ်ခင်းသည့်ပမာ၊ သားကောင်များအား အမဲလိုက်သည့်ပမာ တွေ့သမျှမရှောင် မလွတ်စတမ်း ပစ်ကြသည်မှာ စစ်ပြင်တမျှ ဖြစ်ပေသည်။ ဤလုပ်ရပ်ကပင် အာဏာပိုင်တို့၏ တမင်ဖန်တီးလိုမှု အငြိုးသိုမှုကို ဖုံးမရအောင် ပေါ်လွင်နေပေသည်။

အာဏာပိုင်တို့သည် သွေးရူးသွေးတန်းဖြင့် ဆက်တိုက်မှားလာကြပြန်သည်။ နယ်ချဲ့ဆန့်ကျင်ရေး၊ ဖက်ဆစ်ဆန့်ကျင်ရေး၊ အမျိုးသားလွတ်မြောက်ရေး၏

သမိုင်းမှတ်တိုင်ကြီးဖြစ်သော ရန်ကုန်တက္ကသိုလ်ကျောင်းသားသမဂ္ဂအဆောက်အဦကို မိုက်မဲစွာဖြိုခွဲလိုက်ကြသည်။ ထိုမျှနှင့်မရပ်သေးဘဲ တာဝန်အရှိဆုံးသောပုဂ္ဂိုလ်ကြီး ဖြစ်သည့် တော်လှန်ရေးကောင်စီဥက္ကဋ္ဌ ဗိုလ်ချုပ်ကြီးနေဝင်းကိုယ်တိုင်ပင် "ဓား ဓားချင်း၊ လှံ လှံခြင်း" ဟူသော မိုက်ရူးရဲမိုက်ခွန်းဖြင့် တိုင်းပြည်အား စော်ကားပြန်သေးသည်။ ဤဖြစ်ရပ်များကပင် အာဏာပိုင်တို့၏ ကျောင်းသားထုအပေါ် အငြိုးသိုခြင်း၊ အာဃာတတရားကြီးများခြင်းတို့ကို ပြနေပေသည်။

နောက်ပိုင်းတွင်လည်း သမဂ္ဂများနှင့်တကွ ကျောင်းသားအဖွဲ့အစည်းများ၏ တရားဝင်ဖွဲ့စည်းခွင့် ပိတ်ပင်ခြင်း၊ အစုလိုက်အပြုံလိုက် ဖမ်းဆီးချုပ်နှောင်ခြင်း၊ တဖက်သတ် ကျောင်းမှ မောင်းနှင်ထုတ်ပယ်ခြင်း စသည့် ဒီမိုကရေစီမိုးမှောင်ကြီး ကျခဲ့ပေသေးသည်။

နောက်ဆုံးတွင် အာဏာပိုင်တို့သည် တိုင်းပြည်၏ထောက်ခံမှုမရသော နိုင်ငံရေးအကြပ်အတည်း တွေ့လာခြင်း၊ ကျောင်းသားထုကလည်း ဆက်လက်တိုက်ပွဲဝင်လာခြင်းတို့ကြောင့် နိုင်ငံရေးအကျဉ်းသားများနှင့်အတူ ကျောင်းသားများအား ဖမ်းဆီးထားရာမှ လွှတ်ပေးခြင်း၊ ကျောင်းဝင်ခွင့်ပေးခြင်းတို့ကို ပြုလာရပေသည်။ သို့သော် သမဂ္ဂများ၏ တရားဝင်ရပ်တည်ခွင့်နှင့် ကျောင်းထုတ်ခံများ၊ ကျောင်းဆောင်နေပိုင်ခွင့်ကိုမူ ယနေ့တိုင် မပေးသေးဘဲ ဆက်လက်၍ ဖိနှိပ်ချုပ်ချယ်ထားဆဲပင် ရှိပေသေးသည်။ အာဃာတမထားရေး၊ ဒီမိုကရေစီပေးရေးတို့ကို ကြွေးကြော်ရင်း၊ ငြိမ်းချမ်းရေးလေသံပစ်နေစဉ်မှာပင် အခြေခံဒီမိုကရေစီအခွင့်အရေးဖြစ်သော သမဂ္ဂများ လွတ်လပ်စွာ ဖွဲ့စည်းခွင့်မပြုခြင်း၊ အာဃာတကြီးစွာ ကျောင်းဆောင်ဝင်ခွင့် ပိတ်ပင်ထားခြင်းတို့ကို ပြုလုပ်နေပေသည်။

ထို့ကြောင့် ကျောင်းသားထုသည် ဇူလိုင်အရေးတော်ပုံစိတ်ဓာတ်ကို ဆက်လက်ထိန်းသိမ်းကာ ငြိမ်းချမ်းစွာ ပညာသင်ကြားရေး၊ သမဂ္ဂများ တရားဝင်ရပ်တည်ရေး၊ ကျောင်းဆောင်နေထိုင်ခွင့်ရရေးတို့အတွက် ဆက်လက် တိုက်ပွဲဝင်ရပေဦးမည်။

တဆက်တည်းတွင် ပြည်သူလူထုနှင့်တကွ ကျောင်းသားထု အစဉ်တစိုက် တောင်းဆိုခဲ့သော တွေ့ဆုံဆွေးနွေးရေးဖြင့် ပြည်တွင်းငြိမ်းချမ်းရေး ရရှိရေးအတွက် ပြည်သူအားနှင့် တည့်မတ်အောင် လုပ်ဆောင်သွားကြရပေမည်။ နောက်ဆုံးအနေနှင့် ဇူလိုင်အရေးတော်ပုံအတွက် -

(၁) ဇူလိုင်အရေးတော်ပုံဖြစ်ရပ်အမှန် ဖော်ထုတ်ရေးအတွက် ကျောင်းသားပြည်သူပါဝင်သော စုံစမ်းရေးကော်မတီ အမြန်ဖွဲ့၍ စုံစမ်းပေးရန်

(၂) အရေးတော်ပုံတွင် တာဝန်ရှိသူအားလုံးအား အရေးယူပေးရန်

(၃) အရေးတော်ပုံတွင် ကျဆုံးသော ကျောင်းသားဦးရေစာရင်းအမှန်ကို အတိအကျဖော်ထုတ်ပေးရန်

(၄) ကျဆုံးသူများနှင့် ဒဏ်ရာရသူများအတွက် လျော်ကြေးပေးရန်တို့ကို မတကသမှ အလေးအနက် တောင်းဆိုလိုက်ပေသည်။

**လူသတ်ဝါဒ ကျဆုံးရမည်**
**ကျောင်းသားထု ညီညွတ်ရေးဖြင့်**
**အမျိုးသားအရေး ဒီမိုကရေစီရေးတိုက်ပွဲကို ဆက်လက်ဆင်နွှဲကြ**

**၁၉၆၃ ဇူလိုင် ၇ ရက် တနင်္လာပြည့်တွင် မန္တလေးတက္ကသိုလ်ကျောင်းသားများသမဂ္ဂ (မတကသ) မှ ထုတ်ပြန်သော သဘောထားဖြစ်ပါသည်။**

**မန္တလေးတက္ကသိုလ်ကျောင်းသားများသမဂ္ဂ (မတကသ)**

# ဇူလိုင် (၇) ရက်နေ့ရဲ့ နိုင်ငံရေးအဓိပ္ပါယ်

၁၉၆၂ ခုနှစ် မတ်လ (၂) ရက်နေ့မှာ စစ်အုပ်စု အာဏာသိမ်းပွဲဖြစ်ပွားပြီး တတိုင်းပြည်လုံး ဒီမိုကရေစီမိုးမှောင်ကျခဲ့ရတယ်။ ဒီမိုကရေစီပါတီအဖွဲ့အစည်းအားလုံး၊ လူထုလူတန်းစားသမဂ္ဂအားလုံးနဲ့ နိုင်ငံရေးဆန်တဲ့ အသင်းအပင်းအားလုံး ဖျက်သိမ်းခံရတာပါ။ ဒီကိစ္စတွေအားလုံးရဲ့ အဆိုးဆုံးပြယုဂ်အနေနဲ့ကတော့ ဇူလိုင်လ(၇)ရက်နေ့ အရေးတော်ပုံ ဖြစ်ပွားခဲ့ခြင်းပါပဲ။

ဇူလိုင်လ(၇)ရက်နေ့ အရေးတော်ပုံဆိုတာ တင်းကြပ်တဲ့အဆောင်စည်းမျဉ်းတွေ ထုတ်ပြန်လိုက်ရာက အစပျိုးခဲ့တာပါ။ ကျောင်းဆောင်စည်းကမ်းဆိုတာ ဟိုတုန်းကလည်း ရှိခဲ့ပါတယ်။ ဒါပေမဲ့ စည်းကမ်းဆိုတာ လိုအပ်သလောက်သာ ထားရတာမျိုးပဲ။ ကောင်းတယ်မှန်တယ်ထင်တဲ့ စည်းကမ်းဟူသမျှ ချမှတ်ပြီး တင်းတင်းကြပ်ကြပ် ပိတ်ဆို့ထားဖို့ ကြိုးစားပေမယ့် လူတွေက မလိုက်နာနိုင်ရင် အလကားပါပဲ။ ဥပမာ ၂၂၇ သွယ်သော သိက္ခာပုဒ်တွေကို ဗုဒ္ဓဘာသာဝင်မှန်သမျှ လိုက်နာရမယ်ဆိုပါတော့။ ဒီစည်းကမ်းတွေက လူတွေလိုက်နာရမယ့်စည်းကမ်း မဟုတ်ဘူး။ ရဟန်းတွေလိုက်နာရမယ့် စည်းကမ်းပဲ။ ကောင်းတာ၊ မှန်တာဖြစ်ပေမယ့် မသင့်တော်ပါဘူး။

အလားတူပါပဲ။ ဇူလိုင်လ(၇)ရက်နေ့ အရေးတော်ပုံကို ပေါ်ပေါက်စေမယ့် စည်းကမ်းဆိုတာတွေဟာ မိန်းကလေးအဆောင်စည်းကမ်းတွေကို ယောကျ်ားလေးတွေပါ လိုက်နာရမယ်ဆိုတာမျိုးဖြစ်ပါတယ်။ ညနေ(၆)နာရီ ကျော်ရင် အဆောင်ပြင်ထွက်ခွင့်မရှိဘူး။ ၉ နာရီထိုးရင် ဆိတ်ငြိမ်၊ ၁၀ နာရီဆိုရင် အိပ်ချိန်ဆိုတာမျိုးပါ။ ဒါတွေကို ပြဋ္ဌာန်းလိုက်တာက တက္ကသိုလ်နယ်မြေကို စည်းကမ်းရှိစေချင်လို့ မဟုတ်ပါဘူး။ ကျောင်းသားထုကို သံလှောင်အိမ်ထဲ ထည့်ပြီး ဖိနှိပ်ချုပ်ချယ်ချင်လို့ပဲဖြစ်ပါတယ်။ ဒီစည်းကမ်းတွေကို မလိုက်နာနိုင်ဘူးလို့ ငြိမ်းချမ်းစွာ စီတန်းလှည့်လည်ဆန္ဒပြရုံနဲ့ သမဂ္ဂအဆောက်အဦကို မိုင်းဗုံးတွေနဲ့ ခွဲပစ်တယ်ဆိုတာ ဘယ်လိုစေတနာမျိုးလဲ မှန်းကြည့်လို့ရပါတယ်။ ဦးနေဝင်းရဲ့ ကျောင်းသားဘဝကို ပြန်ကြည့်ပါ။ ဘယ်လောက် စည်းကမ်းလိုက်နာသလဲလို့ တွေ့ရမှာဖြစ်ပါတယ်။ သူက ကျူခုံမှာအချိန်ကုန်တဲ့သူ၊ မြင်းလောင်းသမား၊ မြာပွေသူပဲ ဖြစ်ပါတယ်။

သမဂ္ဂအဆောက်အအုံကို ဗုံးခွဲဖို့အမိန့်ပေးသူ ဦးနေဝင်း၊ အနီးကပ်ကြီးကြပ်သူ ဦးအောင်ကြီး၊ မိုင်းဆင်သူ ဗိုလ်မှူးထွန်းစိန် (သူက စစ်အင်ဂျင်နီယာတပ်ကပါ) တို့ ဖြစ်တယ်ဆိုတာ အဲ့ဒီခေတ်ကိုမီတဲ့ စစ်ဘက်နယ်ဘက်၊ နိုင်ငံရေးဘက် အကြားအမြင်များသူအားလုံး သိပါတယ်။ လူပုဂ္ဂိုလ်သက်သေအနေနဲ့ကတော့ ဒီချုပ်မှာရှိတဲ့ ဦးအောင်ရွှေ၊ ဦးတင်ဦးတို့ကို မေးကြည့်ပါလို့ဘဲ ပြောရမှာပါပဲ။ သမဂ္ဂအဆောက်အဦကို ဖောက်ခွဲပေးရုံနဲ့တင်အားမရလို့ တက္ကသိုလ်နယ်မြေတခုလုံးကို စီးနင်းသိမ်းပိုက်ပြီးသွေးချောင်းစီးအောင် သတ်ဖြတ်ခဲ့ပါသေးတယ်။

ဒီကိစ္စတွေရဲ့ နိုင်ငံရေးအဓိပ္ပါယ်က ဘာလဲလို့ ဆန်းစစ်ကြည့်ချင်ပါတယ်။

ပထမအချက်က ဇူလိုင်လ (၇) ရက်နေ့ အရေးတော်ပုံဟာ ဖိနှိပ်ချုပ်ချယ်မှုကြောင့် ဖြစ်တယ်ဆိုတာပါပဲ။ ဒီကိစ္စက အရေးကြီးပါတယ်။ ပြဿနာကို အစိုးရကစပြီး မီးမွှေးတာပါ။ ဒီစည်းကမ်းတွေကို လိုက်နာပါမယ်ဆိုရင်လည်း နောက်စည်းကမ်းတွေ ထပ်ထွက်လာမှာပါ။ ဒီကွေ့မကြုံ ဟိုကွေ့ကြုံရမယ့်ကိစ္စ ဖြစ်ပါတယ်။ စစ်အာဏာရှင်စနစ် သက်ဆိုးရှည်ရေးအတွက် တော်လှန်ရေးစုရပ်ကို ဖြိုခွင်းတဲ့ကိစ္စပါ။

ဒုတိယအချက်က သမဂ္ဂအဆောက်အအုံကို ဗုံးခွဲဖျက်စီးလိုက်တာဟာ အကြမ်းဖက်ဝါဒကို ဖြောင်အတိအလင်း ကျင့်သုံးလိုက်တာပဲ ဖြစ်ပါတယ်။ ကွန်မြူနစ်ပါတီဌာနချုပ်ကိုတောင် ဗုံးမခွဲရဲပါဘူး။ ဗားကရာလမ်းမှာ ဒီနေ့အထိ ရှိနေတုန်းပါပဲ။ ဖဆပလ အဆောက်အဦလည်း ဒီကနေ့အထိ သွားကြည့်လို့ရသေးတယ်။ ဘာကြောင့် သမဂ္ဂအဆောက်အဦကို ဗုံးခွဲသလဲ။ ဒီနေရာကို အစိုးရသိမ်းပြီး သမိုင်းအမွေအနှစ်

ကို ဖျက်စီးပစ်ဖို့ ဖြစ်ပါတယ်။ ဒီလောက်နဲ့ အားမရလို့ မိုင်းခွဲဖျက်စီးပစ်တာပါ။ "ခါးကို ခါးချင်း၊ လုံကို လုံချင်း"လို့ ပြောင် အတိအလင်းစိန်ခေါ်ပြီး ဖျက်စီးခဲ့တာပါ။ လက်နက်ဆိုလို့ အပ်တိုတချောင်းမရှိတဲ့ ကျောင်းသားတွေကို မိုင်းခွဲ၊ သေနတ်နဲ့ပစ်၊ လှံစွပ်နဲ့ ထိုးပြီး ခါးကိုခါးချင်းလို့ အရှက်မဲ့စွာ ကြွေးကြော်ခဲ့တာပါ။ ဒီကိစ္စရဲ့ အနှစ်သာရက အကြမ်းဖက်ဝါဒကို ပြောင်အတိအလင်းကျင့်သုံးတာပါ။

တတိယအချက်ကတော့ သမဂ္ဂအဆောက်အဦကို ဖျက်သိမ်းပစ်ရုံနဲ့ အားမရဘူး။ ကျောင်းသားသမဂ္ဂရဲ့ တရားဝင် တည်ရှိမှုကိုပါ ဖျက်စီးပစ်လိုက်တာပါ။ ဒါဟာ ဒီမိုကရေစီအခွင့်အရေးကို ဖျက်သိမ်းပစ်တာမဟုတ်လို့ ဘာများဖြစ်နိုင်ပါဦးမလဲ။ လွတ်လပ်စွာ အသင်းအပင်း ထူထောင်ခွင့်ကို မြေမြှုပ်သင်္ဂြိုဟ်လိုက်တာမဟုတ်လို့ တခြား ဘာများဖြစ်နိုင်ပါဦးမလဲ။ ကျောင်းသားသမဂ္ဂရဲ့ တရားဝင်ရပ်တည်မှု ပျက်ပြားတာနဲ့တပြိုင်နက် ကျန်တဲ့ အဖွဲ့အစည်းအားလုံး၊ ပါတီအားလုံး ဝရုန်းသုံးကားပြိုကွဲခဲ့ရတာပါ။

စတုတ္ထအချက်ကတော့ လူသတ်ဝါဒကို တရားဝင်ကျင့်သုံးတာပါ။ ဘယ်ဥပဒေ၊ ဘယ်စည်းကမ်းနဲ့မှ မညီညွတ်ဘဲ တက္ကသိုလ်နယ်မြေထဲကို လက်နက်ကိုင်ကျူးကျော် ဝင်ရောက်ခဲ့တယ်။ ငြိမ်းချမ်းစွာ ပညာသင်ကြားရေးကို မထီမဲ့မြင်လုပ်တယ်။ ဒါတင်မက အပြစ်မဲ့တဲ့ ကျောင်းသားကလေးတွေကို ရာနဲ့ချီပြီး သွေးချောင်းစီးအောင် သတ်ဖြတ်ချေမှုန်းပစ်ခဲ့တာပါ။ ဒါကို ဘယ်လိုနိုင်ငံတော်ကာကွယ်ရေးခေါင်းစဉ်အောက်မှာ ထည့်သွင်းနိုင်ဦးမှာပါလဲ။

ပဉ္စမအချက်ကတော့ တပ်မတော်ဆိုတာ ကျောင်းသားသမဂ္ဂတည်းဟူသော မိခင်ဝမ်းကြာတိုက်က ပေါ်ပေါက်လာတဲ့ အဖွဲ့အစည်းပါ။ သမဂ္ဂအဆောက်အဦကို ဖုံးခွဲဖျက်ဆီးပစ်တယ်ဆိုတာ မိခင်ဝမ်းကြာတိုက်ကို ဖြို့ခွဲဖျက်ဆီးပစ်တာ ဖြစ်ပါတယ်။ ဒါဟာ တပ်မတော်ရဲ့ အစဉ်အလာကောင်းတဲ့ သမိုင်းကြောင်းကို ပြောင်းပြန်လှန်ပစ်ခဲ့တာပဲ ဖြစ်တယ်။ တပ်မတော်ကို လူထုနဲ့ ရန်သူဖြစ်သွားအောင် ပြောင်းလှည့်ပေးလိုက်တဲ့ ဖြစ်စဉ်ပါ။ သေနတ်ပြောင်းဟာ ရန်သူဖက်ကိုမလှည့်ဘဲ အဲဒီအချိန်ကစပြီး ပြည်သူဘက်ကိုလှည့်ခဲ့တာ ဒီနေ့အထိတိုင်အောင်ဖြစ်ပါတယ်။

ဆဌမအချက်ကတော့ ဗမာပြည်မှာ ပေါ်ပေါက်ခဲ့သမျှ အမိကနိုင်ငံရေးအဖွဲ့အစည်းတိုင်းဟာ သမဂ္ဂရဲ့ ဝမ်းကြာတိုက်ထဲက ပေါ်ထွက်လာရတာဖြစ်ပါတယ်။ ဒါကြောင့် သမဂ္ဂမိုင်းခွဲမှုဟာ ဗမာပြည်နိုင်ငံရေးသမိုင်းဖြစ်စဉ်ကြီး တခုလုံးကိုပါ ထိခိုက်စော်ကားရာရောက်ပါတယ်။ နယ်ချဲ့ဆန့်ကျင်ရေး၊ ဖက်ဆစ်တော်လှန်ရေးနဲ့ အမျိုးသားလွတ်မြောက်ရေး တိုက်ပွဲသုံးခုရဲ့ သမိုင်းအမွေအနှစ်ကို ဖျက်ဆီးပစ်တာလည်းဖြစ်တယ်။

ကျောင်းသားအရိုးဟာ တွန်တတ်ပါတယ်။ ဇူလိုင်လ(၇)ရက် အရေးတော်ပုံမှာ ကျဆုံးသွားခဲ့တဲ့ အာဇာနည် ရဲဘော်တွေဟာ ဒီကနေ့ထက်တိုင် သူတို့ရဲ့ တာဝန်တွေကို ထမ်းရွက်နေဆဲပါ။ "သေသူ့ဆီက ဘာမှမရဘူး" ဆိုတာ သတ္တိသွေးကြောင်သူတွေ၊ အသေမခံရဲသူတွေဆီက ကြားရတဲ့စကားသံတွေပါ။ ဇူလိုင်(၇) ရက်နေ့ အရေးတော်ပုံမှာ ကျဆုံးခဲ့တဲ့ ရဲဘော်တွေဟာ စစ်ဘီလူးရဲ့ မျက်နှာဖုံးကို အဆုံးတိုင်ထိ ခွာချနိုင်ခဲ့တယ်။ ဒါတင်မက သူတို့ရဲ့အရိုးတွန်သံတွေကြောင့် ဦးနေဝင်း၊ ဦးအောင်ကြီးတို့ အချင်းချင်း အပြန်အလှန် လက်ညှိုးထိုးရင်းနဲ့ ငြင်းမရနိုင်လောက်အောင် တရားခံတွေ ဘွားခနဲ ပေါ်ခဲ့ရတယ်မဟုတ်ပါလား။

အခုဆိုရင် ကျောင်းသားသမဂ္ဂအဆောက်အဦကို မိုင်းခွဲဖျက်စီးပစ်ခဲ့တာ နှစ်ပေါင်း ၅၀ ရှိပါပြီ။ "အမိမြေလွတ်မြောက်ဖို့အတွက် အရိုးတွေတောင်လိုပုံမှ ရမယ်ဆိုရင် ကျုပ်တို့ ကျောင်းသားတွေရဲ့ အရိုးဟာ အောက်ဆုံးအလွှာမှာရှိလိမ့်မယ်"လို့ အာဏာရှင်လှရွှေက သမိုင်းတွင်တဲ့မိန့်ခွန်းစကားကို ချန်ထားရစ်ခဲ့ပါတယ်။ "မနက်ဖြန် ထွက်ဖြစ်အောင် ထွက်ကြပါ။ ကျုပ်တို့ကိုဖမ်းတဲ့အတွက် ဘာဖြစ်မလဲဆိုတာ မကြာခင်သိရပါစေမယ်။ မြင်းခွာတချက်ပေါက်ရင် ဗမာတပြည်လုံး မီးဟုန်းဟုန်း တောက်သွားစေရမယ်"လို့ ကျောင်းသားအာဇာနည် ကိုဗဟိန်းက မကွေးထောင်ခေါင်မိုးပေါ်ကနေ ကျုံးဝါးဟစ်အော်ခဲ့ပါတယ်။

ကျွန်တော်တို့ခေတ်ကျမှာတော့ လုံးဝအညံ့မခံနိုင်ပါ။ သမဂ္ဂသမိုင်းကို မရိုင်းစေရပါ။

အဖမ်းခံ အသတ်ခံရမှာ ကြောက်တယ်ဆိုရင် ကျောင်းသားသမဂ္ဂဆိုတဲ့ အဖွဲ့အစည်းနားကို ယောင်လို့ တောင်ကပ်မိမှာ မဟုတ်ပါဘူး။ "ကိုယ့်ပခုံးပေါ်ကို ကျရောက်လာတဲ့ ခေတ်သမိုင်းရဲ့တာဝန် ကျေပွန်အောင် ထမ်းရွက်ပါမယ်"လို့ နှစ် ၅၀ မြောက် ဇူလိုင်(၇)ရက်နေ့မှာ ခိုင်မာပြတ်သားတဲ့ သန္နိဋ္ဌာန်ကို ချမှတ်လိုက်ပါတယ်။ ရဲဘော်တို့အားလုံး ကျွန်တော်တို့နဲ့အတူ ခွပ်ဒေါင်းအလံတော်ကို ကိုင်စွဲရင်း ရှေ့ကိုဆက်ပြီး ချီတက်ကြပါစို့။ ။

**ကြယ်စင်ဝေး**

(ဇူလိုင် ၇ နှစ် ၅၀ ပြည့်မှ —)

---

# ညီသစ်လွင်သို့

ယခုနှစ်မျှ၊တက္ကသိုလ်လာ
ခိုဝင်လာသည့်၊ရွှယ်လျာပျိုမျစ်
မောင့်ညီချစ်ကို၊ဗဟိုဆောင်မှာ
ကြိုလွဲ့ပါဟု
အမှာစကား ပါးလာသည်။

"ဘွဲ့ကိုတတ်၍၊
ငတ်ပြတ်သူတွေအကြောင်း။"
"တက္ကသိုလ်မြေ၊
သွေးစီးလေသည့်အကြောင်း။"
ပြန်ပြောင်းတွေးမိ၊မချည်ရင်မှာ
နာကြီးနာခဲ့၊သာယာရွှင်ပြုံး
မျက်နှာဖုံးတပ်၊
ဟန်မဆောင်တတ်၍.....။

စိတ်ဓါတ်ထက်မျက်၊ရည်ရွယ်ချက်နှင့်
မာန်ထက်ပြုံးရွှင်၊ညီသစ်လွင်ကို
ဆောင်ဗဟိုမှာ
အကို မကြိုနိုင်ပြီတကား။

■ **လေးမောင်**

(ခွပ်ဒေါင်း ဇူလိုင် ၇ ရက် အရေးတော်ပုံ အထိမ်းအမှတ် မှ —)

# သားပျောက်ရှာ

"သားပျောက်ရှာ"
သူရူးမတစ်ယောက်
သားပျောက်ရှာရင်း
ကံ့ကော်ခင်းသည့်၊
တလင်းမြေထက်၊
လျောင်းအိပ်စက်၍
ရှိုက်မက်လိုက်ဖို
ငိုချင်းဆိုသည်၊
လူကိုခွေးသတ် သွားလေခြင်းတဲ့ ။

■ **ဝင်းဇော်**
(ခွပ်ဒေါင်း ဇူလိုင် ၇ ရက် အရေးတော်ပုံ အထိမ်းအမှတ် မှ —)

---

# တိုက်ပွဲခေါ်သံ

လက်ာဆုံးလျှင်
ကျောင်းလုံးပဲ ထင်၊
ဒေါင်းလံလွင်လျက်။

" ယနေ့ယနေ့၊ဇူလိုင် ၇ ရက်နေ့
မမေ့နိုင်ဘူး၊ဒို့မမေ့ဘူး။

ကျောင်းသားသတ်ပစ်၊
ဖက်ဆစ်ရူး၊ဒို့မမေ့ဘူး။

ကျောင်းသားသမဂ္ဂ၊ဖွဲ့စည်းခွင့်
ဒို့အခွင့်အရေး၊ အမြန်ပေး။

ဟစ်ကြွေးဆန့်တန်း၊
လက်မောင်းတန်းလျက်
စီတန်းလှည့်လည်လာကြပြီ။

ကျောင်းသားကျောက်တိုင်၊
ကမ္ဘည်းတိုင်သို့
တူပြိုင်ရှေ့ရှု၊ကျောင်းသားထုသည်
လေးပြုချီတက် သွားသတည်း။

တပ်ဦးရှေ့တွင်၊ ကျောင်းသူခင်သည်
နီလွင့်လွင့်ပျံ၊ ခွပ်ဒေါင်းလံကို
မြဲမြံကိုင်လျက်၊ရှေ့ချီတက်ပြီ
ဆက်လက်တိုက်ပွဲဝင်ရမည်။

■ **ကြည်အောင်**
၁၉၆၃ခု၊ ဇူလိုင်၇ရက်နှစ်ပတ်လည်နေ့၊
သ ပြေ ရိပ် သာ။

(ခွပ်ဒေါင်း ဇူလိုင် ၇ ရက် အရေးတော်ပုံ အထိမ်းအမှတ် မှ —)

# ၇-၇-၆၂ ကို မမေ့ကြနဲ့

ဒီနှစ် ဇူလိုင် ရောက်ရင် ‘၇ ဇူလိုင်’ အရေးတော်ပုံကြီး နှစ် ၅၀ ပြည့်တော့မယ်။ ဘာလိုလိုနဲ့ ကြာရှည်ကြာမျှား ရာစုနှစ်ဝက် ရောက်တော့မယ်။ ၆၀ ခုနှစ်ပိုင်းက သူငယ်ချင်းကျောင်းနေဘက်တွေ ရောင်းရင်းတွေ တတိယအရွယ်လွန် ရောက်နေကြပြီ။ တချို့လည်း ကျောင်းသားအရေး၊ ဒီမိုကရေစီပညာရေးတိုက်ပွဲမှာ ကျဆုံးသွားကြပြီ။ အနည်းစုသာ သက်ရှိထင်ရှား လှုပ်ရှားရုန်းကန်နေကြတယ်။ နှစ်စဉ်နှစ်တိုင်း ဗိုလ်အောင်ကျော်မှ ဟယ်ရီတန် ၊ ဇူလိုင် ၇ ရက်မှ ၈လေးလုံးလှုပ်ရှားမှု အဆက်ဆက် ကျဆုံးသွားကြတဲ့ အာဇာနည်ရဲဘော်ကျောင်းသားအပေါင်းအား ဦးညွှတ်အလေးပြု ဂုဏ်ယူဆဲပါ။ ကြေကွဲဝမ်းနည်းမှုတွေကို အင်အားအဖြစ်ပြောင်းပြီး တဗိုလ်ကျတဗိုလ်တက်နဲ့ မပြီးဆုံးသေးတဲ့ ဒီမိုကရေစီတိုက်ပွဲကို လက်ဆင့်ကမ်း ချီတက်သွားကြရမှာ ဖြစ်ပါတယ်။ နယ်ချဲ့ဆန့်ကျင့်ရေး၊ ကိုလိုနီပညာရေး ဆန့်ကျင့်ရေး ၊ စစ်အာဏာရှင်စနစ် ဆန့်ကျင့်ရေးတိုက်ပွဲအတွင်းမှာ ကျဆုံးသွားခဲ့ရတဲ့ ရဲဘော်အာဇာနည်တွေရဲ့ သွေးစက်တွေဟာ တက္ကသိုလ်ရင်ပြင်နီမှာ ရဲရဲနီ ကျန်ရစ်ဆဲပါ။

ကျွန်တော်ဟာ ၆၀-၆၁ စာသင်နှစ်မှာ ကျောင်းဆောင်မရလို့ ကမာရွတ် (ဝဂ္ဂ) ရပ်ကွက်ကနေ ပြည်လမ်းလိပ်ခုံး ဘီအိုစီကောလိပ်မှာ ပထမနှစ် ဥပစာ သိပ္ပံလမ်း တက်ခဲ့တယ်။ ၆၁-၆၂ စာသင်နှစ်မှာ အဆောင်နေခွင့်ရလို့ ပင်မတက္ကသိုလ်အဆောင်မှာ ပညာသင်ကြားခွင့်ရတယ်။ ၆၂ခုနှစ် မတ်လ ၂ ရက်နေ့မှာ ဗိုလ်ချုပ်နေဝင်း စစ်အစိုးရက နိုင်ငံတော်အာဏာသိမ်းခဲ့တယ်။ ဘီလူးခေါင်းဆောင်းထားတဲ့ ဗိုလ်ချုပ်နေဝင်းက ရန်ကုန်တက္ကသိုလ်ကောင်စီဝင်တွေ ဖိတ်ပြီး ဆရာများအကျင့်ပျက်တယ်။ ကျောင်းသားများ နိုင်ငံရေးပရောဂဝင်နေတယ်လို့ စွပ်စွဲပြီး တက္ကသိုလ်ကောင်စီကို ဖျက်သိမ်းခဲ့တယ်။ တက္ကသိုလ်ပညာရေးနယ်ပယ်ကို ဝင်ရောက်စွက်ဖက်ပြီး အမိန့်အာဏာတွေ ထုတ်ပြန်တာဟာ တက္ကသိုလ်အုပ်ချုပ်ရေးကို စစ်ကောင်စီက အာဏာသိမ်းတာဘဲလို့ တက္ကသိုလ်ကျောင်းသားများက ဝေဖန်ကန့်ကွက်ခဲ့တယ်။

စစ်အစိုးရလုပ်ရပ်ကြောင့် တက္ကသိုလ်အဆောင်နည်းပြတချို့ နုတ်ထွက်ခဲ့တယ်။ ၁၉၆၂ ခုနှစ် မေ ၁၇ ရက်မှာ ဗိုလ်နေဝင်းက ၅၈ ခုနှစ် အိမ်စောင့်အစိုးရခေတ်က ပညာရေးဝန်ကြီးဟောင်း ဦးကာကို ရန်ကုန်တက္ကသိုလ် ပါမောက္ခချုပ်အဖြစ် ခန့်ခဲ့တယ်။ ဦးကာဟာ စစ်ဗိုလ်ကိုယ်ရံတော် ၂ ယောက်နဲ့ အဓိပတိရုံးမှာ ရုံးထိုင်ခဲ့တယ်။ ၁၉၆၂ ခုနှစ် ဇွန်လ ၁၈ ရက်နေ့မှာ မတရားတဲ့ အဆောင်စည်းကမ်းတွေ ထုတ်ပြန်ခဲ့တယ်။ တက္ကသိုလ်အဆောင်များရဲ့ အဝင်အထွက်စာရင်းကောက်ပြီး စစ်ထောက်လှမ်းရေးဆီကို အစီရင်ခံရတယ်။ ကန့်သတ်ချုပ်ချယ်မှုတွေလုပ်လာတယ်။ သူတို့ထုတ်ပြန်တဲ့ အဆောင်စည်းကမ်းဆိုတာဟာ ကျောင်းဆောင်မှူးနဲ့ ကျောင်းသားတွေ ရန်တိုက်ပေးသလို ဖြစ်လာတယ်။ ည ၉ နာရီကျော်ရင် ကျောင်းဆောင်အပြင် မထွက်ရ။ သတ်သတ်လွတ်စားသူများ ၁ ရက် ၂ ရက် စားခွင့်မပေးဘဲ တနှစ်လုံးစားမှ ခွင့်ပြုမယ် စတဲ့ ကျောင်းသားတွေရဲ့ အခြေအနေနဲ့ မကိုက်တဲ့ စည်းကမ်းချက်တွေ ထုတ်လိုက်တော့ မလိုလားအပ်တဲ့ ပဋိပက္ခတွေ ပေါ်လာတော့တယ်။

၁၉၆၂ ခုနှစ် ဇူလိုင်လ ၃ ရက် တကသခန်းမမှာ ကျောင်းသားခေါင်းဆောင်များ ဦးစီးတဲ့ ကျောင်းသားထုအစည်းအဝေးကြီး ကျင်းပပြီး ကမောက်ကမ ပညာရေးစနစ်၊ တန်းခွဲတန်းခြားစနစ် ဖျက်သိမ်းရေး တက္ကသိုလ် အုပ်ချုပ်ရေးကောင်စီမှာ ကျောင်းသားကိုယ်စားလှယ် ပါဝင်ရေး စတဲ့တောင်းဆိုချက်တွေ တောင်းဆိုတယ်။ စစ်အာဏာရှင်စနစ်အောက်မှာ စစ်ဖိနပ်အောက်က ပညာရေးစနစ် အလိုမရှိလို့ ဆန့်ကျင်ကန့်ကွက်ပြီး ကြွေးကြော်သံများ ဟစ်ကြွေးကာ အစည်းအဝေး ခေတ္တရပ်နားလိုက်တယ်။ ၁၉၆၂ ခုနှစ် ဇူလိုင် ၇ ရက် ၁ နာရီခန့်မှာ တကသ မြက်ခင်းပြင်မှာ ကျောင်းသားထုအစည်းအဝေးကြီး ထပ်မံပြုလုပ်

တယ်။ နယ်ကောလိပ်မှ ကျောင်းသားကိုယ်စားလှယ်များ၊ တကသ၊ ရတကသ၊ ဗကသ ကျောင်းသားကိုယ်စားလှယ်များ အထူးဖိတ်ကြားထားတဲ့ ဧည့်သည်တော်များ စုဝေးရောက်ရှိလာကြတယ်။

အစည်းအဝေးကို တကသကဦးစီးကျင်းပပြီး အောင်မြင်စွာအဆုံးသတ်ခဲ့တယ်။ အစည်းအဝေးနောက်ဆုံးအစီအစဉ်အနေနဲ့ ကျောင်းသားများ တက္ကသိုလ်နယ်မြေအတွင်း စီတန်းလှည့်လည် ဆန္ဒပြကြရန် ဖြစ်တယ်။ တကသခန်းမမှ အသီးသီးထွက်ခွာပြီး စတင်လှည့်လည် ဆန္ဒပြကြတယ်။ ကြွေးကြော်သံများ ကြွေးကြော်ပြီး တောင်းဆိုချက်တွေ တင်ပြကြတယ်။ မတရားတဲ့အဆောင်စည်းကမ်း ဆန့်ကျင်ကန့်ကွက်ကြ၊ စစ်အစိုးရ ကျဆုံးရမယ် စတဲ့ တောင်းပွဲ တိုက်ပွဲ ကြွေးကြော်သံတွေ တင်ကြတယ်။ တက္ကသိုလ်နယ်မြေထဲ အရပ်ဝတ် စစ်စုံထောက်တွေလည်း ရောက်ရှိနေကြတယ်။ ကျောင်းသားခေါင်းဆောင်များ တက္ကသိုလ်ရင်ပြင်မှာ ထောက်လှမ်းရေးက ခွေးဆွဲသလိုဝင်ဆွဲတော့ ကျောင်းသားတွေနဲ့ လုံးကြ၊ ဖမ်းကြ၊ သတ်ကြ၊ ပဋိပက္ခတွေ ဖြစ်သွားတယ်။ အခြေအနေက ရှုပ်ထွေးနေဆဲမှာဘဲ လုံထိန်း (အဓိကရုဏ်းနှိမ်နင်းရေး) ရဲများရောက်လာပြီး မျက်ရည်ယိုဗုံးများနဲ့ ကျောင်းသားထုကို လူစုခွဲနှိမ်နင်းတယ်။ ညနေ ၅ နာရီ ၃၀ လောက်မှာ စစ်ကားနှစ်စီးရောက်လာပြီး မန္တလေးကျောင်းဆောင်၊ ရာမညကျောင်းဆောင်နဲ့ အဓိပတိလမ်းတလျှောက် ဂျီသရီး၊ ဂျီဖိုး မောင်းပြန်လက်နက်များနဲ့ နေရာယူ ပစ်ခတ်ကြတယ်။ တပ်ကတော့ သနက ၄ ဖြစ်ပြီး ပစ်မိန့်များ ၃ မိနစ်ပစ်၊ ၂ မိနစ်နား၊ ၃ မိနစ်ပစ် ဖြစ်တယ်။ အပ်တိုတချောင်းမျှ မရှိတဲ့ ကျောင်းသားထုကို ပစ်ခတ်တိုက်ခိုက်ကြတယ်။ စစ်အစိုးရက ကျောင်းသား ၁၇ ဦးကို သေဆုံးတယ်လို့ ကြေညာတယ်။ ရန်ကုန်ဆေးရုံကြီးမှာ သင်တန်းတက်နေတဲ့ ဆေးကျောင်းသားများရဲ့ ပြောပြချက်အရ ကျောင်းသားရာကျော် ထိခိုက်ဒဏ်ရာရ သေကျေကြတယ်လို့ သိရတယ်။ မြောင်းမြကျောင်းသား ကိုကျော်ဝင်းက မန္တလေးကျောင်းဆောင်နံရံမှာ မိမိကိုယ်မှ သွေးဖြင့် “၇-၇-၆၂ ကို မမေ့ကြနဲ့” လို့ ရေးသားခဲ့တယ်။ ညောင်လေးပင်မှ သူငယ်ချင်းကျောင်းသားတစ်ဦးမှာ ပါးစပ်ကျည်ဆံဝင်ပြီး ပါးမှဖောက်ထွက်သွားတယ်။ ဆေးရုံတင် လိုက်ရတယ်။ ပြေးမိပြေးရာပြေးနေတဲ့ ကျောင်းသားတွေကို စစ်သားများက မောင်းပြန်သေနတ်နဲ့ လိုက်ပစ်တယ်။ အဓိပတိရုံးဘေးက ကျောင်းဆောင်တွေကိုလဲ လှမ်းပစ်တယ်။ ပင်းယကျောင်းဆောင် အဝင်ဝက နံရံမှာ ကျည်ဆံရာတွေ ပေါက်ထွက်နေတာ တွေ့ရတယ်။

ဇူလိုင် ၈ ရက်နံနက် အရုဏ်ဦးမှာ ဝုန်းဒိုင်းဆိုတဲ့ အသံကြီးက အရုဏ်ဦးအလှကို ဖျက်ဆီးလိုက်တယ်။ ကျွန်တော်တို့ ၂ ယောက် အိပ်နေတဲ့အခန်းက တံခါးကလည်း တုန်ခါပြီး ပွင့်ထွက်လာတယ်။ ကျွန်တော်တို့ အပြေးအလွှား ထွက်ကြည့်လိုက်တော့ တက္ကသိုလ်အားကစားရုံဘက်မှ တကသအဆောက်အဦဘက်မှာ မီးခိုးတန်းကြီးနဲ့ စာရွက်စာတန်းတွေ ပျံနေပြီး ယမ်းနံ့တွေလည်း တက္ကသိုလ်နယ်မြေမှာ နံစော်နေတယ်။ သမဂ္ဂအဆောက်အအုံကြီး မိုင်းခွဲခံရပြီး အဆောင်ကျောင်းသားများ၊ အဓိပတိလမ်းမမှာ သေနတ်ကိုင်စစ်သားများကို ငေးမောကြည့်နေကြတယ်။ မနက် ၈ နာရီမှာ မြန်မာ့အသံမှ ဗိုလ်နေဝင်းက “ဓါး ဓါးချင်း၊ လှံ လှံချင်း” ထိပ်တိုက်ရင်ဆိုင်သွားမယ်လို့ အပ်တိုတချောင်းမှမရှိတဲ့ ကျောင်းသားတွေကို မိုက်မိုက်ရမ်းရမ်းခြိမ်းခြောက်တယ်။ တက္ကသိုလ်အသီးသီးကိုလည်း ရက်အကန့်အသတ်မရှိ ပိတ်လိုက်တယ်။ ကျောင်းသားသမဂ္ဂကို ဒိုင်းနမိုက်နဲ့ ဖောက်ခွဲဖျက်ဆီးတာ အဓိကတရားခံဟာ ဗိုလ်နေဝင်းပြီး ကြံရာပါတွေက ဗိုလ်အောင်ကြီး၊ ဗိုလ်ကျော်စိုး၊ ဗိုလ်သန်းစိန် တို့ဖြစ်တယ်။

၁၉၆၃ ခု နိုဝင်ဘာလမှာ ကျောင်းကြီး ပြန်လည်ဖွင့်လို့ ကျောင်းသူ၊ ကျောင်းသားများ တဖြည်းဖြည်းရောက်လာကြတယ်။ ကျောင်းသားခေါင်းဆောင်တချို့နဲ့ အမှုဆောင်များ ပြန်မတွေ့ရတော့ပါ။ ကျောင်းသူ၊ ကျောင်းသားများကို သက်ဆိုင်ရာ ရဲစခန်းထောက်ခံချက်နဲ့ ကျောင်းပြန်တက်ခွင့်ပေးပြီးတချို့ဆို ကျောင်းပြန်တက်ခွင့် မရကြတော့ပါ။ ဇူလိုင် ၇ ရက် အရေးတော်ပုံကြီးက တိုက်ပွဲအတွင်း ကျောင်းသားခေါင်းဆောင် မျိုးဆက်သစ်များကို ပြန်လည်မွေးထုတ်ပေးခဲ့ပါတယ်။ ကျောင်းသားခေါင်းဆောင်ဟောင်း

တွေ မရှိပင်မဲ့ ကျောင်းသားခေါင်းဆောင်မျိုးဆက်သစ်တွေ တဖိုလ်ကျ တဖိုလ်တက် မွေးဖွားပေးလိုက်နိုင်ပါတယ်။ ကျန်တဲ့ လူဟောင်းများက ဦးဆောင်ပြီး ဇူလိုင် ၇ ရက် အရေးတော်ပုံ 'ရာကျော်' ကျောက်တိုင်ကို စိုက်ထူဖို့ ဆုံးဖြတ်လိုက်ကြပါပြီ။

ကျောင်းသား၊ ကျောင်းသူများက တက္ကသိုလ်ဓမ္မာရုံက စုပုံထားတဲ့ သမဂ္ဂအဆောက်အအုံဟောင်း အုတ်ခဲအုတ်ကျိုးတွေကို တက်တက်ကြွကြွသယ်ယူပြီး ၇ ရက် ဇူလိုင် အထိမ်းအမှတ်ကျောက်တိုင်ကို ဗိုလ်အောင်ကျော် ကျောက်တိုင်ဘေးမှာ စိုက်ထူလိုက်ကြတယ်။ အလျား ၇၇ လက်မ၊ အနံ ၆၂ လက်မရှိတဲ့ ကျောက်တိုင်စိုက်ထူပြီး 'ရာကျော်ကျောက်တိုင်' လို့ ကမ္ပည်းထိုးလိုက်ပြီး ဖွင့်ပွဲကျင်းပတယ်။

သမဂ္ဂအဆောက်အဦ နေရာဟောင်းမှာလည်း ယာယီတဲဖြင့် သမဂ္ဂအဆောက်အဦသစ်ကို ပြန်လည်တည်ဆောက်လိုက်တယ်။ ၎င်းသမဂ္ဂသစ်ကို ဝါးထရံကာပြီး ၇ ရက် ဇူလိုင် အရေးအခင်း လှုပ်ရှားမှုဓါတ်ပုံပြပွဲ ကျင်းပတယ်။ တကသခေါင်းဆောင်များ၊ ရကသခေါင်းဆောင်ဟောင်းများနဲ့ ဧည့်သည်များဖိတ်ကြားပြီး လှုပ်ရှားမှုဓါတ်ပုံပြပွဲကိုလည်း စည်စည်ကားကားကျင်းပတယ်။ လက်ကမ်းစာစောင်များ၊ ၇ ရက် ဇူလိုင် ကဗျာစာအုပ်များ၊ ကြေညာချက်များ ထုတ်ပြန်ကြသည်။ နေ့ညမပြောက် တက္ကသိုလ်ဝန်းကျင်မှာ လူထုပရိတ်သတ်များ ကြည့်ရှုအားပေးကြတယ်။

လာရောက်လေ့လာကြတဲ့ နယ်မှ ကျောင်းသား၊ ကျောင်းသူများလည်း ဗိုလ်အောင်ကျော်ကျောက်တိုင်နဲ့ ရာကျော်ကျောက်တိုင်ကို ပန်းခွေချပြီး တမိနစ်ငြိမ်သက်အလေးပြုကြတယ်။ ရင်ဘတ်မှာလည်း ဖဲကြိုးအမည်း ပိတ်စချိတ်ပြီး ၇ ရက်တပတ် မှန်မှန် ဝမ်းနည်းအထိမ်းအမှတ် ပြုလုပ်ကြတယ်။ တက္ကသိုလ်အဆောင်တိုင်းရဲ့ ထမင်းစားပွဲ ဧည့်ခံပွဲတိုင်းမှာလည်း အခမ်းအနားမစမီ ၇ ရက်ဇူလိုင် ကျဆုံးရဲဘော်ကျောင်းသားများကို ၁ မိနစ် အလေးပြု ဦးညွှတ်တဲ့ လှုပ်ရှားမှု့လုပ်တယ်။ ၇ ရက် ဇူလိုင် တဝဂူ တေးသီချင်း ဖွင့်လှစ်ပေးတယ်။ သမဂ္ဂတဲသစ်မှာလည်း ဟောပြောပွဲများ စစ်အာဏာရှင်စနစ်ဆန့်ကျင်ရေး ဗိုလ်နေဝင်းအစိုးရ ဖြုတ်ချရေးလှုပ်ရှားကန့်ကွက်မှု့များ မကြာခဏပြုလုပ်တယ်။ ညဘက်မှာ ကျောင်းဆောင်များကို လှည့်လည်ပြီး ကြွေးကြော်ဆန္ဒပြမှုများလည်း ဆက်တိုက်ထွက်ပေါ်နေတယ်။

တနေ့မှာ တက္ကသိုလ်နယ်မြေအတွင်းမှာ သတင်းယူနေတဲ့ စစ်ထောက်လှမ်းရေးတယောက်ကို ဖမ်းမိတယ်။ လွယ်အိတ်အတွင်းမှာ ခြောက်လုံးပြူး သေနတ်ပါတယ်။ တိုက်ပုံအင်္ကျီနဲ့ တက္ကသိုလ်ကျောင်းသားဟန်ဆောင်ထားတဲ့ ကျောင်းသားများ ဖမ်းစီးဝိုင်းချုပ်ပြီး သေနတ်ကို သိမ်းလိုက်တယ်။ သူလျှိုထောက်လှမ်းရေးကို ဗိုလ်အောင်ကျော် ကျောက်တိုင်နဲ့ ရာကျော်ကျောက်တိုင်ကို အလေးပြုခိုင်းတယ်။ ကျောင်းသားတွေ သတ်တာကို ဝန်ချတောင်းပန်ခိုင်းပြီး တက္ကသိုလ်နယ်မြေမှ နှင်ထုတ်လိုက်တယ်။

နောက်တက္ကသိုလ်နယ်မြေမှာ "စစ်သားများ မလာရ။ ထောက်လှမ်းရေးများ မလာရ။ စစ်ကားများ မလာရ ဆိုတဲ့ လှုပ်ရှားမှုလုပ်တယ်။ တက္ကသိုလ်စာကြည့်တိုက်အရှေ့က အဝိုင်းလေးမှာ ရဲဘော်ကျောင်းသားများက အဝိုင်းလေးအစိုးရ တည်ဆောက်လိုက်တယ်။"

အဝိုင်းလေးတဝိုက် ကားအသွားအလာများကို ထိန်းချုပ်လိုက်တယ်။ အဝိုင်းလေးဘေးမှာ ကားရပ်ပြီး စစ်အာဏာရှင်စနစ် ချေမှုန်းရေး တရားပွဲ ဟောပြောတယ်။ ရန်ကုန်မြို့မှာ လှုပ်ရှားနေကြတဲ့ အရပ်ဝတ်စစ်သားများ၊ ထောက်လှမ်းရေးများဟာ ယူနီဖောင်းဝတ်စုံကို ဘေးအိတ်ထဲမှာ ထည့်ပြီး သွားကြရတယ်။ စစ်ကားများကို ကျောင်းတွင်းအဝင်မခံဘဲ အင်းယားလမ်းဘက်မှ မောင်းကြရတယ်။

နောက် ရန်ကုန်မြို့ပေါ်မှာ ပြည်တွင်းငြိမ်းချမ်းရေးလှုပ်ရှားမှု ဖော်ထုတ်ခဲ့ရတယ်။ အင်းစိန်လမ်းမ သမိုင်းလမ်းစုံအတိုင်း လူထုအင်အား သိန်းဂဏန်းနဲ့ချီ ရှိတယ်။ "၆ ခရိုင်" ငြိမ်းချမ်းရေးတပ်ဖွဲ့ကြီး ချီတက်လာကြတယ်။ လယ်သမား၊ အလုပ်သမား၊ ကျောင်းသားကျောင်းသူ အလွှာပေါင်းစုံဟာ ပြည်တွင်းစစ်ရပ်စဲရေး၊ ပြည်တွင်းငြိမ်းချမ်းရေး ကြွေးကြော်သံများ ကြွေးကြော်ပြီး ချီတက်အင်အားပြကြတယ်။

ကမာရွတ်ဂါတ်တဲရှေ့မှာ "ရန်ကုန်တက္ကသိုလ်ကျောင်းသားများ ငြိမ်းချမ်းကော်မတီဝင်များ" က ဆီးကြိုပြီး ဗိုလ်နေဝင်းတို့ ဖုံးခွဲဖျက်စီးပစ်လိုက်တဲ့ တကာသ အဆောက်အအုံ မြက်ခင်းပေါ်မှာ ခေတ္တအနားယူညှော့ခံကြတယ်။ ကျောင်းသူကျောင်းသားများက အိုးစည်ဒိုးပတ် အကပဒေသာများဖြင့် ကြိုဆိုဖျော်ဖြေကြပါတယ်။

တက္ကသိုလ်နယ်မြေတဝိုက် ငြိမ်းချမ်းရေးတပ်ဖွဲ့များနဲ့ ပြည့်လျှံသွားပါတယ်။ ခေတ္တအနားယူပြီး ကျောင်းသား၊ ကျောင်းသူများက ထမင်းထုပ်များ ဝေပြီး ချီတက်လာတဲ့ လူထုကြီးကို ညှော့ခံပါတယ်။ တကာသမြက်ခင်းပြင်မှ ငြိမ်းချမ်းရေး တေးသီချင်းများလည်း တက္ကသိုလ်နယ်မြေတခွင် ပျံ့လွင့်နေတယ်။ "စစ်ကို မလိုသည်....စစ်ကိုမလိုသည်....ငြိမ်းချမ်းရေးသာ.....ပေးသာ ပေးကြပါ" ဆိုတဲ့ ငြိမ်းချမ်းရေးတေးသီချင်းများ လူထုပါးစပ်ဖျားမှာ လိုက်ဆိုနေကြတယ်။

ခေတ္တအနားယူပြီး လူထုအစည်းအဝေးကြီးကို ငြိမ်းချမ်းရေးကော်မတီမှ ဦးဆောင်ပြီး ကျင်းပပြုလုပ်တယ်။ ၆ ခရိုင် ငြိမ်းချမ်းရေးကိုယ်စားလှယ်အသီးသီး ပြည်တွင်းစစ်ရပ်စဲရေး၊ ပြည်တွင်းငြိမ်းချမ်းရေး အဆိုများ တင်ကြတယ်။ ကြွေးကြော်သံများ မိုးလုံးဟိန်း ကြွေးကြော်ပြီး ရှေ့ခရီးကို ဆက်လက်ချီတက်ကြတယ်။ တက္ကသိုလ်ကျောင်းသူ၊ ကျောင်းသားများလည်း ၆ ခရိုင်ငြိမ်းချမ်းရေးတပ်ဖွဲ့ကြီးနဲ့အတူ ကျိုက္ကဆံကွင်းကို လက်တွဲချီတက်သွားကြတယ်။

တက္ကသိုလ်ကျောင်းသူ၊ ကျောင်းသားများရဲ့ တက္ကသိုလ်နယ်မြေ အတွင်း လှုပ်ရှားမှုများ တိုက်ပွဲများ၊ ပြည်တွင်းစစ်ရပ်စဲရေး ဆန္ဒပြပွဲမှာ ပြည်သူလူထုကြီးနဲ့ လက်တွဲလှုပ်ရှားလာတာကို စစ်အစိုးရတွေ့မြင်လာပြီး စိုးရိမ်ကြောက်လန့်ကာ တပြည်လုံးရှိ တက္ကသိုလ်လာလိပ်အသီးသီးကို ရက်အကန့်အသတ်မရှိ ကျောင်းပိတ်လိုက်တယ်။ အထက်တန်းကျောင်းများလည်း ယာဘီကျောင်းပိတ်ပစ်လိုက်တယ်။

ဒီနေ့အထိ ကျောင်းသားလှုပ်ရှားမှုများကို စစ်အာဏာရှင်များက တက္ကသိုလ်များ၊ အထက်တန်းကျောင်းများကို ထစ်ခနဲဆို ကျောင်းပိတ်တဲ့ ပုံစံများဖြင့် ချေမှုန်းဖြေရှင်းပိတ်ပင်ခဲ့ပေမဲ့ ကျောင်းသားလှုပ်ရှားမှုများမှာ ရပ်တန့်မသွားခဲ့။ မြေအောက်သဏ္ဌာန်နဲ့ ကျောင်းသားသမဂ္ဂဖော်ထုတ်ရေး ဒီမိုကရေစီပညာရေးတိုက်ပွဲတွေ လှုပ်ရှားဖြစ်ပေါ်တိုးတက်နေပါတယ်။ မျိုးဆက်သစ်လူငယ်များဟာ တဗိုလ်ကျတဗိုလ်တက်နဲ့ လက်ဆင့်ကမ်းကာ မပြီးဆုံးသေးတဲ့ ဒီမိုကရေစီရေးတော်ပုံကြီးကို ဆက်လက်ချီတက်နေကြတယ်။

"၇-၇-၆၂ ကိုမမေ့ကြနဲ့"

**၇ ရက် ဇူလိုင် စိတ်ဓာတ်အခွန့်ရှည်ပါစေ။ သန္နိဋ္ဌာန်ချ၊ အသက်စွန့်ရမှာ မကြောက်၊ အောင်ပွဲအရယူကြလော့။**

**စိုးသန်း**

(ဇူလိုင် ၇ နှစ် ၅၀ ပြည့် မှ — )

# ကျောင်းသားခေါင်းဆောင်ဟောင်းကြီးများရဲ့ ၇ ဇူလိုင် အတွေ့အကြုံနှင့် အတွေးအမြင်

ဝင်းထွဋ်ဇော်

၇ ဇူလိုင်လို့ပြောရင် စတဲ့ လက်သည်တရားခံဇာစ်မြစ်က ၁၉၆၂ ဇူလိုင် ၇ ရက်မှာ ကျောင်းသား အရေးတော်ပုံဖြစ်တယ်။ ကျောင်းသားအရေးတော်ပုံထဲမှာ အပြင်းထန်ဆုံးဖြစ်တယ်။ အင်္ဂလိပ်ခေတ်တုန်းကကော ဒီဘက်နောက်ပိုင်းခေတ်မှာကော အပြင်းထန်ဆုံးဖြစ်တယ်။ ကျောင်းသားတွေကို ဂျီသရီးနဲ့ ပစ်ခတ်တယ်။ ဂျီသရီးက အဲဒီအချိန်မှ စစ်တပ်က စသုံးတာဖြစ်တယ်။ ပစ်လို့တော်တော်များများသေတယ်။ အဆောင်ပေါ်မှာနေတဲ့ သူတွေလည်း ထိတယ်၊ သေတယ်။ ဆိုတော့ ဒါဟာ ရာဇဝင်မှာ တကယ့်ကို အမည်းစက်ကြီးဖြစ်တယ်။ ဂျူလိုင် ၇ ရက်မှာဖြစ်တဲ့ အဖြစ်အပျက်တွေ မစခင်ကတည်းက ဖြစ်ပျက်နေတဲ့အကြောင်းရင်းခံတွေရှိတယ်။ ၁၉၆၂ မတ်လ တော်လှန်ရေးကောင်စီက အာဏာသိမ်းတယ်။ အဲဒီ့ကစတာပဲ။ ကျွန်တော်တို့တိုင်းပြည်ဟာ ၁၉၄၈ ခုနှစ် ဇန်နဝါရီလ ၄ ရက်နေ့မှာ လွတ်လပ်ရေးရတယ်။ လွပ်လပ်ရေးရပြီးတော့ ကောင်းသည်ဖြစ်စေ မကောင်းသည်ဖြစ်စေ နိုင်ငံရေးအစိုးရ ဖဆပလအစိုးရရှိတယ်။ ဖဆပလအစိုးရဆိုတာ လွတ်လပ်ရေးရယူပေးခဲ့တဲ့ တော်လှန်ရေး သမားတွေရဲ့ နိုင်ငံရေးတပ်ပေါင်းစုဖြစ်တယ်။ ဖဆပလခေါင်းဆောင်အများစုဟာလဲ တကသ၊ ဗကသ ကျောင်းသားခေါင်းဆောင်ဟောင်းတွေဖြစ်တယ်။ ၁၉၄၈ မှာ ဗမာပြည်ကွန်မြူနစ်ပါတီရှိတယ်။ ကွန်မြူနစ်ပါတီဆိုတာ အရင်တုန်းက ဖဆပလရဲ့ အမာခံ တပ်ဦးပါတီဖြစ်တယ်။ ဖဆပလဆိုတာ တပ်ပေါင်းစုကြီးဖြစ်တယ်။ အဲဒီ့ဗမာပြည်ကွန်မြူနစ်ပါတီဟာ ၄၈ ခုနှစ်မှာ ဖဆပလနဲ့ကွဲခဲ့တယ်။ တောခိုခဲ့တယ်။ နောက်ခံနိုင်ငံရေးအကြောင်းအချက်တွေ အများကြီးရှိတယ်။ အဲဒီနောက်တော့ ဗမာပြည်ကွန်မြူနစ်ပါတီ မရှိတော့တဲ့နောက် ဖဆပလက ပြည်တွင်းစစ်ကြီးစခဲ့တယ်။ အဲဒီနောက်ပိုင်း ဗမာပြည်နိုင်ငံရေး ဖြစ်ပေါ်လာတဲ့အကြောင်းတွေရဲ့ အကြောင်းရင်းခံဖြစ်တယ်။ အတိုချုပ်ပြောရရင် ၄၈ ကနေ ၅၈ အထိ နိုင်ငံရေးအစိုးရတွေ ရှိခဲ့တယ်။ အဓိကကတော့ ဖဆပလပေါ့။ တဖက်ကလည်း ဗမာပြည်ကွန်မြူနစ်ပါတီ၊ အလံနီ၊ ပြည်သူ့ရဲဘော်တို့ကလည်း တောခိုပြီး လက်နက်ကိုင်ပြီး တိုက်တယ်။ ပြည်တွင်းစစ်ကြီးဖြစ်ခဲ့တယ်။ တိုက်ရင်းတိုက်ရင်းနဲ့ တဖက်ကလည်း ပြည်တွင်းငြိမ်းချမ်းရေးအတွက် လုပ်ကြတယ်။ သခင်ကိုယ်တော်မှိုင်း ဦးဆောင်တဲ့ ငြိမ်းချမ်းရေးအဖွဲ့တွေက စတိုက်တဲ့ ၄၈ ခုနှစ်ကတည်းက ပြည်တွင်းငြိမ်းချမ်းရေးအတွက် အားထုတ်ခဲ့တယ်။ လုပ်ပေမဲ့ မရခဲ့ဘူး။ တဖက်မှာလဲ ဦးနုတို့က ဗကပနဲ့ ဆွေးနွေးမယ်။ ပြည်တွင်းငြိမ်းချမ်းရေးလုပ်မယ်ဆိုပြီးတော့ မအောင်မြင်ခဲ့ဘူး။ ကျွန်တော်တို့ရဲ့ လွတ်လပ်ရေးရကတည်းက ရည်ရွယ်ချက်က လွပ်လပ်ရေး၊ ဒီမိုကရေစီရေးနဲ့ ဆိုရှယ်လစ်ရေးဆိုတဲ့ အရေးသုံးပါးကို ဦးထိပ်ထားတယ်။ ဒါပေမဲ့ နောက်ပိုင်းမှာ ဆိုရှယ်လစ်ပါတီကိုယ်တိုင်က ဆိုရှယ်လစ်အရေးကနေ သွေဖည်သွားတယ်။ တဖက်က လူတွေကလည်း သွေဖည်တယ်။ အဲဒီလိုသွေဖည်သွားတော့ ပြည်တွင်းစစ်က တာရှည်တယ်။ အဲဒီ အကျိုးဆက်အဖြစ် ၅၈ ခုနှစ်မှာ စစ်တပ်က အာဏာသိမ်းတယ်။ ပြည်တွင်းစစ်ဖြစ်နေတဲ့ ကာလမှာတောင် စီးပွားရေးမှာလည်း ၂ ဘတ်က မြန်မာငွေတစ်ကျပ်၊ ငါးကျပ်က တစ်ဒေါ်လာ။ ပြည်တွင်းစစ် ဒီလောက်ဖြစ်နေတဲ့ သတင်းစာတွေရဲ့အခေါ် ရောင်စုံသူပုန်ကာလမှာတောင် မြန်မာနိုင်ငံဟာ စီးပွားရေးမှာလည်း ထူထူထောင်ထောင်၊ နိုင်ငံရေးမှာလည်း ဩဇာရှိ၊ ဘန်ဒေါင်းညီလာခံမှာ ဦးနုတို့က ဦးဆောင်နိုင်ခဲ့တယ်။ အဲလိုအဖြစ်ကနေ နောက်ဆုံး LDC ဖြစ်လာခဲ့တယ်။ ဘာကြောင့် ဒီလိုဖြစ်လာစေတဲ့ စစ်အာဏာရှင်စနစ်ပေါ်ပေါက်လာစေသလဲဆိုရင် အဲဒီအချိန်က နိုင်ငံရေးသမားတွေဟာ ညီညွတ်ရေးမရှိဘူး။ အမျိုးသားညီညွတ်ရေး ပျက်စီးသွားပြီး လွတ်လပ်ရေးကြိုးပမ်းမှုရဲ့

မူလရည်ရွယ်ချက်တွေ ငြိမ်းချမ်းရေး၊ ဒီမိုကရေစီရေး၊ ဆိုရှယ်လစ်ရေးတွေ ပျောက်သွားခဲ့တယ်။ အဲဒီအချိန်က ဆိုရှယ်လစ်ရေးဆိုတာ စီးပွားရေးညီမျှရေး၊ အလုပ်သမား၊ လယ်သမား ကောင်းစားရေးဆိုတဲ့ အခြေခံတွေပေါ် မူတည်ပြီး တည်ဆောက်ခဲ့ကြတာဖြစ်တယ်။ တကယ်လည်း လူအချင်းချင်းခေါင်းပုံဖြတ်တာတို့ကို ပယ်ဖျက်ဖို့ လုပ်ခဲ့ကြတယ်။ သမိုင်းရဲ့ အဲဒီအချိန်ထိတော့ ခိုင်လုံသေးတယ်။ နောက်ပိုင်းမှာ ကိုယ်ကျိုးရှာဖောက်ပြန်မှုတွေကြောင့် တစတစပျက်စီးလာခဲ့တယ်။ ၅၈ မှာ ဦးနေဝင်း အိမ်စောင့်အစိုးရတက်ခဲ့တယ်။ ဘာကြောင့် ဦးနေဝင်း အိမ်စောင့်အစိုးရတက်ရသလဲဆိုရင် ဖဆပလကွဲလို့ဖြစ်တယ်။ နိုင်ငံရေးသမားတွေ မညီညွတ်လို့ဖြစ်တယ်။ တကယ်တော့ ဒီမိုကရေစီလမ်းကြောင်းဆိုတာ နိုင်ငံရေးသမားတွေ ဦးဆောင်ရမှာ။ အဲဒီအချိန်က လေးနှစ်တကြိမ် ရွေးကောက်ပွဲလုပ် နှစ်သက်ရာပါတီကို မဲပေးခွင့်ရှိတယ်။ လေးနှစ်ပြည့်လို့ မကြိုက်ရင် ဖြုတ်ချခွင့်ရှိတယ်။ ဒါ ဒီမိုကရေစီရဲ့ ယေဘုယျလမ်းကြောင်းပဲ။ ကျွန်တော်တို့ လွတ်လပ်ရေးရပြီး ၅၂ မှာတခါ ၅၆ မှာတခါ ရွေးကောက်ပွဲလုပ်ခဲ့တယ်။ ၅၂ မှာ အတိုက်အခံပါတီတွေ အားမကောင်းသေးဘူး။ ၅၆ မှာ အတိုက်အခံပါတီတွေက တပ်ပေါင်းစုအဖြစ် ပမညတကို ဖွဲ့နိုင်ခဲ့တယ်။ ၅၆ ခုနှစ်ရွေးကောက်ပွဲမှာ ပမညတက ၄၆ နေရာရခဲ့တယ်။ မဲအရေအတွက်အရဆိုရင် ဆန္ဒမဲရဲ့ သုံးပုံတပုံကို ရခဲ့တယ်။ အဲဒီအတွက် တဖက်ကတုန်လှုပ်လာတယ်။ ဘယ်သူတွေက တုန်လှုပ်လာသလဲဆိုရင် အာဏာရပါတီတွေ၊ တဖက်က တိုင်းပြည်ကိုအုပ်ချုပ်ဖို့ ကြံစည်နေတဲ့ အင်အားစုတွေက စိုးရိမ်လာတယ်။ ဒီအတိုင်းဆိုရင် ၆၀ ရွေးကောက်ပွဲမှာလည်း ဒီလူတွေပဲနိုင်မှာပဲလို့ တွေးခဲ့ကြတယ်။ အဲဒီအချိန်မှာ ဖဆပလကြီးကွဲခဲ့တယ်။ အဓိကအကြောင်းအရင်းတွေက လာဘ်စား ချစားမှုတွေကြောင့်ပဲ။ ဦးနုက ဖဆပလ သန့်ရှင်းရေးလို့ ကြွေးကြော်တယ်။ အဲဒီအတွက်ကြောင့် နုတင် သန့်ရှင်းနဲ့ တည်မြဲ ဆွေငြိမ်းတို့ ကွဲကြတယ်။ အဲဒီလိုအကွဲမှာ 'ကျွန်တော် အာဏာဘယ်တော့မှ မလုပ်ပါဘူး။ တပ်ကထွက်ပါ့မယ်' လို့ မကြာခဏပြောလေ့ရှိတဲ့ ဦးနေဝင်းဟာ အာဏာသိမ်းဖို့ ကြံပါတယ်။ ဒါကိုသိတဲ့ ဦးနုက အာဏာမသိမ်းဖို့ ဖျောင်းဖျပြီး စာချုပ်စာတမ်းနဲ့ ထိုးအပ်ပါတယ်။ ၅၈ ခုနှစ်မှာ အာဏာသိမ်းပြီး ၆၀ မှာ ရွေးကောက်ပွဲလုပ်ပေးတယ်။ အဲဒီရွေးကောက်ပွဲမှာ ဦးနုတို့ ပထစက အပြတ်အသတ်အနိုင်ရပါတယ်။ အဲဒီ ပထစအစိုးရဟာ ၃ လနဲ့ ၁၆ ရက်ပဲကြာပါတယ်။ ဗိုလ်ချုပ်နေဝင်းက အာဏာသိမ်းပါတယ်။ တိုင်းပြည်ယိုယွင်း ပျက်စီးနေတဲ့အတွက် အာဏာမသိမ်းလို့ မဖြစ်ပါဘူးဆိုပြီး အာဏာသိမ်းခဲ့တယ်။ အာဏာမသိမ်းခင်တရက်အလို မတ်လ ၁ ရက်နေ့မှာ တိုင်းရင်းသားတွေက ဖက်ဒရယ်နဲ့ ပတ်သက်တဲ့ အစည်းအဝေးလုပ်ပါတယ်။ အဲဒီ အစည်းအဝေးမှာ ဖက်ဒရယ်ဆိုတာ ခွဲထွက်မယ့်သူတွေက ဖက်ဒရယ်ဆိုတာ ခွဲထွက်တာ မဟုတ်ဘူး။ ဖက်ဒရေးရှင်းဆိုတာ ခွဲထွက်တာ မဟုတ်ဘူး။ တိုင်းပြည်မှာရှိတဲ့ တိုင်းရင်းသားအားလုံး ညီညီမျှမျှနဲ့ အခွင့်အရေးတန်းတူအောင်လုပ်တာလို့ ပမညတတို့ ပထစတို့က ခေါင်းဆောင်တွေကို ပြောခဲ့တယ်။ အဲဒီအခါမှာ တိုင်းရင်းသားတွေကလည်း ဘာမှ ခွဲထွက်မှာမဟုတ်ဘူး။ သူပုန်ထမှာလည်း မဟုတ်ဘူး။ ရှမ်းတို့ ဘာတို့နဲ့လည်း ပြေလည်သွားပြီ။ အဲဒီအချိန်မှာ ဦးနေဝင်းက အာဏာသိမ်းတာ။ သမ္မတစဝ်ရွှေသိုက်အိမ်ကို သေနတ်နဲ့ပစ်ပြီး ဝင်ဖမ်းတယ်။ သားငယ် စဝ်မီမီသိုက် ကျဆုံးတယ်။ သားကြီးယွင်ဂျင်းသိုက်ကို ဖမ်းတယ်။ အဲဒီနောက် မတ်လ ၂ ရက်နေ့မှာ အာဏာသိမ်းမှုဖြစ်တယ်။ အာဏာသိမ်းပြီးနောက်မှာ ဖမ်းဆီးမှုတွေစတင်တယ်။ ဖဆပလထဲက အရေးပါတဲ့သူတွေကို ရွေးဖမ်းတယ်။ ဦးနုကို ဝန်ကြီးချုပ်ဖြစ်နေတဲ့အတွက် ဖမ်းတယ်။ ပမညတထဲမှာလည်း ပျော့တဲ့သူနဲ့ မာတဲ့သူဆိုပြီး နှစ်မျိုးရှိတယ်။ မာတဲ့သူတွေကို ရွေးဖမ်းသွားတယ်။ စည်းရုံးလို့ရမယ့်သူတွေကို မဖမ်းဘူး။ ပထစထဲမှာလည်း အလားတူပဲ။ သူတို့က သဘောထား ပျော့ပျောင်းတဲ့သူတွေနဲ့ ရှေ့ဆက် လုပ်ဆောင်စရာတွေရှိတယ်။ ဒါပေမဲ့ အဲဒါကို သမဂ္ဂတွေက ကန့်ကွက်ခဲ့တယ်။ ဦးနေဝင်းက ဆိုရှယ်လစ်စနစ်ကိုသွားမယ်လို့ ပြောတဲ့အတွက် ပါတီတွေထဲမှာကော ဝေဝါးကုန်တယ်။ အဲဒီအချိန်မှာ ဆိုရှယ်လစ်စနစ်က တမ္ဘာလုံးကို လွှမ်းခြုံထားတယ်။

ဆိုဗီယက်ယူနီယံကလည်း အားကောင်းနေတယ်။ ပါလီမန်ဒီမိုကရေစီအစိုးရဆီက အာဏာသိမ်းပြီး အဲဒီလမ်းစဉ်ကိုလည်း ပြန်သွားလို့မရပြန်။ ဆိုဗီယက်တို့ တရုတ်တို့ကဲ့သို့လည်း မလုပ်ချင်။ အလုပ်သမား၊ လယ်သမားကို အာဏာပေးထားရမှာစိုး၍ အဲဒီလိုနဲ့ မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ဆိုပြီး လုပ်တယ်။ ပါတီချက်ချင်း မဖွဲ့ဘူး။ ဥပဒေကဲ့သို့ အာဏာတည်စေရမယ်ဆိုပြီး အမိန့်တွေထုတ်ပြန်တယ်။ ၄၇ ဖွဲ့စည်းပုံအခြေခံဥပဒေကို ပယ်ဖျက်ပစ်တယ်။ အဲလိုအမိန့်တွေထုတ်တာကို ကျောင်းသားတပ်ဦး၊ ရကသ၊ တကသ၊ ဗကသတို့က ကန့်ကွက်တဲ့အတွက် ရန်သူလို့ သတ်မှတ်တယ်။ အစောပိုင်းက ဦးနု၊ ဦးဗဆွေ၊ ဦးကျော်ငြိမ်းနှင့် ဗိုလ်ဇေယျတို့အထိ အရပ်ဘက် တပ်ဘက်မှာ တာဝန်ယူခဲ့သူတွေဟာ ကျောင်းသားသမဂ္ဂက အစဉ်အလာရှိတဲ့သူတွေ ဖြစ်တယ်။ သူတို့က ဒီအစဉ်အလာကို ချိုးဖျက်ချင်တယ်။ ဦးနေဝင်းကိုယ်တိုင် တက္ကသိုလ်ကျောင်းမှာ နှစ်နှစ်လောက် နေခဲ့ဖူးပေမဲ့ သမဂ္ဂထဲ မပါပါဘူး။ အဲဒီအတွက် ၇ ဇူလိုင်မှာ ကျောင်းသားတွေကို အငြိုးကြီးကြီးလုပ်ခဲ့တယ်။ ၆ ရက်နေ့ညမှာ ကျောင်းဆောင်တွေမှာ တင်းကျပ်တဲ့ ကျောင်းဆောင်စည်းကမ်းတွေကို ဆန့်ကျင်ဆန္ဒပြခဲ့တယ်။ ဇူလိုင်လ ၁ ရက်နေ့လောက်ကတည်းက ကမ္ဘာအေးကုန်းမြေမှာ ကမ္ဘာ့ငြိမ်းချမ်းရေး ကွန်ဂရက်တခု လုပ်ခဲ့တယ်။ လက်နက်ဖျက်သိမ်းရေး တပ်လုပ်ခဲ့တယ်။ HSS ကို ဖျက်တဲ့စနစ်ကို မကျေနပ်လို့ ဟိုက်စကူးဖိုင်နယ်ကိုဖျက်ပြီး ရလဒ်ကိုမထုတ်ပြန်တဲ့အတွက် ကျောင်းသားထုက မကျေနပ်လို့ ဆန္ဒပြပွဲကို တကသမှာ ပြုလုပ်ခဲ့တယ်။ အဲဒီအချိန်မှာ သဟာယနဲ့ စာဖတ်အသင်း(S&R)တွေက အရေးကြီးပါတယ်။ သဟာယနဲ့ စာဖတ်အသင်းရွေးကောက်ပွဲတွေမှာ အမှုဆောင်ဖြစ်အောင် အကြိတ်အနယ် ယှဉ်ပြိုင်ခဲ့ပါတယ်။ အာဏာရ ဖဆပလကလူတွေက သဟာယစာဖတ်အသင်း အမှုဆောင်ဖြစ်အောင် ကြိုးပမ်းကြတယ်။ တကသရွေးကောက်ပွဲ အကြိုအဖြစ် အကြိတ်အနယ် ကြိုးပမ်းကြတယ်။ ကျောင်းသား ညီညွတ်ရေးတပ်ဦးကလည်း သဟာယနဲ့ စာဖတ်အသင်းတွေမှာ ကိုယ့်ရဲ့ရဲဘော်တွေ အရွေးခံရအောင် ကြိုးပမ်းလုပ်ဆောင်တယ်။ ဒါတွေဟာ ကျွန်တော်တို့ရဲ့ အခြေခံစည်းရုံးရေးနေရာတွေဖြစ်တယ်။ ၆၂ ခုနှစ် မတ် ၂ ရက်နေ့မှာ အာဏာသိမ်းတာကို ကျောင်းသားသမဂ္ဂတွေက ကန့်ကွက်တဲ့အတွက် သမဂ္ဂတွေကို ဖြိုခွင်းရန်ကြံစည်တယ်။ ကျွန်တော်တို့ရဲ့ အခြေခံစခန်းတွေဖြစ်တဲ့ (S&R) ကျောင်းဆောင်တွေကို စည်းရုံးရေးဆင်း လုပ်ခွင့်မရအောင် အဆောင်စည်းကမ်းတွေ တင်းကျပ်တယ်။ တင်းကျပ်လာတဲ့အတွက် ဂျူလိုင်လ ၆ ရက်နေ့မှာတကြိမ် ဆန္ဒပြမှုဖြစ်တယ်။ ၇ ရက်နေ့ သမဂ္ဂမှာ တရားဝင်အဆောင်စည်းမျဉ်းတွေကို ကန့်ကွက်တဲ့အစည်းအဝေးကြီး ကျင်းပတယ်။ ၅၆ ခုနှစ်မတိုင်ခင်ကဆိုရင် အခြေခံပညာကျောင်းတွေမှာ တရားဝင်ကျောင်းသားသမဂ္ဂတွေ ဖွဲ့ခွင့်ရှိတယ်။ ပညာရေးစနစ် ပြုပြင်ပြောင်းလဲဖို့ ဇူလိုင် ၃ ရက်နေ့မှာ တကသက အစည်းအဝေးပြုလုပ်တယ်။ HSS စာမေးပွဲဖျက်သိမ်းတာကို ကန့်ကွက်တယ်။ အဲဒီအချိန်က တောင်းဆိုချက်တွေက အရာရှိဆိုးတွေကို အရေးယူရန်၊ စာမေးပွဲအောင်စာရင်း အမြန်ထုတ်ပေးရန်၊ ကမောက်ကမ ပညာရေးစနစ် ဖျက်သိမ်းရန်၊ ကျောင်းသားထုအား ခြိမ်းခြောက်မှုများရပ်ဖို့၊ ကျောင်းသားများ သွေးစည်းညီညွတ်ရေးရှိဖို့ တောင်းဆိုတယ်။ အဲဒီလိုဖြစ်ပြီး ဇူလိုင် ၆ ရက် ည ၁၀ နာရီမှာ အဆောင်ပိတ်ထားတာတွေ ရိုက်ချိုး၊ မီးတုတ်တွေနဲ့ တက္ကသိုလ်ထဲမှာ လှည့်လည်ဆန္ဒပြခဲ့ကြတယ်။ ဇူလိုင် ၇ ရက်နေ့မှာ တကသက ကြီးမှူးလုပ်တဲ့ပွဲတွေမှာ ကိုဗဆွေလေးတို့ ကိုသက်တို့က စကားပြောတယ်။ အဲဒီအချိန်မှာ မြန်မာ့အသံမှာ တော်လှန်ရေးကောင်စီဝင်တွေဖြစ်တဲ့ ဗိုလ်မှူးကြီးလှဟန်၊ စောမြင့်၊ ကျော်စိုး၊ ဘနီတို့ ရုံးထိုင်တယ်။ အသင့်ပြင်ထားတယ်။ လုံထိန်းကားတွေလည်း အဆင်သင့်ပြင်ထားတယ်။ အဲဒီအချိန်မှာ ဗိုလ်အောင်ကြီးက ၂ ခါ ၃ ခါ ဝင်ထွက်တာ တွေ့ရတယ်။ အဲဒီနောက် ကျောင်းသားတွေ အစည်းအဝေးလုပ်ပြီးနောက် တကသထဲကို ဝင်ဖမ်းတယ်။ အစည်းအဝေးက တနာရီလောက်မှာပြီးတော့ နှစ်နာရီ၊ သုံးနာရီလောက်မှာ အားလုံးပြန်သွားကြတယ်။ ကန်တင်းမှာ လက်ဖက်ရည်သောက်သူကသောက်၊ အဆောင် ပြန်သူကပြန်၊ မြို့ထဲ

ထွက်သူကထွက်၊ အဲဒီ အချိန်မှာ ဝင်ဖမ်းတယ်။ အဲဒီ အချိန်မှာ လုံထိန်းတပ်တွေနဲ့ ဝင်ဖမ်းတဲ့အတွက် ကျောင်းသားတွေနဲ့ လုံထိန်းတပ်တွေ ရုန်းရင်းဆန်ခတ် ဖြစ်တယ်။ ကမာရွတ်ရဲစခန်းကလို့ ယူဆရတဲ့ ရဲတွေ ပါဝင်တယ်။ ကျောင်းသားတွေက ပြန်လည် ခုခံတယ်။ ကိုဗဆွေလေး၊ ကိုသက်၊ ကိုတင်ထွန်းနဲ့ ကိုဉာဏ်ဝင်းတို့ ကို ဝင်ဖမ်းသွားတယ်။ ကျောင်းသားတွေက ခဲတွေနဲ့ ပြန်ပေါက် ပြန်ခုခံကြတဲ့အတွက် ၇ ဇူလိုင်ဖြစ်ပွားတယ်။ အဲဒီမှာ ကျောင်းသားတွေကို ဂျီသရီးနဲ့ ပစ်တယ်။ ဗိုလ်စိန်လွင်နဲ့ ဗိုလ်လှမြင့်တို့ ဦးစီးတယ်။ အဲဒီလိုပစ်ကြတဲ့ အတွက် ၇ ဇူလိုင်အရေးအခင်းက သိပ်ကြီးကျယ်သွားပြီး သမိုင်းဝင်အရုပ်ဆိုးတဲ့ ဖြစ်ရပ်ကြီး ဖြစ်သွားတယ်။ အဲဒီမှာ ကျွန်တော်တို့လည်း နောက်ဖေးပေါက်က ပြေးတဲ့သူပြေး၊ ကျွန်တော်တို့ရဲဘော် ကိုစိုးမြင့်ဆိုရင် တကသအဆောက်အဦရှေ့က အလံတိုင်မှာ ခွပ်ဒေါင်းအလံကို တက်ထူတာ နှစ်ကြိမ်အပစ်ခံရတယ်။ ဒါပေမဲ့ မသေဘူး။ အဲဒီမှာ ပြေးတဲ့သူလည်းပြေးကြ၊ မိတဲ့သူလည်းမိကြ၊ သေတဲ့သူတွေ လည်း သေကြတယ်။ မန္တလေးဆောင်အပေါ်မှာကို သေတဲ့သူတွေရှိတယ်။ အဲဒီနောက် ၈ ရက်နေ့မှာ တကသ အဆောက်အဦကြီးကို ဖောက်ခွဲဖျက်စီးခံရတယ်။ အဲဒါတွေကတော့ နှစ်လည်းကြာပြီဆိုတော့ ကျွန်တော်မှတ်မိသလောက်ကတော့ အဲဒီအချက်တွေဖြစ်တယ်။ သမဂ္ဂအဆောက်အဦ ဖောက်ခွဲခံရတဲ့ အချိန်မှာ ကျွန်တော်က ၆ မိုင်လောက်ဝေးတဲ့နေရာမှာ ရောက်နေပေမဲ့ တုန်သွားပြီးတော့ အသံအကျယ်ကြီး ကြားရတယ်။

## မောင်ဝံသ

ဆရာဝင်းထွဋ်ဇော်ပြောသွားတာ တော်တော်ပြည့်စုံပါတယ်။ ဒါပေမဲ့ ကျွန်တော့်အနေနဲ့ နည်းနည်းတော့ ထပ်ဖြည့်ပါ့မယ်။ ကျောင်းသားသမဂ္ဂနဲ့ စစ်တပ်ကြားမှာ နောက်ခံအကြောင်းတွေရှိတယ်။ လွတ်လပ်ရေး ရပြီးချိန်မှာ အာဏာရတာက ဖဆပလ။ နောက်တော့ ဖဆပလထဲက ကွန်မြူနစ်တွေက တောခိုသွားတယ်။ စစ်တပ်ထဲမှာက ဆိုရှယ်လစ်တပ်မှူးတွေ အများကြီးရှိတယ်။ သူတို့က အရမ်းစီနီယာကျသွားပြီ။ ဦးနေဝင်းကိုယ်တိုင်က ဆိုရှယ်လစ်ပါတီကို ထောက်ခံတယ်။ ၁၉၅၈ သန့်ရှင်းတည်မြဲအကွဲမှာ လွှတ်တော်မှာ မဲခွဲကြတော့ သန့်ရှင်းက မဲနိုင်တယ်။ ၈ မဲထဲနဲ့ ကပ်နိုင်တာ။ ပမညတရဲ့ မဲကိုယူပြီး နိုင်သွားတာ။ အဲဒီတော့ တည်မြဲဘက်က ဆိုရှယ်လစ်တပ်မှူးကြီးတွေက မခံမရပ်နိုင်ဖြစ်ကြတယ်။ အဲဒီတော့ သူတို့က ဒီရလဒ်ကို အပြောင်းအလဲ လုပ်ချင်တယ်။ ဒါဟာ ၅၈ ခုနှစ် အာဏာသိမ်းမှုရဲ့ အကြောင်းခံပဲ။ သန့်ရှင်းဖဆပလက လက်ဝဲအင်အားစု ပမညတရဲ့မဲကို ယူပြီး နိုင်တဲ့အတွက် အဲဒါကိုလက်မခံနိုင်ဘူး။ အဲဒီအတွက် အာဏာသိမ်းတယ်။ အဲဒီတချိန်တည်းမှာပဲ လွတ်လပ် ရေးရပြီးနောက်ပိုင်း တက္ကသိုလ်တွေမှာရှိတဲ့ ကျောင်းသားလှုပ်ရှားမှုတွေထဲမှာ အစိုးရရဲ့ (ဖဆပလအစိုးရမှာ ဆိုရှယ်လစ်ပါတီက အမာခံပဲ)။ ဆိုရှယ်လစ်ပါတီရဲ့ခေါင်းဆောင်တွေဟာ ကျောင်းသားတွေကြားထဲမှာ စည်းရုံးရေးလုပ်တယ်။ ဆိုရှယ်လစ်တွေရဲ့ ခါးပိုက်ဆောင် ဒီအက်စ်အို(ဒီမိုကရက်တစ်ကျောင်းသားများအဖွဲ့)ကို ထူထောင်ခဲ့တယ်။ တချိန်တည်းမှာ အဲဒီခေတ်က ပြည်သူလူထုကိုကိုယ်စားပြုတဲ့ များသောအားဖြင့် နယ်ကတက်လာတဲ့ ကျောင်းသားခေါင်းဆောင်တွေဟာ တိုးတက်သောကျောင်းသားအင်အားစုဆိုပြီး ရှိတယ်။ နောက် တိုးတက်ကနေ တပ်ဦးဖြစ်တယ်။ ပြည်သူတွေနဲ့ မီဒီယာတွေရဲ့ အမြင်မှာ လက်ဝဲကျောင်းသားအင်အားစု၊ ဒီအက်စ်အိုက လက်ယာကျောင်းသားအင်အားစု အစိုးရထောက်ပံ့ပေးထားတဲ့ ကျောင်းသားတွေ၊ သူတို့ကို ပညာတော်သည်ဖြစ်စေ မတော်သည်ဖြစ်စေ ဒီအက်စ်အိုဆိုတဲ့ ကျောင်းသားအင်အားစုမှာပါရင် ပညာတော်သင်ရတယ်။ စတိုင်ပင်ရတယ်။ စကောလားရှစ်ရတယ်။ အခွင့်ထူးခံတွေရတယ်။ အဓိကကတော့ ဖဆပလက နာမည်ကြီးဝန်ကြီး ဦးကျော်ငြိမ်းက အထောက်အပံ့ပေးတယ်။ ဦးကျော်ငြိမ်းက ဖဆပလထဲမှာ လူငယ်ကိုကိုင်တော့ ကျောင်းသားတွေကို သူကိုယ်တိုင် ကိုင်တယ်။ အဲဒီအချိန်က စစ်တပ်က ဆိုရှယ်လစ်တပ်မှူးတွေရဲ့ ဩဇာညောင်းနေတော့ သူတို့က တပ်ဦးဆိုရင် ခါးခါးသီးသီးမုန်းတယ်။ ရန်ကုန်တက္ကသိုလ်ကျောင်းသားသမဂ္ဂရဲ့ အမှုဆောင် ရွေးကောက်ပွဲလုပ်တိုင်း တပ်ဦးကပဲနိုင်တယ်။

ကျောင်းသားသမဂ္ဂဆိုတာ အောက်စဖို့ကလာတဲ့ပုံစံအတိုင်း အစကတော့ စကားရည်လုပွဲ လုပ်တဲ့အဆင့်ကနေ နောက်ကျတော့ အမျိုးသားရေး၊ နိုင်ငံရေးလုပ်တဲ့ အဖွဲ့အစည်းဖြစ်လာတယ်။ အဲဒီတော့ တကာသ အာဏာရယူခြင်းဖြင့် ကျောင်းသားထုကို ပြည်သူလူထုတွေရဲ့ နိုင်ငံရေး၊ ပြည်တွင်းငြိမ်းချမ်းရေး၊ အဲဒီအချိန်က ဖြစ်နေတဲ့ ကမောက်ကမပညာရေး ဆန့်ကျင်ရေးတို့ကို ဦးဆောင်လို့ရတယ်။ အဲဒီတော့ တပ်ဦးက တကာသအာဏာကို နှစ်ပေါင်းများစွာ ရယူထားနိုင်တယ်။ နောက်ဆုံး ဦးလှရွှေတို့ အမှုဆောင်လုပ်တဲ့ ၆၁ ခုနှစ်အထိပဲ။ ၁၉၆၂ မတ်လ ၂ ရက်နေ့မှာ တော်လှန်ရေးကောင်စီ အာဏာသိမ်းတော့ ပထမဦးဆုံး ဆန့်ကျင်ကန့်ကွက်ခဲ့တာ ဗကသ၊ တကာသ၊ ရကာသ တို့ဖြစ်တယ်။ စစ်တပ်က အာဏာသိမ်းတာ ကန့်ကွက်ကြ၊ ဆန့်ကျင်ကြ စတဲ့ ပိုစတာတွေ လုပ်တယ်။ အဲဒီတော့ အာဏာသိမ်းထားတဲ့အစိုးရကလည်း ကျောင်းသားတွေက သူတို့ရဲ့ အမိကရန်သူပဲဆိုပြီးတော့ အခဲမကျေတာတွေရှိတယ်။ ၆၂ ခုနှစ် အာဏာသိမ်းတော့ ကျောင်းသားတွေက စာမေးပွဲဖြေဖို့ စာကျက်နေကြတဲ့ အချိန်။ ကျွန်တော်ဆိုရင် ပြည်ကျောင်းဆောင်မှာ စာကျက်နေတဲ့အချိန်။ ပြီးတော့ မတ်လမှာ စာမေးပွဲဖြေတယ်။ ပြီးတော့ ကျောင်းပိတ်တယ်။ ဇွန်လမှာ ပြန်ဖွင့်တယ်။ ပြန်ဖွင့်တဲ့အခါမှာ ဘာနဲ့ ရင်ဆိုင်ရသလဲဆိုတော့ ကျောင်းဆောင်စည်းကမ်းတွေ တင်းကျပ်လိုက်တာပဲ။ ကျွန်တော်သိသလောက်ကတော့ အဓိက အချက်ရှစ်ချက် ထုတ်ပြန်တယ်။ အဲဒီအထဲမှာ ညဘက် ၈ နာရီထိုးရင် အဆောင်ပိတ်မယ်။ အဲဒီအချိန်မတိုင်ခင် အချိန်မီပြန်လာ ကိုယ့်အခန်းထဲမှာ ကိုယ်ထိုင်ရမယ်။ သူငယ်ချင်းအခန်းမှာသွားပြီး စာကျက်လို့တောင်မရဘူး။ အဆောင်မှူးတို့၊ လက်ထောက် အဆောင်မှူးတို့၊ ဟောကျူတာတို့က လိုက်စစ်လို့ အခန်းမှာကိုယ်မရှိရင် အရေးယူခံရမယ်။ ညရှစ်နာရီကျော်လို့ ပြန်ရောက်ရင် အဆောင်ထဲဝင်ခွင့်မပေးဘူး။ အဲဒီတော့ ကျောင်းသားတွေက ကိုယ့်အဆောင်ကိုယ်နေရင်းနဲ့ ကျောင်းသားဘဝမဟုတ်ဘဲ အကျဉ်းသားဘဝတွေလို ဖြစ်နေတယ်။ ဒါဟာ တမင်ဖန်တီးတာ။ အဲဒီအချိန်က ပါမောက္ခချုပ်က ဦးကာ။ အရင်က သင်္ချာပါမောက္ခ ဦးနေဝင်းရဲ့ ငယ်ဆရာလို့ပြောကြတယ်။ ဦးကာရဲ့လက်ထက်မှာ တင်းကျပ်တဲ့ စည်းမျဉ်းတွေကို ထုတ်ရတာ နောက်ကနေခိုင်းလို့ ထုတ်ရတာ။ ဒီ ၇ ဇူလိုင်ဖြစ်ရတဲ့ သွေးမြေကျတဲ့ဖြစ်ရပ်ကြီး ဖြစ်ရတဲ့အကြောင်းက ထင်သာမြင်သာတဲ့အကြောင်းကတော့ ဒီကျောင်းဆောင်စည်းကမ်းတွေကို ကျောင်းသားတွေက မကျေနပ်လို့ ကန့်ကွက်ကြရင်းနဲ့ ဖြစ်ရတာဖြစ်တယ်။ ဒါပေမဲ့ နောက်ခံအကြောင်းတွေကတော့ အများကြီးပါပဲ။ ခုနက ဦးလှရွှေပြောတာတို့ ဦးဝင်းထွဋ်ဇော်ပြောတာတို့ နိုင်ငံရေးအကြောင်းခံတွေကော စစ်တပ်ရဲ့ အခန်းကဏ္ဍကော အရပ်သားအစိုးရဆီက စစ်တပ်အာဏာသိမ်းခဲ့တာတွေ စတဲ့ အကြောင်းအရာ အများကြီးပါပဲ။ ဒါပေမဲ့ လတ်တလောအကြောင်းရင်းကတော့ ကျောင်းဆောင်စည်းကမ်းကိစ္စပါပဲ။ ဇွန်လမှာ ကျောင်းပြန်ဖွင့်တာနဲ့ ကျောင်းဆောင်စည်းကမ်းကိစ္စတွေနဲ့ ရင်ဆိုင်ရပါတယ်။ အဲဒီတုန်းက တက္ကသိုလ်ကျောင်းသားသမဂ္ဂဆိုတာ ကျောင်းသားတိုင်းက တက္ကသိုလ်ကျောင်းသား သမဂ္ဂအဖွဲ့ဝင်တွေပဲ။ အဲဒီတော့ ကျောင်းသားသမဂ္ဂဟာ ကျောင်းသားတွေရဲ့ ပြဿနာတွေကို ဦးဆောင်ဖြေရှင်းပေးရတယ်။ တောင်းဆိုစရာရှိ တောင်းဆိုပေးရတယ်။ အဲဒီဇွန်လ ၂၆ ရက်နေ့ ကျွန်တော်တက်တဲ့ တကာသအစည်းအဝေးဟာ ကျောင်းသားကို ကျောင်းဆောင်စည်းကမ်းတွေနဲ့ ပတ်သက်လို့ တကာသက ကြီးမှူးပြီး ဆွေးနွေးမယ်။ ဒါနဲ့ပတ်သက်ပြီး အကြံဉာဏ်တွေ တောင်းခံတယ်။ အဆောင်ကိုယ်စားလှယ်တွေ ဖိတ်တယ်။ အဲဒီတော့ ကျွန်တော်က တကောင်းဆောင် ရောက်နေပြီ။ အာဏာသိမ်းတုန်းက ပြည်ကျောင်းဆောင်။ ကျောင်းပြန်ဖွင့်တော့ တကောင်းဆောင်ကို ရောက်သွားတယ်။ အဲဒီတော့ တကောင်းဆောင်ကိုယ်စားလှယ်အဖြစ်နဲ့ သွားတက်ရပါတယ်။ အဲဒီနေ့ ၂၆ ရက်နေ့ လုပ်တဲ့အစည်းအဝေးရဲ့ သတင်းတွေ၊ ဓါတ်ပုံတွေကို ၂၇ ရက်နေ့မှာထွက်တဲ့ မြန်မာ၊ အင်္ဂလိပ် သတင်းစာတွေ အကုန်လုံးမှာ ပါတယ်။ အဓိက ဘာတွေဆုံးဖြတ်လဲဆိုတော့ ဘယ်လိုမှလက်မခံနိုင်ဘူး တော်တော်ကြီးကို ခံပြင်းနေကြတယ်။ ကျောင်းပြန်ဖွင့်ပြီး နှစ်ပတ်လောက်

ဒီဒုက္ခတွေကို ခံစားရတယ်။ တံခါးပိတ်တယ်ဆိုတော့ အချိန်မီပြန်ရတာပေါ့။ ခါတိုင်းဆိုရင်တော့ ညဆယ်နာရီ လောက်ထိုးရင် ကျွန်တော်တို့က လိုင်းပေါက်ကိုထွက် လက်ဖက်ရည်သောက်၊ ကြက်ဥစား။ မိန်းထဲကသူတွေ ကတော့ လှည်းတန်းကိုထွက် လက်ဖက်ရည်သောက် ကြတာပေါ့။ အခုတော့ အဲလိုလုပ်လို့မရတော့ဘူးပေါ့။ အဲဒီတော့ တော်တော် ဒေါသတွေ ထွက်ကြတာပေါ့။ အဲဒီတော့ တကသအစည်းအဝေးမှာ ကျွန်တော်တို့ ဒါ ကိုကန့်ကွက်ကြောင်းနဲ့ ဆန္ဒပြဖို့ ဆုံးဖြတ်တယ်။ ၇ ရက် နေ့ ဆန္ဒပြဖို့ချိန်းလိုက်ကြတယ်။ ၇ ရက်နေ့ဟာ စနေနေ့ ဖြစ်တယ်။ တက္ကသိုလ် စာသင်ခန်းတွေက စနေနေ့မှာ နေ့တဝက် ကျောင်းတက်ရသေးတယ်။ လုံးဝမပိတ် သေးဘူး။ ကျောင်းလွှတ်တဲ့ အချိန်နဲ့ ကိုက်ပြီးတော့ စနေနေ့ဆိုပြီး ချိန်းလိုက်ကြတယ်။ ၆ ရက်နေ့ညမှာ မိန်းဘက်က အသံတွေကြားရတယ်။ ဆူဆူဆူဆူကြား ရတော့ ကျွန်တော်တို့ ပြည်ရယ်၊ တကောင်းရယ်၊ ပုဂံ ရယ် ဒီ ၃ ဆောင်က ကျောင်းသားတွေက လှုပ်လှုပ်ရွရွ ဖြစ်နေကြတယ်။ အဲဒီနောက် တက္ကသိုလ်စာတိုက်နဲ့ တက္ကသိုလ်စာအုပ်ဆိုင်တို့ ကြားထဲကနေ မိန်းကို သွား တယ်။ အဲဒီအချိန်မှာ အဓိပတိလမ်းပေါ်မှာ တော်တော် စုမိနေပြီ တကသရှေ့မှာပေါ့။ အဲဒီအချိန်က ဘယ်သွား ရမှန်း မသိသေးဘူး။ အစီအစဉ်မရှိဘူး အဆောင်တွေ ကထွက်လာပြီးတော့ ကြွေးကြော်သံတွေ အော်တာပဲ ရှိတယ်။ အဲဒီအချိန်မှာ ဘယ်သူကပြောလိုက်တယ်မ သိဘူး။ ကျောင်းဆောင်ရေးမှူး ဦးယုခင်ဆီသွားတယ်။ အိမ်ရှေ့မှာ ကျောင်းဆောင်စည်းကမ်းတွေ အလိုမရှိ၊ ကျောင်းဆောင်စည်းကမ်းတွေ ဖျက်သိမ်းပေး ဆိုပြီး အော်ကြတယ်။ အဲဒီအချိန်မှာ ဆရာဦးယုခင် ထွက်လာ တယ်။ ထွက်လာပြီးတော့ 'အေး မင်းတို့ အဲသလို လာဆူ နေလို့ ဘာထူးမှာလဲ။ မင်းတို့ဘာဖြစ်လဲ ဘာကိုပြော ချင်တာလဲ၊' အဲဒီတော့ ကျွန်တော်တို့က ကျောင်းဆောင် စည်းကမ်းတွေကို မလိုချင်ဘူးလို့ ပြောတယ်။ အဲဒီလိုမ လိုချင်ဘူးဆိုရင် RUSU ရှိတာပဲ၊ RUSU က ပြောပေါ့ လို့ပြောတယ်။ ကျွန်တော်တို့ကသာ တကသ တကသ နဲ့ နှုတ်ကျိုးနေတာ ရေးဆရာတွေကတော့ RUSU လို့ပဲ ခေါ်တယ်။ မင်းတို့မှာ RUSU ရှိတာပဲ။ RUSU ကပြော ပေါ့ အဲဒီလိုသာဆိုရင် ဆရာလည်း ဘာမှမတတ်နိုင်ဘူး လို့ပြောတယ်။ အဲဒီတော့ တကသကလည်း မနက်ဖြန် မှာ အစည်းအဝေးရှိနေတယ်။ ဒီတော့ သိပ်ပြောစရာ လည်းမရှိဘူး။ အဲဒီလိုနဲ့ ကိုယ့်အဆောင်ကိုယ် ပြန်ခဲ့ ကြတယ်။ အဲဒီနောက် ၇ ရက်နေ့မှာ အစည်းအဝေး သွားတက်ကြတယ်။ အစည်းအဝေးက ၁၁ နာရီမှာ စ တယ်။

## ဦးလှရွှေ

ဒီနေရာမှာ လူငယ်တွေကို သိစေချင်တာက ရန်ကုန် တက္ကသိုလ်အုပ်ချုပ်မှုဟာ အပေါ်မှာ ရန်ကုန်တက္ကသိုလ် ကောင်စီဆိုတာ ရှိတယ်။ ရန်ကုန်တက္ကသိုလ်ကောင်စီ ကို ဘယ်သူတွေနဲ့ ဖွဲ့သလဲဆိုရင် ဘာသာရပ်ဆိုင်ရာ ပါမောက္ခတွေနဲ့ဖွဲ့တယ်။ ရန်ကုန်တက္ကသိုလ်ကောင်စီ ထဲမှာပါတဲ့ ပြောခွင့်ဆိုခွင့်ရှိသူတွေက ပထမအမျိုး အစားကတော့ ဘာသာရပ်ဆိုင်ရာပါမောက္ခတွေ၊ ဒုတိယက ရန်ကုန်တက္ကသိုလ်မှာရှိတဲ့ ဌာနမှူးတွေ ပါတယ်။ တတိယအုပ်စုမှာက လွှတ်တော်နှစ်ရပ် က ကိုယ်စားလှယ်တွေပါတယ် (ပြည်သူ့လွှတ်တော် က ကိုယ်စားလှယ် ၂ ယောက်၊ လူမျိုးစုလွှတ်တော်က ကိုယ်စားလှယ် ၂ ယောက်ပါတယ်)၊ ဝန်ကြီးချုပ်က ရန် ကုန်တက္ကသိုလ်ရဲ့ အဓိပတိ။ ပါမောက္ခချုပ်ကတော့ ဒုတိယအဓိပတိပေါ့။ တကယ်လို့ ဦးနုက ဝန်ကြီးချုပ် အနေနဲ့ သူမလာဘူးဆိုရင် သူ့ကိုယ်စား ကိုယ်စားလှယ် တယောက် လွှတ်တယ်။ ဝန်ကြီးချုပ်က အဓိပတိ၊ ပါမောက္ခချုပ်က ဒုအဓိပတိ။ သာမန်အချိန်တွေဆို ရင် ပါမောက္ခချုပ်က ရန်ကုန်တက္ကသိုလ် အုပ်ချုပ်မှု ကို တာဝန်ယူတယ်။ ဒါပေမဲ့ ဝန်ကြီးချုပ်က ကျွန်တော် တို့ တက္ကသိုလ်သက်တမ်း ခြောက်နှစ်အတွင်း တခါမှမ လာပါဘူး။ ရန်ကုန်တက္ကသိုလ်အုပ်ချုပ်မှုနဲ့ ပတ်သက် လို့ တခါမှမလာပါဘူး။ သူမလာပေမဲ့ သူ့ကိုယ်စားလှယ် အမတ်တယောက်ကို လွှတ်လေ့ရှိတယ်။ ဒါဟာ ရန် ကုန်တက္ကသိုလ်ဖွဲ့စည်းပုံပဲ။ တက္ကသိုလ်အုပ်ချုပ်ပုံဟာ အဲဒီပုံစံအတိုင်း စီးဆင်းတယ်။ ရန်ကုန်တက္ကသိုလ် မှာ ကျောင်းသားတယောက်ကို ကျောင်းထုတ်မယ်ဆို ရင်တောင်မှ တက္ကသိုလ်ကောင်စီက အဆုံးအဖြတ်ပေး

တယ်။ ဒီအတိုင်း ရမ်းသမ်းထုတ်လို့ မရဘူး။ ဒါဟာ ရန်ကုန်တက္ကသိုလ်အုပ်ချုပ်မှုနဲ့ဆိုင်တာ။ နောက်တခါ ဘာရှိလဲဆိုတော့ တက္ကသိုလ်သမဂ္ဂဆိုတာလည်း တခြားဟာတွေနဲ့မတူဘူး။ သူကလည်း ဖွဲ့စည်းပုံအခြေခံဥပဒေနဲ့လုပ်ရတာ။ ဥပမာ ၇ ဇူလိုင် အစည်းအဝေးလုပ်တော့မယ်ဆိုရင် လုပ်ချင်တဲ့နေ့ ထလုပ်လို့မရဘူး။ တက္ကသိုလ်သမဂ္ဂဖွဲ့စည်းပုံက ပေးထားတဲ့အဆင့်တွေအတိုင်း လုပ်ရတာဖြစ်တယ်။ ဥပမာ ကျောင်းသားလှုပ်ရှားမှုလုပ်မယ်ဆိုရင် အနည်းဆုံး ၁၅ ရက်လောက်ကြိုတင် အကြောင်းကြားထားရတယ်။ ၇ ဇူလိုင်ဆိုရင် အစောကြီးကတည်းက ကြေညာချက်ထုတ်ထားရတယ်။

## မောင်ဝံသ

တကသမှာ ဇူလိုင် ၇ ရက်အစည်းအဝေးလုပ်တယ်။ အဲဒီမှာ သဘာပတိက ကိုဗဆွေ။ ကိုသက်က ကျောင်းဆောင်စည်းကမ်းများကို ကန့်ကွက်ကြောင်း၊ ရှုတ်ချကြောင်း အဆိုတင်တယ်။ အဲဒီအဆိုကို အားလုံးက သဘောတူတယ်လို့ ဆုံးဖြတ်တယ်။ ဒါဆိုရင် ငြိမ်းချမ်းစွာဆန္ဒပြမယ်လို့ ဆုံးဖြတ်ကြပြီး တကသပေါ်က ဆင်းလာတယ်။ တကသက ထွက်ပြီး ညာဘက်ကို ကွေ့ တက္ကသိုလ်ဘွဲ့နှင်းဘသင်ရှေ့အထိသွားတယ်။ ဘွဲ့နှင်းသဘင်ရှေ့က မြက်ခင်းတွေရှိတဲ့ ပန်းခြံလိုဟာမျိုးလေးကို တပတ်ပတ်တယ်။ အဲဒီနောက် တကသအဆောက်အဦရှေ့မှာ လူစုပြန်ခွဲတယ်။ အဲဒီလူစုပြန်ခွဲတဲ့အချိန်မှာ ကျွန်တော်တို့ထဲက တချို့က လက်ဖက်ရည်သောက်မယ်ဆိုပြီး ကျွန်တော့်ကို ခေါ်တယ်။ ကျွန်တော်က ပဲခူးပြန်မယ်ဆိုပြီး ငြင်းလိုက်တယ်။ ကျွန်တော်က စနေဆိုရင် ပဲခူးကို ပြန်လေ့ရှိတယ်။ အိမ်ထမင်း၊ အိမ်ဟင်းစား တနင်္ဂနွေနေ့ညနေဆိုရင် ရန်ကုန်ပြန်လေ့ရှိတယ်။ အဲဒီနောက် ကျွန်တော်ဟာ တက္ကသိုလ်စာတိုက်နှင့် စာအုပ်ဆိုင်ကြားထဲကနေ လိုင်းပေါက်ကနေ ပြန်လာပြီးတော့ အဆောင်ရောက်၊ အဆောင်မှာ အဝတ်အစားအိတ်ကလည်း အဆင်သင့်ပဲ။ အဲဒါနဲ့ပြန်ခဲ့တယ်။ ကျွန်တော် ကမာရွတ်လောက်ရောက်တဲ့အချိန်မှာ ရုတ်ရုတ်သဲသဲဖြစ်နေပြီ။ ရဲတွေကော ကားတွေကော ရှုပ်နေတယ်။ ဒါပေမဲ့ ကျွန်တော် နောက်ဆုံးတော့ ပဲခူးရောက်သွားတယ်။ ညကျတော့မှ ကျွန်တော့်အကိုနှစ်ယောက် ပြန်ရောက်လာတယ်။ ကျွန်တော့်အကိုနှစ်ယောက်စလုံးကလည်း တက္ကသိုလ်မှာ။ ပြန်ပြောလာတော့ အကိုအကြီးကတော့ ဘာမှမဖြစ်ဘူး။ အကိုလတ်ကတော့ သူ့ အဝတ်အစားတွေကို သေတ္တာထဲကို ထိုးထည့်နေတယ်။ အဲဒီ သူ့တက်ထရွန်အင်္ကျီက ရဲနေတာပဲ။ ဘာဖြစ်လို့လဲဆိုတော့ သူပြောပြတာက ညနေဘက်သူထမင်းတွေဘာတွေစားပြီး ဆန္ဒပြပွဲပြီးတဲ့အချိန်လောက်မှာ အမရအဆောင်ရှေ့က မြက်ခင်းပြင်မှာသွားထိုင်နေတယ်။ အဲဒီအချိန်မှာ ဒီဘက်ကအော်လိုက်၊ ဟိုဘက်က စစ်သားတွေက မကျေမချမ်းနဲ့ ပြန်ပြောလိုက်နဲ့ ဖြစ်နေကြတယ်။ အဲဒီလို သူထိုင်နေတုန်းမှာ ပစ်တော့ သူ့ဘေးကလူကို မှန်တယ်။ သူ့ကိုမမှန်ဘူး။ အဲဒီသွေးက သူ့ကိုပေတယ်။ ဒါနဲ့ သူလည်း သွေးရူးသွေးတန်းဖြစ်ပြီးတော့ အဆောင်ကို ပြန်၊ အင်္ကျီ အဝတ်အစားကို ထည့်ပြီးတော့ အိမ်ကိုပြန်လာခဲ့တယ်။ အဲဒီညမှာ ခါးကိုခါးချင်း၊ လှံကိုလှံချင်း ရင်ဆိုင်သွားမယ်လို့ မိန့်ခွန်းကြားတယ်။ နောက်နေ့မှာတော့ တက္ကသိုလ်ကို ပိတ်လိုက်တယ်။ သူတို့က ၁၇ ယောက် သေတယ်လို့ ကြေညာတယ်။ တကသကို ဖြိုခွဲပြီးနောက် ကျောင်းပိတ်လိုက်တယ်။ စက်တင်ဘာလမှာ ကျောင်းပြန်ဖွင့်တယ်။ ကျောင်းပြန်လာ တက်တဲ့သူတွေ အားလုံးက မကျေနိုင်မချမ်းနိုင် အင်မတန် ဒေါသတွေဖြစ်ခဲ့ကြတယ်။ ကျောင်းပြန်ဖွင့်တော့လည်း အာမခံချက်တွေ၊ ခံဝန်ချက်တွေပေးရတယ်။ မိဘလက်မှတ်နဲ့အတူ ကျောင်းပြန်တက်ရတယ်။ စက်တင်ဘာမှာ ကျောင်းပြန်ဖွင့်ပြီးတော့ အောက်တိုဘာလထဲမှာ ကျောင်းဆောင်တွေမှာ သဟာယနဲ့ စာဖတ်အသင်း S&R ပြန်လည်ဖွဲ့စည်းကြတယ်။ ဒီလိုဖွဲ့စည်းတာကို သူတို့က ပြဿနာမရှာကြဘူး။ ကျောင်းဆောင်တဆောင်ချင်း၊ တဆောင်ချင်းမှာ ဖွဲ့တဲ့ သဟာယနဲ့စာဖတ်အသင်းတွေမှာ တက်ကြွတဲ့ကျောင်းသားတွေက အမှုဆောင်တွေဖြစ်လာကြတယ်။ ဖြစ်လာတဲ့အကြောင်းက နှစ်ချက်ရှိတယ်။ တချို့ကျောင်းသားကြီးတွေက အဲဒီတော့ ရန်ကုန်တက္ကသိုလ်သမဂ္ဂဟာ ဘာသိဘာသာပဲနေကြပြီးတော့ စိတ်မ

ဝင်စားကြတော့ဘူး။ တိုင်းပြည်ကို အုပ်ချုပ်နေတာ စစ်အစိုးရဖြစ်တဲ့အတွက် သူတို့ကလက်ရှောင်ကြတယ်။ ဒီလိုပဲ နာကျည်းချက်တွေရှိတဲ့ ကျောင်းသားတွေကလည်း ဒီပလက်ဖောင်းကိုယူပြီး လုပ်စရာရှိတာတွေဆက်လုပ်မယ်ဆိုပြီးတော့ အစွမ်းကုန် ကြိုးစားကြတယ်။ ကျွန်တော်က တကောင်းဆောင်မှာ အတွင်းရေးမှူးဖြစ်တယ်။ ရွေးချယ်မှုကို ရွေးကောက်ပွဲနဲ့ ပြုလုပ်ပြီး ရွေးချယ်ကြတယ်။ ပင်းယဆောင်မှာ ကိုမြင့်ဌေးက ဥက္ကဋ္ဌ၊ အမရဆောင်မှာ ကိုတင်အေးက ဥက္ကဋ္ဌ၊ ကိုချစ်ဆောင်က အတွင်းရေးမှူးဖြစ်တယ်။ သဟာရနဲ့စာဖတ်အသင်းတွေ ဖွဲ့ပြီးလာတဲ့အချိန်မှာ ကျွန်တော်က ကြေညာချက်တခုရေးပြီး အဆောင်ကို ကမ်းလှမ်းတယ်။ သဟာယနဲ့စာဖတ်အသင်းများအဖွဲ့ချုပ် ပြန်လည်ဖွဲ့စည်းဖို့ ဘယ်လို သဘောထားရှိလဲ။ အကယ်၍ သဘောတူတယ်ဆိုရင် ဘီအိုစီကောလိပ်ရှေ့မြက်ခင်းပြင်မှာ ဘယ်နေ့ဘယ်ရက်မှာ အစည်းအဝေး ပြုလုပ်မယ်ဆိုပြီး ဖိတ်တယ်။ အဲဒီမှာ အဆောင်ကကိုယ်စားလှယ်တွေ လာကြတယ်။ အဲဒီအဖွဲ့ချုပ်ဟာ ယခင့်ယခင်ကဆိုရင် တကာသရဲ့ အစိတ်အပိုင်းတခုသာဖြစ်တယ်။ နောက်ပြီးတော့ နေ့ကျောင်းသားတွေရဲ့ အဖွဲ့ချုပ်ဆိုတာ ရှိသေးတယ်။ နေ့ကျောင်းသားတွေနဲ့ အဆောင်ကျောင်းသားတွေ ပေါင်းလိုက်တော့ အင်အားဟာ အင်မတန်ကြီးထွားသွားတယ်။ အဖွဲ့ချုပ်ဖြစ်မြောက်ရေးအတွက် ယာယီကော်မတီဆိုပြီး ငါးဦးဖွဲ့တယ်။ ကိုတင်အေး၊ ကိုချစ်ဆောင်၊ ကိုတင်ထွန်းနဲ့ မထိုက်ထိုက်၊ ကျွန်တော်အပါအဝင် ငါးဦးနဲ့ဖွဲ့တယ်။ ဒါပေမဲ့ မထိုက်ထိုက်က အစည်းအဝေးလုပ်ပြီး သိပ်မကြာဘူး နှုတ်ထွက်သွားတယ်။ အဲဒီမှာ ကျွန်တော်တို့လေးယောက်ကျန်တယ်။ ကော်မတီဖွဲ့ပြီးရုံပဲ ရှိသေးတယ် ကျွန်တော်တို့လေးယောက်ကို တက္ကသိုလ်ကဝင်းမှူးက သတင်းရလို့ဆိုပြီး ခေါ်ပြီး တော့ ဒါဟာတရားမဝင်တဲ့အစည်းအဝေးဆိုပြီး ဖျက်ခိုင်းတယ်။ ပြီးတော့မှ ကျွန်တော်တို့က လေးဦးကော်မတီကို ဖွဲ့ပြီးတော့ အဖွဲ့ချုပ်တောင်းဆိုတဲ့ ကြေညာချက်ကို ထုတ်တယ်။ အဲဒီ့မှာ ပထမဆုံးပါမောက္ခချုပ်က ကျွန်တော်တို့လေးယောက်ကို ခေါ်တွေ့တယ်။ အဲဒီလိုခေါ်တွေ့ ရာမှာ ဘယ်အတန်းက ကျောင်းသားနံပါတ် ဘယ်လောက်ဆိုပြီး ခေါ်တွေ့တယ်။ ပါမောက္ခချုပ် ဦးကာနဲ့ တွေ့တယ်။ ဦးကာက ဒီကိစ္စနဲ့ပတ်သက်ပြီး ကျွန်တော်တို့ကို မေးတယ်။ ကျွန်တော်တို့က အဖွဲ့ချုပ်ဖွဲ့မယ့်အကြောင်း ပြောပြီး လိုလားချက်တွေပြောတယ်။ အဲဒီမှာ သူကမင်းတို့ ဒါ တရားမဝင်ဘူး လုပ်ခွင့်မရှိဘူးလို့ပြောတယ်။ အဲဒီမှာ ကျွန်တော်တို့ကလည်း ဆက်လုပ်မှာပဲလို့ပြောတော့ ဒါဆို မင်းတို့ကို တက္ကသိုလ်ကောင်စီနဲ့ တွေ့ပေးမယ်ဆိုပြီး တက္ကသိုလ်ကောင်စီနဲ့တွေ့ပေးတယ်။ တက္ကသိုလ်ကောင်စီကလည်း ဒီကိစ္စကို အဆုံးအဖြတ်မပေးနိုင်ဘူး။ သူတို့ အထက်ကိုတင်ပြပေးမယ်လို့ ပြောတယ်။ အဲဒီမှာ တော်လှန်ရေးအစိုးရက ကိုယ်စားလှယ်ဆိုပြီး ကျွန်တော်တို့လေးယောက်ကို တွေ့မယ်ဆိုပြီး ဖိတ်တယ်။ အဲဒီမှာ ရေတပ်က ဗိုလ်မှူးမောင်မောင်သန်း(နောင်မှာသံအမတ်ကြီးဖြစ်သော) က ကားနဲ့တင်ပြီး ဦးဝိစာရအဝိုင်းနားက အိမ်အမည်းကြီးတစ်ခုမှာ ဗိုလ်မှူးကြီးသန်းစိန်၊ ဗိုလ်မှူးကြီးတင်စိုး၊ ဒေါက်တာမောင်မောင်တို့နှင့်အတူ တွေ့ဆုံ၍ ဆွေးနွေးခဲ့တယ်။ အဲဒီမှာ ကျွန်တော်တို့က အချက်(၇)ချက်တောင်းဆိုခဲ့တယ်။ ၇ ဇူလိုင် သေဆုံးတဲ့ ကျောင်းသားအမည်စာရင်းကို ဖော်ထုတ်ပေးရန်။ ဒဏ်ရာရကျောင်းသားတွေအတွက် တာဝန်ယူပေးရမယ်။ နစ်နာကြေးပေးရမယ်။ မတရားတဲ့ ကျောင်းဆောင်စည်းကမ်းတွေ ဖျက်သိမ်းပေးရမယ်။ ဖမ်းထားတဲ့ ကျောင်းသားသမဂ္ဂခေါင်းဆောင်တွေကို ပြန်လွှတ်ပေးရမယ် စတဲ့အချက်တွေ တောင်းဆိုခဲ့တယ်။ သူတို့က ကျောင်းသားသမဂ္ဂတွေအစား အဆောင်သာယာရေးအဖွဲ့တွေ ဖွဲ့ပေးမယ်။ အဲဒါကို သဘောတူလားမေးတယ်။ ကျွန်တော်တို့က သဘောမတူဘူးလို့ ချက်ချင်းဖြေခဲ့တယ်။ ပြီးတော့ ကျောင်းသားသမဂ္ဂနဲ့ပတ်သက်ပြီး တာဝန်ရှိသူတွေလည်း သူတို့ဆီမှာ မရှိတော့ဘူးလို့ ပြောပါတယ်။ ဗိုလ်အောင်ကြီးကို ဆိုလိုတာပါ။ ကျောင်းသားသမဂ္ဂအဆောက်အဦ ပြန်ဆောက်ပေးမယ်။ ခင်ဗျားတို့ကိုယ်ပိုင် ဒီဇိုင်းပေးချင်လည်း ပေးပါ။ အဟောင်းအတိုင်းဆောက်ပါဆိုလည်း ဆောက်ပေးပါမယ်လို့ ကတိပေးပါတယ်။ အဲဒီမှာ ကျွန်တော်တို့က ဒါကျွန်တော်တို့

ဆုံးဖြတ်ရမယ့်ကိစ္စမဟုတ်ဘူး နောင်တချိန်မှာ တိုင်းပြည်က ဆုံးဖြတ်ရမှာဖြစ်တယ်။ ကျွန်တော်တို့က Yes or No ဘာမှမပြောခဲ့ဘူး။ ကျွန်တော်တို့ပြန်လာတော့ မြို့တော်ခန်းမနဲ့ ဘားလမ်းမှာ မြန်မာနိုင်ငံသတင်းထောက်အသင်းမှ သတင်းစာရှင်းလင်းပွဲ လုပ်တယ်။ အဲဒီမှာ အုတ်အော်သောင်းတင်းဖြစ်တယ်။ ဒီသတင်းစာရှင်းလင်းပွဲက ဘယ်လောက်ထိ ဖလင်သုံးလဲဆိုရင် အားလုံးပေါင်း ဖလင်အလိပ်(၇၀) ကုန်သွားတယ်လို့ ပြောတာ ကြားဖူးတယ်။ နေးရှင်းသတင်းစာက ကျောင်းသားလှုပ်ရှားမှုကို အားပေးတယ်။ ဦးလောယုံက နေးရှင်းသတင်းစာ ပိုင်တယ်။ သူက တက္ကသိုလ်လှုပ်ရှားမှုအားလုံးကို နေးရှင်းသတင်းစာထဲ ထည့်ပေးတယ်။ အဲဒီနောက်မှာ ကျွန်တော်တို့ လေးယောက်ကို တကြိမ် ထပ်ခေါ်တွေ့တယ်။ ကျွန်တော်တို့က သဟာယနဲ့ စာဖတ်အသင်းကို ထပ်မံတိုးချဲ့ခဲ့ပြီး အဆောင်ကိုယ်စားလှယ်(၁၀)ယောက်၊ ကျွန်တော်တို့လေးယောက်၊ ပေါင်း (၁၄)ယောက် ဖြစ်လာခဲ့တယ်။ အဲဒ့ီမှာ ကျွန်တော်တို့ (၁၄)ယောက်နဲ့ အဲဒီမှာ ကျွန်တော်တို့(၁၄)ယောက်နဲ့ သူတို့နဲ့ ထပ်တွေ့တယ်။ အဲလိုတွေ့ပြီး ပြန်လာတဲ့အခါကျတော့ ကျွန်တော်တို့ထဲမှာ သဘောထားကွဲလွဲမှုတွေ ဖြစ်တယ်။ အဲဒီထဲက တချို့က သူတို့ကမ်းလှမ်းတာကို လက်ခံချင်တယ်။ ကျွန်တော်တို့သိပ္ပံခန်းထဲမှာလုပ်တဲ့ အစည်းအဝေးကျတော့ သူတို့က ဒီအချက် ဒီအချက်တွေ လက်ခံမယ်လို့ပြောတယ်။ အဲဒီမှာ ကျွန်တော်တို့သုံးယောက်က တဖက်၊ ကိုချစ်ဆောင်က တဖက်၊ သဘောထားကွဲကြတယ်။ ကျွန်တော်တို့သုံးယောက်က အစည်းအဝေးကို သပိတ်မှောက်ပြီး ထွက်လာခဲ့တယ်။ အဲဒီတော့ သူတို့ကျန်တာပေါ့။ သဟာယနဲ့ စာဖတ်အသင်းအဖွဲ့ချုပ်အာဏာက သူတို့လက်ထဲ ရောက်သွားတာပေါ့။ အဲဒီတော့ ကျွန်တော်တို့ ဘာလုပ်လဲဆိုရင် နှစ်ပတ်လောက်အတွင်းမှာ အဆောင်တွေကို လိုက်စည်းရုံးပြီး ကျွန်တော်တို့နဲ့ သဘောမတူတဲ့ အဆောင်အမှုဆောင်တွေကို ဖြုတ်ချတယ်။ တဆောင်ပြီးတဆောင်က အမှုဆောင်တွေ ပြုတ်ကျကုန်တယ်။ အဲဒီမှာ ကျွန်တော်တို့တွေက အစည်းအဝေးကိုသပိတ်မှောက်ပြီး ထွက်လာပြီးနောက်ပိုင်း အဆောင်တွေကို လိုက်စည်းရုံးပြီး ကျောင်းသားထုအစည်းအဝေး ခေါ်ပါဆိုပြီး တောင်းဆိုတယ်။ နောက်အစည်းအဝေးမှာ သူတို့ကို အယုံအကြည်မရှိ အဆိုကို တင်တယ်။ အဲဒီမှာ လက်ရှိ ရှိတဲ့ အမှုဆောင်တွေက မဲခွဲပါဆိုပြီး ဆုံးဖြတ်တယ်။ အဲလို ဆုံးဖြတ်တဲ့အခါကျတော့ သူတို့ရှုံးနိမ့်ကုန်တယ်။ တကယ့်ကို ဒီမိုကရက်တစ် အလေ့အထပါပဲ။ အဖွဲ့အာဏာ ကျွန်တော်တို့လက်ထဲ ရောက်လာတယ်။ ပြီးတော့မှ နေ့ကျောင်းသားအဖွဲ့နဲ့ ပူးပေါင်းပြီး ကျောင်းသားအခွင့်အရေး ကာကွယ်မှုကော်မတီ ဆိုပြီးဖွဲ့တယ်။ အင်အားက ကောင်းသွားတယ်။ တကာသနာမည် ခံလို့မရဘူး။ ဘာဖြစ်လို့လဲ ဆိုတော့ တကာသကရှိနေတယ်။ ပြီးတော့ တကာသက ရွေးကောက်ပွဲနဲ့တက်ရတာ။ ဒါဟာ တကာသမရှိခင် တကာသကိုယ်စား ကျောင်းသားတွေရဲ့ အရေးကိစ္စတွေကို ဆောင်ရွက်ရတယ်။ အဲလိုဆောင်ရွက်နေတုန်းမှာ အခြေအနေတွေ ပြောင်းလာပြီး ဇန်နဝါရီလလောက်မှာ အဖမ်းခံရတဲ့ ကျောင်းသားခေါင်းဆောင်တွေ ပြန်လွတ်လာတယ်။ ဒီကြားထဲနိုဝင်ဘာလထဲမှာ အမျိုးသားနေ့လှုပ်ရှားမှု ချီတက်ပွဲကြီးလုပ်တယ်။ အဲဒါကို တက္ကသိုလ်ဆရာများအသင်းက စတုဒီသာကျွေးမှာမို့လို့ ကျွန်တော်တို့ကို ချီတက်ပွဲမလုပ်ဖို့ ဟန့်တားတယ်။ ကျွန်တော်တို့ကို တက္ကသိုလ်ဆရာများအသင်းက အစည်းအဝေးဖိတ်လို့ အထွေထွေအတွင်းရေးမှူးနဲ့ ကျွန်တော် အစည်းအဝေးသွားတက်တယ်။ တက္ကသိုလ် ဆရာများအသင်းဥက္ကဋ္ဌဆရာဒေါက်တာညီညီက ချီတက်ပွဲမလုပ်ဖို့ မေတ္တာရပ်ခံတယ်။ ချီတက်ပွဲလုပ်ရင် ပဋိပက္ခတွေဖြစ်မှာစိုးလို့ဆိုပြီး ပြောတယ်။ ကျွန်တော်တို့ကလည်း မလုပ်လို့မဖြစ်ဘူးလို့ ပြန်ပြောတယ်။ အစီအစဉ်တွေအားလုံး စီစဉ်ပြီးသွားပြီ။ အဲဒီတော့ ဒေါက်တာညီညီက အဲဒီနေ့မှာ စတုဒီသာကျွေးပွဲရှိတယ် ခင်ဗျားတို့အားလုံး လာစားကြပါလို့ပြောတယ်။ ကျွန်တော်တို့က လက်မခံဘူး။ ဒါနဲ့ ဆွေးနွေးပွဲပျက်သွားတယ်ပေါ့ဗျာ။ ကျွန်တော်တို့လည်း ပြန်လာခဲ့ကြတယ်။ သတ်မှတ်ထားတဲ့နေ့ ရောက်တဲ့အခါကျတော့ ကျွန်တော်တို့က ချီတက်ပွဲလုပ်တယ်။ ကျောင်းထဲမှာပါပဲ။ အဲဒီတုံးက ကြွေးကြော်သံက ဘာလဲဆို

တော့ "ဗိုလ်ကြီးကျွေးတဲ့ အပင်းတွေမစားနဲ့ မစားနဲ့" ဆိုပြီး အော်ကြတာပေါ့။ စတုဒီသာကျွေးပွဲကို ကျောင်းသူကျောင်းသား အနည်းငယ်ပဲ သွားခဲ့ကြတယ်။ နောက်ဆုံးလာစားမယ့်သူ မရှိတဲ့အတွက် ပိုနေတဲ့ဟာတွေကို ဘုန်းကြီးကျောင်းကို လှူလိုက်ရတယ်။ ကျွန်တော်တို့ကျောင်းသားတွေက တက္ကသိုလ်အပန်းဖြေရိပ်သာရှေ့မှာ တရားပွဲလုပ်တယ်။ အဲဒီမှာ သတင်းလာယူတဲ့ ထောက်လှမ်းရေးတယောက်ကို မိတယ်။ နောက်နေ့ ထုတ်သတင်းစာတွေမှာ ပါပြီးတော့ အုတ်အော်သောင်းတင်းဖြစ်တယ်။ နောက်ပိုင်းမှာ ကျောင်းသားခေါင်းဆောင်တွေလည်း ပြန်လွတ်လာတယ်။ ထင်ရှားတဲ့လှုပ်ရှားမှု နှစ်ခုရှိတယ်။ တခုက တကသ တဲကြီးတည်ဆောက်တယ်။ သူတို့က ပြန်ဆောက်ပေးမယ်ဆိုပေမဲ့ ကျွန်တော်တို့က ကိုယ့်ဘာသာကိုယ် ဆောက်တယ်။ ခနိမိုး ဝါးထရံကာနဲ့ ပေ(၃၀)လောက်ရှိတယ်။ နောက်တော့ ရုပ်ရှင်မင်းသားကိုမြတ်လေးက ဒါရိုက်တာ ဦးချစ်ခင်ကို ခေါ်လာတယ်။ ကျွန်တော်တို့နဲ့တွေ့ပြီး စကားပြောကြတယ်။ ဦးချစ်ခင် လှူတယ်လို့တော့ မပြောဘူး ကိုမြတ်လေးက ကျွန်တော်တို့ကို ငွေနှစ်ထောင်ပေးတယ်။ အဲဒီတုံးက ငွေနှစ်ထောင်ဆိုတာ တော်တော်များပါတယ်။ အဲဒီနှစ်ထောင်ကို မတည်ပြီးတော့ ကျန်တဲ့ဝိုင်းကူတဲ့ ငွေတွေနဲ့ တည်ဆောက်တယ်။ ပြီးတော့ အဲဒ့ီတဲကြီးကို တကသလို့ သမုတ်လိုက်ကြတယ်။ မလုပ်တာကြာပြီဖြစ်တဲ့ တပ်ဦးညီလာခံကို အဲဒီတဲကြီးထဲမှာလုပ်တယ်။ ရှစ်ကြိမ်မြောက် တပ်ဦးညီလာခံဖြစ်တယ်။ တကသ ရွေးကောက်ပွဲ လုပ်တယ်။ ကိုဗဆွေလေးက ရွေးကောက်ပွဲအရာရှိ လုပ်တယ်။ အဲဒီအချိန်မှာ ကိုဗဆွေလေးက ပြန်လွတ်လာပြီ။ တကသ ရွေးကောက်ပွဲလုပ်ပြီး နောက်တက်လာမယ့် အမှုဆောင်အဖွဲ့ကို အာဏာလွှဲဖို့စီစဉ်နေတဲ့အချိန်မှာပဲ ပြည်တွင်းငြိမ်းချမ်းရေး ဆွေးနွေးပွဲဖြစ်တယ်။ အဲဒီ မတိုင်ခင် မှာပဲ အရေးပါတဲ့ကိစ္စနှစ်ခုကို လုပ်ခဲ့တယ်။ တကသတဲကြီးနဲ့ ဇူလိုင် ၇ ရက် အရေးတော်ပုံကျောက်တိုင် စိုက်ထူတာ ဖြစ်တယ်။ ကျောက်တိုင်အောက်ခြေရင်ပြင်ကနေ အစွန်အထိက (၆၂) လက်မ၊ ကျောက်တိုင်အမြင့်က (၇)ပေ၊ ကျောက်တိုင်ရဲ့ထိပ်အခုံးက (၇)လက်မ၊ ၇ ရက် ၇ လ ၆၂ ဆိုတဲ့ အထိမ်းအမှတ်နဲ့ ဆောက်လုပ်တာဖြစ်တယ်။ ပြည်တွင်းငြိမ်းချမ်းရေး ဆွေးနွေးပွဲပျက်ပြီးနောက်မှာ တကသလည်း ဒုတိယအကြိမ် ဖြိုဖျက်ခံရတယ်။ အရေးတော်ပုံ ကျောက်တိုင်ကိုလဲ ဖြိုဖျက်ပြီး ဘူဒိုဇာနဲ့ ထိုးကော်သွားတယ်။ ပြည်တွင်းငြိမ်းချမ်းရေး ဆွေးနွေးပွဲပျက်တာကို အလုပ်သမားထုက ထောက်ခံတယ်ဆိုပြီး သမိုင်းမှာ ထောက်ခံပွဲကြီးကို အစိုးရကလုပ်တယ်။ အဲဒ့ီ ထောက်ခံပွဲက ပြန်လာတဲ့ အလုပ်သမားတွေကို ဟီးနိုးကားကြီးနဲ့တင်လာတယ်။ သမိုင်းကနေပြန်လာတဲ့ အဲဒီကားတွေဟာ ကမာရွတ်ရဲစခန်းဘေးက ဝင်ပြီး တက္ကသိုလ်ထဲကို ဖြတ်တဲ့အချိန်မှာ ကြွေးကြော်သံတွေအော်ကြတယ်။ အဲဒီအချိန်မှာ တက္ကသိုလ်ကျောင်းသားတွေဟာ ကားတွေပေါ်ကိုတက်ပြီးတော့ အလုပ်သမားတွေကို တရားဟောတယ်။ အဲဒီလို တရားဟောတော့ ကားပေါ်ကနေဆွဲချတယ်၊ ရုန်းရင်းဆန်ခတ်တွေဖြစ်ကြတယ်။ ဒါကို တက္ကသိုလ်ထဲမှာ ဆန္ဒပြတယ်ဆိုပြီးတော့ တက္ကသိုလ်ကြီးကို ပိတ်လိုက်တယ်။ အဲဒီမှာ ကျောင်းသားတွေက သပိတ်မှောက်ကြတယ်။ အရင်တုန်းက သပိတ်မှောက်တယ်ဆိုတာ ကျောင်းမတက်တာကိုပြောတာ။ သည် ဒီဇင်ဘာတိုက်ပွဲကျတော့ ကျောင်းပိတ်တာကို မတရားပိတ်တယ်ဆိုပြီးတော့ မပြန်ရဘူးဆိုပြီး သပိတ်မှောက်ကြတယ်။ အဆောင်ကကျောင်းသားကျောင်းသူတွေလည်း အိမ်မပြန်နဲ့ဆိုပြီး သပိတ်မှောက်ကြတယ်။ အဲဒီတော့ အစိုးရကလည်း ရန်ကုန်တက္ကသိုလ်ကြီးကို ပိတ်လိုက်ပြီဆိုပြီးတော့ ကြေညာတယ်။ ကျွန်တော်တို့က ကျောင်းကိုမပိတ်ဘူးဆိုပြီး ကြေညာတယ်။

အဲဒီအတွက် ကျွန်တော်တို့က သပိတ်တားတယ်။ အဲဒီတုန်းက အသုံးအနှုန်းအရတော့ သပိတ်တားတယ်ပေါ့။ သပိတ်တားတယ်ဆိုတာ ကျွန်တော်တို့က သူတို့ကို အိမ်မပြန်ရအောင်တားတယ်။ အဲဒီအချိန်မှာ သူတို့ဖိအားပေးလို့ ဆရာတွေကနေပြီးတော့ အိမ်ပြန်ကြပါဆိုပြီး မေတ္တာရပ်ခံတယ်။ သွေးထွက်သံယိုတွေ ပဋိပက္ခတွေမဖြစ်ဖို့ အိမ်ပြန်ကြပါလို့ ပြောတယ်။ ကျွန်တော်တို့ကလည်း အိမ်မပြန်ဖို့ တရားတွေလိုက်ဟောကြ

တယ်။ ကျွန်တော်တို့ပြောတာ အောင်မြင်ပါတယ်။ အိမ်ပြန်ဖို့ပြင်ဆင်ထားတဲ့သူ တော်တော်များများ မပြန်ဖြစ်ကြတော့ဘူး။ ဒီဇင်ဘာ ၂၇ ရက်နေ့ညမှာ နောက်ဆုံးရာဇသံ ပေးတယ်။ ည ၁၂ နာရီမှာ တက္ကသိုလ်တံခါးတွေ အကုန်လုံးဖွင့်ရမယ်။ ကျွန်တော်တို့က တက္ကသိုလ်တံခါးတွေကို အကုန်ပိတ်ထားတယ်။ အဲဒီလို အခြေအနေဖြစ်နေတဲ့အခါကျတော့ ကျွန်တော်တို့က တိုက်ပွဲကော်မတီဖွဲ့တယ်။ ပင်းယဆောင် အခန်းနံပါတ် (၅၃) ကျွန်တော့်အခန်းထဲမှာ ဖွဲ့တာ။

## ဦးလှရွှေ

မပြန်ဖို့ ဆုံးဖြတ်လိုက်တဲ့ အခါကျတော့ ယောက်ျားလေးတွေက ပြဿနာမရှိပေမဲ့ မိန်းကလေးတွေက ပြဿနာရှိတယ်။ ရေဖြတ်၊ မီးဖြတ် ဖြတ်လိုက်တဲ့အခါကျတော့ မိန်းကလေးတွေအတွက် အခက်အခဲဖြစ်တယ်။ ပထမကျွန်တော်တို့က တင်းခံနေသေးတယ်။ မိန်းကလေးတွေကလည်း တော်တော်တင်းခံပါသေးတယ်။ ဒါပေမဲ့ အဲဒီလို နောက်ဆုံး ရာဇသံပေးလာတော့ ကျွန်တော်တို့က မိန်းကလေးတွေကို အရင်ပြန်ခိုင်းတယ်။ နင်တို့ပြန်မှ ဖြစ်မယ်ဆိုပြီး ဖျောင်းဖျရတယ်။ ဘာဖြစ်လို့ဆိုတော့ အဆောင်ဆိုလည်း မီးဖြတ်လိုက်ပြီ၊ ထမင်းလည်း မကျွေးတော့ဘူး။ ယောက်ျားလေးတွေက လှည်းတန်းဘက် ငှက်ပျောသီးစား ဘာစား လုပ်လို့ရတယ်။ မိန်းကလေးတွေအတွက်က အဆင်မပြေဘူး။ သူတို့ကလည်း မပြန်ဘူးဆိုပြီး ဇွတ်လုပ်နေတော့ သူတို့ကို အကျိုးအကြောင်းပြောပြရတယ်။ ကျောင်းပိတ်တာကို မပြန်ဘူးဆိုတာဟာ အမှန်တော့ ကျွန်တော်တို့က အာဏာဖီဆန်ရေးလုပ်တာပဲ။ တက္ကသိုလ် ပိတ်တာကို ကန့်ကွက်တာပဲ။ ဒီဥစ္စာလုပ်တာဟာ လုပ်လို့မရဘူးဆိုတာ ကျွန်တော်တို့ နဂိုကတည်းကသိတယ်။ ဒါပေမဲ့ ကျွန်တော်တို့ လုပ်ပြဖို့လိုတယ်။ ဒါပေမဲ့ ပြဿနာကိုစဉ်းစားတဲ့အခါကျတော့ မိန်းကလေးတွေက သုံးရက်လောက် ရေမချိုးရရင် အဆင်မပြေဘူး။ သူတို့ကျန်းမာရေးကိစ္စတွေ ရှိသေးတယ်။ ဒါပေမဲ့ သူတို့ကလည်း တင်းခံနေတယ်။ ငါတို့ကကိစ္စမရှိဘူး နင်တို့ပြန်ကြပါဆိုပြီးတော့ အတင်းပြန်လွှတ်ရတယ်။ မိန်းကလေးတွေကို ငှဲ့ညာပြီးတော့ သူတို့ကို သုံးရက်လောက် စောပြန်ခိုင်းတယ်။ မိဘတွေကလည်း ကားတွေဘာတွေလွှတ်ပြီး လာကြိုကြတယ်။ အဲဒီမှာ မိန်းကလေးတွေနဲ့ စစ်သားတွေ စကားတွေဘာတွေများကြတယ်။ ကျွန်တော်တို့က နောက်ဆုံးအစည်းအဝေး နိုဝင်ဘာ ၁၇ မှာ IUS Day လုပ်ပြီးတော့မှ တံခါးတွေဖွင့်ပေးလိုက်တယ်။ ဒါပေမဲ့ ကိုယ့်ဟာကိုယ် နောက်ဆုတ်ဖို့ ခက်နေကြတယ်။ ဒါနဲ့ ဆရာကြီးသခင်ကိုယ်တော်မှိုင်းကို ချဉ်းကပ်ပြီး မေတ္တာရပ်ခံချက် ထုတ်ခိုင်းရတယ်။ ဆရာကြီးရဲ့မေတ္တာရပ်ခံချက်ကို ဗိုလ်ချုပ်ကျော်စွာက လာဖတ်ပြတယ်။ ဆရာကြီးရေးတဲ့စာထဲမှာ သူ့ထုံးစံအတိုင်း မင်းတို့လူကြီးတွေနဲ့ ယှဉ်မမိုက်နဲ့ဆိုတာမျိုးပါတယ်။ အဲဒီလိုနဲ့ ကျွန်တော်တို့ ထွက်ခဲ့ကြတယ်။ အဲဒီအချိန်မှာ ငြိမ်းချမ်းရေးဆွေးနွေးပွဲပျက်ပြီး ဖမ်းတာဆီးတာတွေစတင်တယ်။ တပြည်လုံးမှာ ဖမ်းတယ်။ ရန်ကုန်မှာလည်း နှစ်ထောင်၊ သုံးထောင်လောက် အဖမ်းခံရတယ်။ နောက်ဆုံးမှာ ကျွန်တော်တို့ ငါးယောက် ပင်းယဆောင်ရှေ့ကနေ ပြီးတော့ စီးပွားရေးတက္ကသိုလ် ခြံစည်းရိုးကို ကျော်ပြီးတော့ ထွက်လဲထွက် ပြေးလဲပြေးပေါ့။ ဘာဖြစ်လို့လဲဆိုရင် သူတို့က ဖမ်းတော့မှာ သေချာနေတယ်။ ကိုလှကြည်၊ ကိုမြင့်ဖေ၊ ကိုစိုးသိန်း၊ ကိုစိုးဝင်း(လူထုဒေါ်အမာသား)နဲ့ ကျွန်တော်ပေါ့။ အဖမ်းမခံဘူးဆိုပြီးထွက်ပြေးကြတယ်။ တံတားဖြူနားမှာရှိတဲ့ ကိုစိုးဝင်းသူငယ်ချင်းရဲ့ ဘော်ဒါ ဆောင်မှာ တညအိပ်ကြပြီး နောက်နေ့မှာ လူစုခွဲကြတယ်။ အများစုက တောခိုသွားကြတယ်။ ၇ ဇူလိုင်နဲ့ ပတ်သက် တဲ့ ကျွန်တော့်ရဲ့ သဘောထားကတော့ ၇ ဇူလိုင်အတွက် စုံစမ်းရေးကော်မရှင် ဖွဲ့စေချင်တယ်။ တက္ကသိုလ် သမဂ္ဂအဆောက်အဦကို ပြန်ဆောက်စေချင်တယ်။ ပြန်ဆောက်တဲ့နေရာမှာ မူလဒီဇိုင်းအတိုင်း ဆောက်စေချင်တယ်။ ဆောက်ပြီးတော့ အဲဒီနေရာကို မြန်မာနိုင်ငံကျောင်းသားလှုပ်ရှားမှုသမိုင်းပြတိုက် အဖြစ်ထားတာပဲ ဖြစ်စေချင်တယ်။ ၇ ဇူလိုင် ကျောက်တိုင်ကို ပြန်စိုက်စေချင်တယ်။ အဓိကကတော့ ၇ ဇူလိုင်ကို ဂုဏ်ပြုဖို့နဲ့ အမှတ်ရနေဖို့ပါပဲ။ ကျွန်တော့်သဘောအရဆိုရင် စုံစမ်းရေးကော်မရှင်ဖွဲ့ပါ။ နောင် ဒီလိုမျိုးအဖြစ်အပျက်တွေ မ

ဖြစ်ပျက်ဖို့ပါပဲ။

## ဦးတင်အေး(မြင်းခြံ)

၁၉၆၂ ခု ဆဲဗင်းဂျူလိုင်အရေးတော်ပုံနဲ့ပတ်သက်ပြီး ပြောရမယ်ဆိုရင် ကျွန်တော်တို့ အကြိမ်ကြိမ်လည်း ပြောခဲ့ပါတယ်။ အနှစ်ချုပ်ပြောရမယ်။ ခေါင်းစီးကြီး ၂ ခု နဲ့ ပြောလိုက်ရင် မြုံငုံမိမယ်ထင်တာပဲ။ ဒါက ဘာလဲဆို ရင် ၆၂ ဂျူလိုင် ဘာကြောင့်ဖြစ်လာတုန်း။ နောက် ဒီ ဖြစ်ရပ်အပေါ်မှာ ဘာတွေ ဆက်လုပ်ကြမတုန်းဆိုတာ။ ဒီ ဘာကြောင့်ဖြစ်သလဲဆိုတာမှာ ပြောမယ်ဆိုရင်တော့ သူ့ရဲ့ဖြစ်စဉ်ကို ကျွန်တော်တို့ လိုရင်းတိုရှင်းနဲ့ ရောက် အောင် ဖြေရမှာဖြစ်တယ်။ အဲဒီလိုပဲ ခံစားမိပါတယ်။ ဒါကလည်း ဘာလဲဆိုရင် ဒီအဖြစ်အပျက်မှာ ၂ ဆင့်ရှိ တယ်။ ဇူလိုင် ၆ ရက်နေ့ည၊ ၇ ရက်နေ့ အရေးအခင်းရဲ့ ဒီနောက် နောက်ဆက်တွဲ အဖြစ်အပျက်အနေနဲ့ ၈ ရက် နေ့မှာ တ. က. သ အဆောက်အဦကြီး ဖြိုချတယ်ဆိုတာ အဖြစ်အပျက် ၃ ခု ရှိမှာပေါ့။ ဒီဥစ္စာက တချို့ သက်ရှိ ထင်ရှား ရှိနေကြတဲ့ ရဲဘော်တွေမှာ တချို့က ညီညွတ် ပြီ၊ တချို့က မညီညွတ်ဖြစ်နေပါတယ်။ ကျွန်တော့် အနေနဲ့ ပြန်ပြောချင်တာကတော့ အဲဒီအဖြစ်အပျက် ၃ ရပ်စလုံးရဲ့ အစကနေအဆုံး ဖြစ်လိုက်တဲ့ ဇရိယာထဲမှာ အစအဆုံးရှိခဲ့တဲ့ မြင်လိုက်တဲ့လူပေါ့လေ။ ကျွန်တော် တွေ့ခဲ့တဲ့ဥစ္စာကို အမှန်အတိုင်းပြောမှာဖြစ်ပါတယ်။

ပထမဆုံး ဘာကြောင့်ဖြစ်သလဲဆိုတာ အားလုံး သိပြီးသားပေါ့။ ၁၉၆၂ မတ်လ ၂ ရက်နေ့မှာ ဗိုလ်နေ ဝင်း အစိုးရက အာဏာသိမ်းလိုက်တယ်။ ဒီအထဲက ကျွန်တော်တို့ကျောင်းသားတွေက စစ်အာဏာသိမ်း မှု ဖြစ်ထွန်းခါစ ဗမာပြည်ရဲ့ ပါလီမန်ဒီမိုကရေစီစနစ် ကို ရိုက်ချိုးလိုက်တာဖြစ်တယ်ဆိုပြီး ဘယ်အဖွဲ့အစည်း တွေမှ လှုပ်ရှားမှုမပြုခင် ကျောင်းသားတွေအနေနဲ့ ကျောင်းသားသမဂ္ဂအနေနဲ့ ဒါဟာ စစ်အာဏာသိမ်း မှုဖြစ်တယ်။ ဒီမိုကရေစီ မိုးမှောင်ကျမှု ဖြစ်တယ် လို့ ပြည်သူလူထုကို ပွင့်ပွင့်လင်းလင်း တိုင်တည်ဖြစ် ပါတယ်။ မတ်လမှာ အာဏာသိမ်းပြီး ဇူလိုင်လမှာ အရေးအခင်းဖြစ်၊ ၃ လ ကျော်ကျော်၊ အတိအကျ ၃ လနဲ့ ၅ ရက်မြောက်နေ့မှာ ဖြစ်တာပါ။ ဒီလိုဖြစ်ပွားရ တဲ့ လတ်တလောအကြောင်းအချက်တွေ၊ နောက်ခံ အကြောင်းအချက်တွေ ရှိပါတယ်။ ပြည်သူကို ဖိနှိပ်လာ မယ်။

ပြည်သူတွေကို ဆန့်ကျင်လာမယ်ဆိုရင် ပြည်သူထဲ ကမွေးဖွားလာတဲ့ ကျောင်းသားသမဂ္ဂက အရင်ဆုံး ဆန့်ကျင်ကန့် ကွက်ဆန္ဒပြတာဟာ အစဉ်သဖြင့်ပါပဲ။ တက္ကသိုလ်အက်ဥပဒေကို ဖျက်၊ ကျောင်းဆောင်တွေကို စစ်အချုပ် တန်းလျားတွေလိုလုပ်၊ ည ၈ နာရီ ဆိုတာနဲ့ အဆောင်သံတံခါးတွေ ပိတ်၊ ထောင်လိုလုပ်ခဲ့ကြတယ်။ အဲဒီအချိန် က ရန်ကုန်တက္ကသိုလ်ဆိုတာ နိုင်ငံတကာ အဆင့်ရှိ တက္ကသိုလ်ဖြစ်ပြီး တက္ကသိုလ်ကျောင်းသား တွေဟာလည်း ကိုယ့်ကိုယ်ကို ထိန်းသိမ်းနိုင်သူတွေ ဖြစ် ပါတယ်။ ကျောင်းသင်ခန်းစာသာမက ကျောင်းပရဝုဏ် က လူမှုဗေဒတွေကို လွတ်လွတ်လပ်လပ် လေ့လာ ကြတယ်။ ဒါဟာ Academic Freedom (ပညာရေး လွတ်လပ်ခွင့်)ပါပဲ။

ည ၈ နာရီကနေ မနက် ၆ နာရီအထိ မထွက်ရ။ လက်ဖက်ရည်တောင် ထွက်သောက်ဖို့ အဆင်မပြေ။ ဇူလိုင် ၆ ရက်ညမှာ အဆောင်ပေါင်းစုံက ရာထောင်ချီ တဲ့ ကျောင်းသားတွေဟာ အဆောင်တံခါးတွေရိုက်ချိုး။ တချို့မီးတုတ်တွေနဲ့ကျောင်းသားတွေ ကျောင်းထဲလှည့် တယ်။ အဓိပတိလမ်းမှတစ်ဆင့် တက္ကသိုလ်အဓိပတိ ဦးကာရဲ့ အိမ်ရှေ့မှာ ဆန္ဒပြပြီး “စစ်အာဏာရှင် အလို မရှိ”၊ “ဖိနှိပ်ချုပ်ချယ်မှုတွေ အလိုမရှိ”၊ “ကျောင်းသား အခွင့်အရေး ပြန်ပေး” စတဲ့ ကြွေးကြော်ခဲ့တယ်။ ဒီဆန္ဒ ပြမှုတွေကို ကျောင်းသားတပ်ဦးခေါင်းဆောင်တွေက ဦးဆောင်ပြီး ထိန်းထိန်းသိမ်းသိမ်းနဲ့ ငြိမ်းချမ်းစွာဆန္ဒပြ ခဲ့တယ်။

ဇူလိုင် ၇ ရက်နေ့မှာ တ. က. သ က ကြိုတင် ကြေညာထားတဲ့အတိုင်း နေ့လည် ၁၁ နာရီမှာ ဗ.က.သ က ကိုသက်၊ တ.က.သ က ကိုဗဆွေလေးတို့ ခေါင်းဆောင်ပြီး ကျောင်းသားထု ဟောပြောပွဲ၊ ဆန္ဒပြပွဲ၊ လူထု အခွင့်အရေးတောင်းဆိုတဲ့ အစည်းအဝေးပွဲတွေ ပြုလုပ်ခဲ့တယ်။ အစည်းအဝေးအပြီး ၂ နာရီလောက် အကြာ၊ နာရီပြန်တချက် လူစုမကွဲတကွဲမှာ အနောက် ဘက်မှာတချို့၊ ဘေးဘက်မှာတချို့ စစ်ကားတွေ

မောင်းဝင်လာပြီး ကျောင်းသားခေါင်းဆောင်တွေကို ဖမ်းပါတယ်။ ကျောင်းသားတွေက ပြန်လုကြပြီး "ကျောင်းသားခေါင်းဆောင်တွေ ကို လွှတ်ပေး။ မဖမ်းကြနဲ့" လို့ ကြွေးကြော်ကြတယ်။ ငြိမ်းမလိုလိုဖြစ်နေတဲ့ ကျောင်းသားဆန္ဒပြပွဲကြီးဟာ ဆက်လက်ဖြစ်ပွားပြီး "ဖိနှိပ်ချုပ်ချယ်မှု အလိုမရှိ" ဆိုတဲ့ ကြွေးကြော်သံနဲ့ ဆက်လက်ဖြစ်ပွားတယ်။ ညနေ ၆ နာရီမှာ လုံထိန်းတွေက ဝင်ပစ်ပြီး တက္ကသိုလ်ရင်ပြင်မှာ သွေးချင်းချင်းနီခဲ့တယ်။ ဘာလက်နက်မှမရှိတဲ့ ကျောင်းသားတွေကို တိုက်ပွဲတပွဲတိုက်သလို စစ်ဆင်ရေးတရပ်လို ရက်ရက်စက်စက်ချေမှုန်းခဲ့တယ်။

မြင်ရတဲ့မြင်ကွင်းက အများပြည်သူစိတ်မှာ အတော်လေး ခံစားရပါတယ်။ နေရာတင် ပွဲချင်းပြီးသေသူ တွေရှိသလို မသေမရှင်လူတွေလည်း ရှိတယ်။ အဲဒီအချိန်မှာ အဓိပတိလမ်းမကြီးရဲ့ မိန်းတံခါးကြီးကို ဖောက်ထွင်းပြီး စစ်ထရပ်ကား သုံး၊ လေးစီး ဝင်လာပြီး သေနေတဲ့လူတွေရော၊ မသေမရှင်ဖြစ်နေတဲ့သူတွေပါ သယ်ဆောင်သွားပြီး အလောင်းဖျောက်ဖျက်ဖို့ လုပ်ပါတယ်။ ဒီလိုနဲ့ ညနေမှောင်ရီပျိုးလည်းရောက်ရော စစ်တပ်တစ်တပ်လုံး တက္ကသိုလ်ပရဝုဏ်ထဲ ဝင်လာပြီး ကာနယ်အဆင့်ရှိသူတွေက ဘာကြေညာလဲဆိုတော့ "ဒီည အဆောင်တွေအားလုံးကို ရေမီးဖြတ်တယ်၊ အစာဖြတ်တယ်၊ ည အပြင်မထွက်ရ (မာရှယ်လောသဘောမျိုး)၊ ငြိမ်ဝပ်စွာ နေရမယ်"လို့ အမိန့် ထုတ်တယ်။ အဲဒီညမှာ ကျောင်းသားတွေ အစာပြတ်လပ်မှုဒဏ်ရော၊ ညနေက ပင်ပန်းတဲ့ဒဏ်တွေကြောင့် အိပ်ပျော်နေတုန်းအချိန်၊ အရုဏ်ဦးအချိန်လောက်မှာ တစ်မြို့လုံးနီးပါး တုန်ခါသွားတဲ့အသံကြီး ပေါ်ထွက်လာတာ ကြားရလို့ ကြည့်လိုက်တဲ့အချိန်မှာ အမျိုးသားလွတ်မြောက်ရေး၊ နယ်ချဲ့ဆန့်ကျင်ရေး တိုက်ပွဲတွေမှာ ကျောင်းသား ခေါင်းဆောင်တွေအဖြစ် ကိုအောင်ဆန်း၊ ကိုဗဟိန်းတို့ကို မွေးထုတ်ပေးခဲ့တဲ့ ဒီ သမဂ္ဂအဆောက်အဦကြီးဟာ မြေပုံဖြစ်သွားပြီးတော့ သံယက်မ၊ သံဒိုင်းတွေသာ ကျန်ရစ်ပြီးတော့ ငုတ်ရယ်လို့ တစ်ငုတ်မှရှာမရအောင် ပျက်စီးသွားခဲ့တယ်။ ဒါ ၈ ရက်နေ့မနက်ရဲ့ နောက်ဆုံးဖြစ်စဉ်ပဲ။ အဲဒီတော့ ပြန်ပြီးချုပ်ရမယ်ဆိုရင် ဖိနှိပ်မှုကိုဆန့်ကျင်တဲ့တိုက်ပွဲ ကြောင့်ဖြစ်တာပဲ။ ၇ ရက်နေ့ညနေမှာ ကျောင်းသားရာကျော် အသတ်ခံရ၊ ညမှာ ကျောင်းကို မီးဖြတ်၊ ရေဖြတ်၊ အစာဖြတ်ခံရပြီး စစ်တလင်းမြေလို လုပ်တယ်။ ၈ ရက်နေ့ အရုဏ်ဦးမှာ တက္ကသိုလ်သမဂ္ဂအဆောက်အအုံကို ဖြိုချဖျက်ဆီးတယ်။ ၁၉၆၂ ဇူလိုင် ၇ ရက်နေ့ အရေးတော်ပုံရဲ့ ဖြစ်ပျက်မှုပဲဖြစ်ပါတယ်။ အဲဒီအဖြစ်အပျက်ကို အဲဒီနေရာမှာပဲ ရပ်ထားမယ်ဆိုရင် ဒါဟာ ဇာတ်ကြောင်းပြန်ပြောကြားချက် သက်သက်ပဲဖြစ်ပါတယ်။ ဒါကြောင့် ကျွန်တော်ပြောခဲ့သလိုပဲ ဘာကြောင့် ဖြစ်သလဲဆိုတဲ့ အပိုင်းကတော့ ပြီးပါပြီ။ ဘယ်လိုဆက်လုပ်ကြမလဲဆိုတဲ့အပိုင်းက အရေးကြီးမယ်ထင်ပါတယ်။ သမဂ္ဂပျက်ပြီးနောက် ကျနော်တို့ ဘာတွေလုပ်ကြမလဲ။ အလောင်းတွေရာကျော် မြင်တွေ့ ရသော်ငြားလည်း စိတ်ဓာတ်ခြောက်ချားမှုမရှိဘဲ သမိုင်းဝင်၊ သမိုင်းတန်ဖိုး မဖြတ်နိုင်တဲ့ တ. က. သ အဆောက်အဦကြီး ဖြိုပျက်သွားပြီဆိုတဲ့ အခါကျတော့ စိတ်မှာ ယူကျုံးမရဖြစ်ကြတာပေါ့။ ဒါနဲ့ ရှေ့မှာ ဘာဆက်လုပ်မလဲဆိုတော့ ကျွန်တော်တို့ ဒီနေ့ခေတ်မှာ ခေတ်စားနေတဲ့ forgive ခွင့်လွှတ်နဲ့ forget မေ့ဖျောက်ပေါ့။ forgive နဲ့ပတ်သက်လို့ ခွင့်လွှတ်ပါဆိုတာကတော့ ဘယ်သူတရားခံ ဘယ်သူကဖျက်ခိုင်းလို့ ဖျက်၊ ဘယ်သူကသတ်ခိုင်းလို့ သတ်ဆိုတာ သမိုင်းမှာ အထင်အရှား ရှိပြီးသားဖြစ်တယ်။ ဒီနေ့အထိ ကျနော်တို့ ကျောင်းသားတွေဟာ လူငယ်တွေဖြစ်ပြီး အုပ်ချုပ်ရက်စက်သတ်ဖြတ်တဲ့ သူတွေက လူကြီးတွေဖြစ်ပြီးတော့ ပြီးခဲ့တဲ့ကိစ္စတွေကို ပြန်လည်ပြီး သူတို့ပြောတဲ့ 'ခါး ခါးချင်း၊ လုံ လုံချင်း' ဆို တဲ့ လူမိုက်ဆန်ဆန် စိန်ခေါ်မှုမျိုး မလုပ်တော့ဘူးဆိုရင်တော့ ခွင့်လွှတ်တယ်။ ဒါဟာ ဒီနေ့ ဗမာပြည်မှာ ဖြစ်နေတဲ့ နိုင်ငံရေးပကတိရုပ် အခြေအနေအရ အမျိုးသားပြန်လည်သင့်မြတ်ရေးကို ကျနော်တို့ သဘောထားကြီးစွာနဲ့ တချိန်က တရားခံတွေကို ပြန်လည်ကလဲ့စားမချေတော့တာပဲဖြစ်ပါတယ်။ သို့သော်လည်း forget မေ့ပစ်ရမယ် ဆိုတာ ကတော့ လုံးဝမဖြစ်နိုင်တဲ့ကိစ္စပါ။ မေ့ပစ်တယ်ဆိုတာက ဒီသမိုင်းကို မေ့ပစ်လိုက်ရမယ်။ ဆရာဒေါက်တာသန်းထွန်း ပြောသလို သမိုင်းကို ဘာကြောင့်သင်သလဲဆိုရင် မ,အ အောင်လို့ပေါ့။ ဒီအဓိပ္ပာယ်အတိုင်း

ပဲ ကျွန်တော်တို့ ဒီ သမိုင်းကို မေ့ဖျောက်ပစ်မယ်ဆိုရင် ကျွန်တော်တို့လောက် အ,တဲ့၊ ကျွန်တော်တို့လောက် န,တဲ့လူ ရှိတော့မှာ မဟုတ် ပါဘူး။ ဒါကြောင့် မေ့တာကတော့ ကမ္ဘာတိုင်သည်အထိ ဘယ်တော့မှ မေ့တော့မှာမဟုတ်ပါဘူး။ မေ့လို့ရမှာ မဟုတ်တဲ့ အဖြစ်အပျက်ပါပဲ။ ဒီအဖြစ်အပျက်ကို အစမှအဆုံးထိ ပါဝင်ခဲ့သူတစ်ယောက်အနေနဲ့ ဒီကိစ္စဟာ မေ့စရာကိစ္စမဟုတ်ဘူး၊ ဒီကိစ္စဟာ မေ့ကောင်းစရာကိစ္စ မဟုတ်သလိုဘဲ သမိုင်းရဲ့တန်ဖိုးမသိတဲ့သူတွေက ဖျက်ဆီး ပစ်ခဲ့တာကို သမိုင်းတန်ဖိုးသိတဲ့ပြည်သူတွေနဲ့ ကျောင်းသားတွေက ဒီ သမိုင်းပေးတာဝန်ကို ကျေပွန်အောင် ပြန်လည် ပြီးတော့ တ. က. သတွေ၊ ဗ. က. သ တွေနဲ့ ကျောင်းသားသမဂ္ဂအဆောက်အအုံကြီး ပြန်လည်ပေါ်ပေါက်ရေးကို ဖောက်ချလုပ်ရမယ့် သမိုင်းပေးတာဝန်လို့ ကျွန်တော်ခံယူပါတယ်။ ကျွန်တော်တစ်ဦးတည်းဆန္ဒနဲ့ ပြောရရင် တကယ်လို့ တစ်နေ့မှာ သမဂ္ဂအဆောက်အအုံကို ဗ.က.သ ရဲဘော်တွေက ပြန်ဆောက်မယ်ဆိုရင် ဒါဟာ တည်ကိုတည်ဆောက်ရမယ့်ကိစ္စဖြစ်တယ်။ အဲလိုတည်ဆောက်ပြီဆိုရင် မဆလခေတ်က ဒေါက်တာမောင်မောင်တို့ပြောခဲ့တဲ့ ရွှေအုတ်ကြီးတွေနဲ့ ပန္နက်ချပြီး၊ အုတ်မြစ်ချပြီး ဆောက်ပါမယ်ဆိုတဲ့ စကားသံတွေ၊ နိုင်ငံတော်အစိုးရက ပြန်ဆောက်ပေးပါမယ်ဆိုတဲ့ ကတိခံဝန်ချက်တွေ ကြားခဲ့ရဖူးတယ်။ ဒါပေမဲ့ အဲဒီဟာတွေဟာ ကျွန်တော်တို့ လိုအပ်ချက်တွေ မဟုတ်ပါဘူး။ ကျွန်တော်တို့လိုချင်တဲ့ အဆောက်အအုံဟာ နယ်ချဲ့လွတ်မြောက်ရေးသမိုင်း၊ အမျိုးသားလွတ်မြောက်ရေးသမိုင်း၊ နယ်ချဲ့ဆန့်ကျင်ရေးသမိုင်း . . . ဒီသမိုင်းအစဉ်အလာတစ်လျှောက်လုံး တိုက်ပွဲ ဝင်လာကြတဲ့ သမိုင်းဝင်ရဲဘော်တွေရဲ့ ခိုကိုးရာ ဒီအဆောက်အအုံကြီးထဲမှာ မမြင်နိုင်တဲ့ သမိုင်းအမွေအနှစ်တန်ဖိုး တွေဟာ အများကြီးပါပဲ။ ဒီလို အဆောက်အအုံကြီးကို ပြန်ဆောက်ပြီဆိုရင် ကျွန်တော်တို့တွေ ပြန်ဆောက်တယ်ဆိုတဲ့နေရာမှာလည်း ဘယ်လိုပင်တတ်နိုင်သော်ငြားလည်း ဒီခေတ်က ၂၁ ရာစု နည်းပညာခေတ်ဖြစ်လို့ ပိုပြီး ကြီးကျယ်ခမ်းနားတဲ့ အဆောက်အအုံကြီးဆောက်ချင်သော်ငြားလည်း မူလက ဒေါက်တာဦးညို လျာထားတဲ့အတိုင်း တသွေမတိမ်း၊ ပုံစံအတိုင်း ပြန်ဆောက်ဖို့လိုပါတယ်။ အထဲမှာ ကြိုက်သလိုမွမ်းမံလို့ရပါတယ်။ ဒါဟာ လိုလည်းလို အပ်ပါတယ်။ ပုံစံအနေနဲ့ကတော့ အရင်ပုံစံနဲ့တူဖို့လိုပါတယ်။ မတူရင် သမိုင်းကို တနည်းနည်းနဲ့ လိမ်ညာလှည့်ဖြားတာပါပဲ။ ပုံစံတူပြန်ဆောက်ကြဖို့ လိုမယ်ထင်ပါတယ်။ နိဂုံးချုပ်အနေနဲ့ ကျွန်တော်တို့တစ်တွေဟာ အလွန် နာကျင်ကြေကွဲစရာကောင်းတဲ့၊ မေ့မရနိုင်တဲ့ အရေးတော်ပုံကြီးနဲ့ ကြုံခဲ့ပါတယ်။ ဒီအရေးတော်ပုံကြီးဟာ အုပ်စိုးသူ လူတန်းစားတွေရဲ့ ကျောင်းသားတွေအပေါ် အတော့်ကို မုန်းတီးရက်စက်တဲ့ အာဃာတကြီးတဲ့ လုပ်ရပ်ပဲဖြစ်တယ်။ အဆောက်အဦဖြိုဖျက်ခံရတဲ့ကိစ္စကတော့ သမိုင်းတန်ဖိုး န,ကန်းတစ်လုံးမှမသိဘဲ မိုက်ရိုင်းစွာဖျက်ဆီးခဲ့တဲ့ ဖျက်ဆီးမှုကြီးတစ်ခုဖြစ်တဲ့အတွက် ဒီကိစ္စမှာတော့ ကျွန်တော်တို့ New Generation ဆိုတဲ့ မျိုးဆက်သစ်တွေဟာ မလွဲမသွေ ကျောင်းသားသမဂ္ဂနဲ့ တစ်ချိန်က ကျောင်းသားသမဂ္ဂအဆောက်အအုံကြီးကို ပြန်လည်ပေါ်ပေါက်အောင် ကြိုးပမ်းကြပါလို့ မေတ္တာရပ်ခံချင်ပါတယ်။

**ဝင်းထွဋ်ဇော်**

(ဇူလိုင် ၇ နှစ် ၅၀ ပြည့်မှ —)

# မေ့၍မရသော နေ့ရက်များ

"ခဏလိုက်ခဲ့ပါဦးဗျာ"

"ဗျာ"

"ခဏလောက်လိုက်ခဲ့ပါ အပြင်မှာ ဗိုလ်ကြီး လည်းပါပါတယ်"

သိပြီ ကျွန်တော်ကောင်းကောင်းကြီးသိပြီ ခဏ လိုက်ခဲ့ပါဦး ဟူသော ဖိတ်ခေါ်ချက်မျိုးကို ယခင့် ယခင် အချိန်များကလည်း ကျွန်တော် တွေ့ဖူး၊ ကြုံဖူး၊ သိခဲ့ဖူး ပြီ မဟုတ်ပါလား။

ကျွန်တော်၏ အလုပ်တာဝန် အယ်ဒီတာ အလုပ် စားပွဲမှ ထလိုက်ရင်း ချိတ်ထားသော အင်္ကျီကို ယူ၍ဝတ် လိုက်၏၊ သတင်းစာတိုက်မှ ညအလုပ်သမားအားလုံးက လည်း ကျွန်တော်နှင့် ကျွန်တော့်အား သတင်းစာတိုက် အရောက် တကူးတက လာရောက် ဖိတ်ခေါ်သူ သုံး ဦးကို မျက်တောင်မခတ် စူးစိုက်၍ ကြည့်နေကြသည်၊ တချို့က တီးတိုး တီးတိုး တချို့ကမူ ငြိမ်ငြိမ်သက်သက်၊ မလှုပ်မယှက်။

လာရောက် ဖိတ်ခေါ်သူတို့၏ ကားဖြင့် စစ် စုံစမ်းထောက်လှမ်းရေးရုံးသို့ ရောက်သွားသည်။ သုံး လေးခွန်းမျှသော မေးခွန်းတို့ကို ဖြေဆိုပြီးသည့်နောက် ကျွန်တော့်အား နန်းတွင်းသို့ ကားဖြင့်ပို့ပြန်သည်။

ကားပေါ်မှ ဆင်းလျှင်ဆင်းခြင်း ဗဟိုစံပြ စစ် အကျဉ်းထောင် ဟူသော ဆိုင်းဘုတ်က ကျွန်တော့်အား ကြိုဆိုနေသည်။ ကျွန်တော်က စစ်အကျဉ်းထောင်၏ အမှတ်တံဆိပ်ကို သေသေချာချာ ကြည့်လိုက်မိသည်။ တံဆိပ်ကလည်း သေ့သုံးချောင်းနှင့်မို့ ငါ့ယာယီခရီး ကြာများ ကြာဦးမှာလား ဟူသော အတွေးက ခေါင်း တွင်းပြေးဝင်လာသည်။

လေးဘက်လေးတန် သံဆူးကြိုး ဝိုင်းရံထား သော စစ်အကျဉ်းထောင်မှာ မီးမောင်းကြီးများ ထိုးထား သောကြောင့် ရှင်းရှင်းကြီး ထင်းထင်းကြီး မြင်ရသည်။ ထိုနေရာ ထိုဌာနသို့ ခြေချမိသည့် အချိန်ကား ၁၉၆၂-ခု ဇူလိုင်လ ၂၇-ရက် သောကြာနေ့ည ၁၀-နာရီ ၄၅ မိနစ် ဖြစ်သတည်း။

သူ့မှာ အိပ်ရာလိပ် မပါဘူးလို့ ပြောတယ်။ ဟို ထဲက ခြင်ထောင်နဲ့ အိပ်ရာပါတဲ့ လူတယောက်ယောက် အခန်းထဲမှာ ထည့်ထားလိုက်ပါဗျာ။

"ဟုတ်ကဲ့ဗိုလ်ကြီး"

ဝမ်းသာ၍သွားသည်။ တာဝန်ကျစစ်ဗိုလ်၏ ဂရုဏာကို စိတ်ထဲတွင် ကျေးဇူးတင်မဆုံးမိမှာပင်....

ကဲ ခင်ဗျားလိုက်ခဲ့။

ညတာဝန် ကင်းမှူး၏ ခေါ်ဆောင်မှုဖြင့် စစ် အကျဉ်းထောင်၏ အတွင်းပိုင်း အကျဉ်းခန်းသို့ ရောက် ခဲ့သည်။ အကျဉ်းခန်းများတွင် လူရှိဟန် ရှိသော်လည်း ငြိမ်သက်နေသည်။ တာဝန်ကျ ကင်းမှူး၏ သော့တွဲသံ နှင့် စစ်ဖိနပ်သံကြောင့် အခန်းတခန်းတွင်းမှ လှုပ်ရှားသံ ပေါ်လာသည်။

ဟေး အဖိုးကြီးလာပြီကွ ဝမ်းသာတယ်ဟေ ဝမ်းသာတယ်၊ ခင်ဗျားကြီးကို မျှော်နေတာ ကြာလှပြီ။

အချုပ်ခန်းတွင်းမှ အသံကြားလျှင် ကြားခြင်း ခင်မောင်ဝင်း အသံဖြစ်ကြောင်း ကောင်းကောင်းကြီး သိလိုက်သည်။ အဖမ်းခံကျောင်းသားများနှင့်အတူ နေရ မည်ကို သိလိုက်၍ ဝမ်းထဲတွင်ကား ပျော်သလိုလို....

ဘာကွ ခွေးမသား၊ မင်းတို့က ငါ့မျှော်နေတာ လ ခွီး ငါအော်ဆဲလိုက်ပြန်ရော့။

မျှော်နေတာပေါ့အဘရ၊ မျှော်သမှ သိပ်မျှော်။ ဒီ နေရာ ဒီဌာနကို အဘတယောက် မလွဲမသွေ ရောက်လာ ဦးမှာပဲလို့ စွဲစွဲမြဲမြဲယုံပြီးသား။

တော်စမ်းကွာ။ ငါ့မှာအိပ်ရာလိပ်လည်း မပါလာ ဘူး။ စောင်လေး၊ ခေါင်းအုံးလေး၊ ခြင်ထောင်လေး ငါ့ကို ခွဲပေးကြဦးကွာ။

ဘော်ဒါဆောင်သို့ အရင်ရောက်နှင့်ကြ သော ကျောင်းသားများထဲမှ တဦးက စောင်၊ တဦးက ခြင်ထောင်၊ တဦးက ခေါင်းအုံး၊ စုပေါင်း၍ပေးကြ၏။ သူ တို့ကတော့ ကျွန်တော် ရောက်၍ ပျော်ကြသည်၊ အော် ကြသည်။

ဝမ်းသာသဟေ့-ဒို့ဘော်ဒါဆောင် အဖိုးကြီးတ

ယောက် အလည်ရောက်ပြန်ပဟေ့....

ကြိုက်ပြီ–သိပ်ကြိုက်ပြီ။ လူတိုးလေ ပျော်လေကွ။

နက်ဖြန်....ထမင်းပိုစားကောင်းမယ်ဟေ့။

တယောက်တယောက် အော်၍ ပျော်၍ နေသူများ၏ အသံမဆုံးမှီမှာပင် တာဝန်ကျကင်းမှူးက ကျွန်တော့်အား အခန်းတခန်းအတွင်းသို့ သွင်း၍ အပြင်မှ သော့ခတ်ပြန်သွားသည်။ မှတ်မိသည်။ ထိုအခမ်း၏ နံပါတ်ကား အိပ် (ချ်) အခန်း....

** တယောက်တည်းရှိတာ အဆင်သင့်ပဲ။ ကုတင်ကလည်း နှစ်လုံးရှိပြီ။

ကျွန်တော်နှင့် တခန်းတည်းအတူနေရမည့်သူမှာ လူငယ်တပ်ဦးမှ ကိုမြသန်းဖြစ်သည်။ သူကပင် ကျွန်တော့် အိပ်ရာအတွက် ပြင်ဆင်ပေးသည်။

နေပါဦးဗျ။ ည တပိုတပါး အပြင်များသွားချင်တော့ ဘယ်လိုလုပ်တုန်း။ ဖွင့်ပေးလား။

ဘယ်ဖွင့်ပေးမလဲဗျ။ ဟိုမှာလေ ပုံး....ပုံး။

အဲဒီပုံးက ရှူးရှူးပေါက်ဖို့ပဲ မဟုတ်လားဗျ။

မဟုတ်ဘူး အဘိုးကြီးရေ။ အဲဒီပုံးက ရှူးရှူးလဲ ပေါက် အီအီးလဲယိုဖို့ဗျ ယိုဖို့။

ကိုမြသန်း မဖြေမီ လက်ဝဲဘက် အခန်းမှ ကသာဝင်းကြွယ် ခေါ် ခင်မောင်ဝင်းက ဖြေကြားလိုက်သည်။ ကျွန်တော့်နှာခေါင်းကမူ ခတ်ရှုံ့ရှုံ့။

အပြင်မှာ ဘာထူးသေးလဲ။

ကျွန်တော်တို့နောက် ဘယ်သူတွေဖမ်းသေးတုန်း။

အဘ သတင်းစာတိုက်က ဆွဲလာတာလား။ တက္ကသိုလ်ကျောင်းတွေ ရက်အကန့်အသတ်မရှိ ပိတ်ထားလိုက်ပြီဆို။

ဝဲဘက် အခန်းတွင်းမှ ကိုခင်မောင်ဝင်း၊ ကိုခင်မောင်ရီ၊ ကိုတင်ဝင်းတို့ကလည်းကောင်း၊ ယာဘက် အခန်းမှ ဆေးကျောင်းသား ကိုဖုံးနှင့် ကိုတင်ထွဋ်တို့ကလည်းကောင်း၊ မေးခွန်းပေါင်းသောင်းခြောက်ထောင်ဖြင့် ကျွန်တော့်အား ပါးစပ်စကက်သေနတ် ပစ်၍ မေးကြသည်။

မထူးဘူးဟေ့ မထူးဘူး ဘာမှ မထူးဘူးကွ....

ကျွန်တော်က ဒေါပွပွနှင့်ပြောချလိုက်ပြီးမှ ပြန်၍သတိရလိုက်သည်။ သြော် သူ့ခမျာများ အပြင်သတင်း သိလိုကြားလိုကြမှာပါကလား ဟူသောအသိက ကျွန်တော့်အား စိတ်ရှည်အောင် ပြုစားလိုက်သည်။

ဇူလိုင် (၇) ရက်နေ့ ညနေက ရန်ကုန်တက္ကသိုလ်မှာ ကျောင်းသားတွေနဲ့ လက်နက်ကိုင်တွေ ပဋိပက္ခဖြစ်တယ်လေ။

ဒါတော့သိတာပေါ့ အဘရ။ ဘယ်လောက်သေ ဘယ်လောက်ဒဏ်ရာရသလဲ....

သတင်းစာတွေထဲ ပါတာကတော့ ကျောင်းသား (၁၅) ယောက်သေတယ်၊ (၂၇) ယောက် ဒဏ်ရာရတယ်လို့ ပါတာပဲ....

အဲဒါလောက်တော့ ကိုဖိုးလာတုံးက ပြောလို့ကြားပြီးပြီ အဘရ....နောက်ဘာများ ထူးသေးတုန်းလို့....

ရန်ကုန်တက္ကသိုလ် တကသ အဆောက်အဦကြီးကို မိုင်းဗုံးနဲ့ ဖြိုခွဲဖျက်ဆီးလိုက်ပြီဆိုတာဟုတ်လား....

ဟုတ်တယ်...ဇူလိုင် ၈ ရက်နေ့ကပဲ။ ရန်ကုန်တက္ကသိုလ် တကသ အဆောက်အဦကြီးကို ဖြိုခွဲဖျက်ဆီးလိုက်တယ်လေ။

မေးသောသူများ အားလုံးငြိမ်သွားကြသည်။ ကျွန်တော်ကလည်း နောက်ထပ် မပြောလိုတော့။ သူတို့ကလည်း နောက်ထပ် မေးလိုစိတ် ရှိတော့ဟန်မတူ။ ကျွန်တော်၏ အိပ်ရာပေါ်သို့ တကိုယ်လုံး ပစ်လှဲလိုက်ပြီး အိပ်ချလိုက်သည်။ နှစ်နှစ်ခြိုက်ခြိုက်ကြီးပင် အိပ်ပျော်၍သွားသည်။

ထတော့ အဖိုးကြီး ၆ နာရီထိုးလို့ အခန်းတံခါးတွေ ဖွင့်နေပြီ။ အပြင်ထွက်ပြီး ရေချိုးရမယ်၊ လက်ဖက်ရည် သောက်ရမယ်။ ပြီးတော့ အီအီးယိုရမယ်၊ ရှူးရှူးပုံး အီအီးပုံး ဆေးရမယ်။

ကျွန်တော်အပြင်ရောက်ရောက်ခြင်း အားလုံးကလာ၍ နှုတ်ဆက်သည်။ တပ်ဦးမှ ကိုခင်မောင်ဝင်း၊ တင်ဝင်း၊ ကိုဝင်းဆွေ၊ ကိုစိုးဝင်းမောင်၊ ထပ်ဦးသစ်မှ ကိုဘိုကြူနှင့် ကိုဝင်းမောင်သန်း၊ လူငယ်တပ်ဦးမှ ဦးသန်းမောင်၊ ကိုမောင်ကို၊ ကိုစိန်၊ ကိုလှမြင့်၊ ကိုမြသန်း၊ ကိုလှအောင်၊ ကိုသက်တင်၊ ဂီတီအိုင် ကိုမြညွန့်တို့ကို

တွေ့ရသည်။ သူတို့ကတော့ ကျွန်တော်၏ လာခြင်းကို ကောင်းသောလာခြင်းဟု သဘောထားနေဘဲအလား ဝမ်းသာမှုကိုပြကြသည်။

ဟော့ နေပါအုံးကွ။ တနေ့ဘယ်နှစ်ခါအပြင်ထုတ် တုန်း....

သုံးခါထုတ်တယ် အဖိုးကြီးရ၊ မနက် ၆ နာရီက ၆ နာရီခွဲ၊ ၉ နာရီခွဲက ၁၀ နာရီထိ ထမင်းစားချိန်။ ညနေ ၄နာရီက ၅နာရီထိ ရေချိုးထမင်းစား။

စာရေးဆရာပေါက်စ ကိုလှမြင့်က ကျွန်တော်၏အမေးကို ပြန်ဖြေကြားလိုက်သည်။ ကိုလှမြင့်သည် ရွှေဘိုကဖြစ်သည်။ သူကတော့ အဖမ်းခံနေရသည်ကိုပင် စိတ်ပျက်ဟန်မတူ။ သူသည် အဖမ်းခံတို့၏ အလယ်တွင် အငယ်ဆုံးဖြစ်သည်။

ဟော့ ဟိုဘက်က လူတွေက ဘယ်သူတွေတုန်းကွ။ ဘာတွေလဲ...

ကျွန်တော်က စစ်အကျဉ်းထောင်၏ တောင်ဘက် အစွန်ဆုံး အကျဉ်းတန်းများကို မေးငေါ့ပြရင်း စာရေးကလေး ကိုသက်တင်ကို မေးမိသည်။

အဲဒီအချုပ်က အမြဲတမ်းအချုပ်လို့ခေါ်တယ်။ ကျုပ်တို့လိုယာယီမဟုတ်ဘူး။ ဟိုအရှေ့ဆုံးအခန်းက ကွန်မြူနစ်လင်မယား။ နာမည်ကတော့ ဦးစိန်တဲ့။ မိန်းမကတော့ မသိဘူး။ ဟောဟိုအခန်းက သီပေါက ရှမ်းအမတ်ကြီးဦးဘိုးစိန်တဲ့။ ဟိုမဲမဲကုလားလိုလူက ကွန်မြူနစ်ပါတီက။ ဟိုကတော့ ကချင်လင်မယား။ ဟို အနောက်ဆုံးလူက ထူးစိန်ပါတီက ကိုခင်မောင်ကြီးတဲ့.....

သူတို့ကို အပြင်မထုတ်ဘူးလား။ ရေချိုးခမ်းမပါတဲ့ လူတွေကိုပဲ ရေချိုးဖို့ ထုတ်တယ်။ ညနေတခါ မနက်တခါ လမ်းလျှောက်ဖို့ နာရီဝက်စီ ထုတ်တယ်....

စာရေးကလေး ကိုသက်တင်က ကျွန်တော်အား ရှင်းပြသည်။ ဘဝတူအကျဉ်းသားများ ဖြစ်သောကြောင့်လောမသိ။ ထိုသူများက ကျွန်တော်တို့အား သူတို့၏အပြုံးဖြင့် နှုတ်ဆက်ကြသည်။

တရက်မှ နှစ်ရက်၊ နှစ်ရက်မှ သုံးရက်သို့ ရောက်သာအခါ ကျွန်တော်အဖို့ လက်ကောက်ကျလာပြီ ဖြစ်သည်။ ကြိုက်မရက်၊ ငိုက်မရက်၊ ဝတ်မရက် စကားသည် မှန်လေစွ။ ဆေးလိပ်ဖြတ်၍ ဝတ်ေသာအခါတွင် ထောင်ကျ စစ်အကျဉ်းသားတို့ထံ ကပ်ပြီး ဆေးလိပ်ကို တောင်းတတ်ပြီဖြစ်သည်။ အချို့စစ်အကျဉ်းသားများက ကျွန်တော်တို့အား အစောင့်အကြပ်များ မသိမမြင်အောင် ဆေးလိပ်များပေးကြသည်။ ကြင်နာသနားကိုယ်ချင်းစာစိတ် ပွားများသော သူများပါပေ။

အမှန်မှာ စစ်အကျဉ်းသားများနှင့် အရပ်အကျဉ်းသားတို့ စကားပြောခွင့်မပြု။ သို့သော်လည်း ကျွန်တော်တို့က လစ်လျှင်လစ်သလို အစောင့်အကြပ်များ မသိအောင် ပြောကြသည်၊ မေးကြသည်၊ စောကြောလေ့လာကြသည်။

ကျွန်တော်တို့နေသော အချုပ်ခန်းတန်းလျားတွင် စုစုပေါင်း အချုပ်သား ၂၁ ဦးရှိသည်။ အခန်းတိုင်းလိုပင် လူရှိသည်။ အကျယ်ဆုံး အခန်းမှာလည်း အလျား ၁၀ ပေ၊ အနံ ၈ ပေ ထက်ပို၍ မကျယ်....

မဆူရ၊ မအော်ရ၊ တခန်းနှင့် တခန်း စကားမပြောရ၊ ပစ္စည်းမပေးရ ဟု စည်းကမ်းချက်ကားရှိ၏။ သို့သော် မနေကြ။ အချို့မှာ ပျော်ကြသည်၊ သီချင်းဆိုကြသည်၊ ကကြသည်။ အချုပ်တန်းလျားကလေး တခုလုံး လှုပ်၍လှုပ်၍နေသည်။ သိမ့်သိမ့်တုန်၍ နေသည်။ ဆေးလိပ်မီးမှာ နှစ်နာရီ တကြိမ်သာရသည်။ သို့သော် နှစ်နာရီအတွင်း မီးဘယ်တော့မှုမသေ။ တခန်းတွင် ဆေးလိပ်မီး ရှိသေးလျှင် အခန်းအားလုံး ရနိုင်သည်သာဖြစ်သည်။ အကြောင်းကား တခန်းနှင့်တခန်း ကာရံ၍ထားသော သစ်သားနံရံကို ဆေးပြင်းလိပ် မီးဖြင့် ထိုးဖောက်၍ ဒိုးယိုပေါက် ပေးယူနိုင်သောကြောင့်တည်း။

အကျဉ်းခန်းတွင်းမှ အဆူဆုံးကား 'အော'အခန်းမှ ကိုသက်တင်နှင့် ကိုဝင်းဆွေ၊ 'စီ'အခန်းမှ ကိုစိန်၊ 'အယ်မ်' အခန်းမှ ကိုလှမြင့်၊ 'အိုင်' အခန်း ခင်မောင်ဝင်းတို့ပင်....

ကျွန်တော်တို့ရဲ့ အကျဉ်းထောင်ကြီး မစည်ကားလားဗျ။

စည်ကားပါ့ဗျာ။

ကျွန်တော်တို့ အဖွဲ့ကြီးကော မမြိုင်လားဗျ။

မြိုင်ပါ့ဗျာ၊ မြိုင်ပါ့။

မြိုင်ဟေမဝန် မြိုင်ဟေမဝန် ရေတခွန်စိမ့်စမ်း လွမ်းဖွယ်တဖျာထင်ရ စမ်းတယ်နော်မေ ပန်းမျိုးစုံ ပေါ လို့ကြိုင်....

အပြန်အလှန် အပေးအယူများ၏ အဆုံးတွင် စာရေးကလေး ကိုသက်တင်က မြိုင်ထဆို၍ကလေ၏။ စစ်စုံစမ်းထောက်လှမ်းရေးမှ တောခို၍ အဖမ်းရသူ ကို ညိုဝင်းကလည်း သူ၏အခန်းတွင်းမှ ကပြန်၏။ တဖြုန်း ဖြုန်း တဝုန်းဝုန်း အသံသည် မဇ္ဈိမအကျဆုံး အခန်းက ချည်းထွက်၏။

ကိုဝင်းဆွေကလည်း တမျိုးပျော်တတ်သည်။ ရေဒီယို အသံလွှင့်၏။ ရေဒီိယို ကြော်ငြာခန်းဖွင့်၏။ သူ့အသံနှင့် သူ့ဟန်ကလည်း တမျိုး။

ခု စစ်အကျဉ်းထောင် ရေဒီယိုအသံလွှင့်ဌာန မီတာသိန်းငါးသောင်းကနေပြီး အသံလွှင့်နေပါတယ်။ သတင်းခေါင်းစဉ်.... စစ်အကျဉ်းထောင်သို့ မန်းခေတ် သတင်းစာ အယ်ဒီတာ တကသ ဥက္ကဋ္ဌဟောင်း ကို ကျော်စိုး ဆိုက်ဆိုက်မြိုက်မြိုက် ရောက်လာခြင်း၊ ကျောင်းသားခေါင်းဆောင် ငါးဦးကို စစ်အကျဉ်းထောင် မှ ပြန်လွှတ်လိုက်ခြင်း၊ သတင်းအစုံအလင်မှာ။

သူ့အသံနှင့် သူ့ဟန်မှာ တကယ့်ရေဒီယို အသံလွှင့်ဌာနမှ အနောင်ဇာနှင့်တူလှသည်။ သူထင် ရာသူ အသံလွှင့်သော်လည်း နားထောင်၍တော့ အကောင်းသား။ ပျော်စရာ ရီစရာ ရှိလှသည်။ မည်မျှ ဟာသဆန်သနည်း ကြည့်ပါဦး။

ဘာဖြစ်တာလဲဗျ။ အဖမ်းခံနေရလို့ဗျို့။ အဖမ်းခံ ရသူတိုင်းသည် အစဉ်အမြဲ တွေဝေငေးမှိုင်နေပေတော့ တယ်။ သင်ကိုယ်တိုင် အဖမ်းခံကြည့်ပါ။ အမှန်ပင် သိ လာပါလိမ့်မည်။

ဤကား ဘရိုက်ကရီးမ် ကြော်ငြာကို မှီး၍လွှင့် သံ၊ ကြော်ငြာသံ။

ဟ ဒီနေ့ မောင်ဟိုဒင်းတို့ ပွဲပါဘဲလား။ သူတို့ပွဲတိုင်း မှာ ဗိုလ်စွဲနေကြပါပကော။ ဗိုလ်စွဲဖို့ သူတို့အမြဲတန်း ဝင် ထားတာကတော့ တပ်ဦးနဲ့ တပ်ဦးသစ် အဖွဲ့တွေမှန်း ငါ သိတယ်ကွ။

အို့ဟို ဒါကြောင့်ကိုး။

ဤကား အိုဗာတင်းကြော်ငြာသော ရေဒီယိုကြော်ငြာ ဖြစ်သည်။ ဤသို့ ဟာသနှော၍ ဝါယောကန်သော အသံ များမှာ ဗလပွက်ညံ၍ နေလေသည်။

နံပတ် 'ဒီ' အခန်းမှ ကိုစိုးဝင်းမောင်နှင့် ကိုဘို ကြူတို့ကမူ အငြင်းအခုံ ပြုလှသည်။ တခါတခါ ကိုဝင်း မောင်သန်းပါ သုံးယောက်ပေါင်း၍ ငြင်းကြခုံကြသည်၊ ကိုစိုးဝင်းမောင်မှာ ကျန်းမာရေးကို အမြဲလေ့ကျင့်သည်။ လေ့ကျင့်ခန်း ပြီးခါနီးဆိုလျှင် သူ့အသံထွက်လာသည်။ ဝလာပြီ၊ လှလာပြီ၊ ထလာပြီ ကွနော်။

ဘိုပဲကျန်တော့သပေါ့။

တယောက်က ဖောက်လိုက်သောကြောင့် ရယ်သံများ ထွက်လာသည်။ လူငယ်တပ်ဦးမှ ကိုစိန်ကြီးကလည်း တမျိုး။

မောင်စိန် လွတ်ပြီ။ အိပ်ရာလိပ် ပြင်။

ဟုတ်ကဲ့ခင်ဗျာ့။ လာပါပြီခင်ဗျာ့။

သူဟာသူပြော သူဟာသူထူးပြီး တယောက် တည်း အပြန်အလှန် အော်ဟစ်နေသည်။ လူပျိုကြီးဖြစ် သော ကိုစိန်သည် ထောင်တွင်းရောက်သောအခါ မည့် တော့ချေ။ မိန်းမများအကြောင်း သောင်းပြောင်းထွေလာ လက်ချာပေး၍ပင် နေသေးသည်။

မီးဗျို့ မီး မီး မီးပေးပါ။

မီးတော့မရှိဘူးဗျို့ ဟိုဒင်းဘဲရမယ်။

ဆေးလိပ်မီးမရှိ၍ အော်တောင်းသော ကျောင်းသားတဦး၏ စကားကို အရှေ့ဆုံးအခန်းမှ စာရေးဆရာပေါက်စ ကိုလှမြင့်က ပြန်၍ အော်လိုက် သောကြောင့် ရယ်သံသောသော ဖြစ်ရပြန်သည်။

ကျွန်တော်၏ ယာဘက်အခန်းမှ ဆေးကျောင်း ကိုဖိုးနှင့် ကိုတင်ထွဋ်တို့ကမူ ရယ်စရာပြောလျှင် ရယ် ကြသည်။ သို့သော်သူတို့ကမပြော။ တခါတခါ ကိုဖိုးမှာ မှိုင်၍နေသည်။ ကိုတင်ထွဋ်ကမူ ချစ်သူ့စာကိုပြန်၍ဖတ် ရင်း စမြုံ့ပြန်နေတတ်သည်။ ကျွန်တော်၏ ဝဲဘက် အခန်းမှ ကိုခင်မောင်ဝင်း၊ ကိုခင်မောင်ရီ နှင့် ကိုတင် ဝင်းတို့ကလည်း အခြားအခန်းများနှင့် နင်လားငါလား ပွက်ကြသည်။ တခါတခါ ကိုယ်ဝတ်မပါ ဗလာနတ္ထိ ခုန်ဆွခုန်ဆွလုပ်ကြသည်။ အပြည့်အစုံမရသော ရွှေမင်း ဂံ၊ စစ်ကိုင်းတောင်၊ နှစ်ယောက်တည်း နေချင်တယ် စ သည့် တေးသွားကို သီဆိုကြသည်။

ဇူလိုင်လ ၃၁ ရက်နေ့ ရောက်သောအခါ ကျောင်းသား အားလုံးကို ထောင်ကြီးချုပ်သို့ ပို့လိုက်သဖြင့် လူငယ်တပ်ဦးအဖွဲ့ဝင်တဦးနှင့် ကျွန်တော်တို့သာ ကျန်ခဲ့သည်။

ဩဂုတ်လ ၆ ရက်နေ့တွင် လူငယ့်တပ်ဦးမှ အကျဉ်းသား (၈) ဦးကို စစ်အကျဉ်းထောင်မှ ရွှေ့ပြောင်းသွားကြသောကြောင့် ကျွန်တော်တို့အကျဉ်းသားတန်းလျားတွင် သုံးဦးသာလျှင်ရှိတော့သည်။ ထိုသူတို့ကား ပခုက္ကူမှ ရန်ကုန်တက္ကသိုလ်ရောက် ကျောင်းသားကိုကြည်ဝင်း၊ ကျွန်တော်နှင့် စစ်စုံစမ်းထောက်လှမ်းရေးမှ ကိုညိုဝင်းတို့ ဖြစ်သည်။ ကိုကြည်ဝင်းမှာ ၁၂-၈-၆၃ နေ့တွင် လွတ်သွားတော့သည်။

ယခင်ရက်များက လူစုံ၍ ပျော်သလောက် နောက်ပိုင်းတွင် မပျော်တော့။ ကျွန်တော်၏ အစာအိမ်ရောဂါမှာလည်း ပို၍ဆိုးလာသည်။ နန်းတွင်း စစ်ဆေးရုံ၏ ညွှန်ကြားချက်ဖြင့် ကျွန်တော်၏ အစာအိမ်ရောဂါ ကုသရန် ထောင်တွင်းဆေးရုံသို့ ဩဂုတ်လ ၁၅ ရက်နေ့တွင် ရောက်သွားရပြန်သည်။ ထိုအချိန်တွင် မန္တလေးထောင်အတွင်း၌ ကျောင်းသား သုံးဦးသာ ကျန်တော့သည်။ အခြားကျောင်းသားများ လွတ်၍သွားကြပြီ ဖြစ်သည်။ ကျန် သုံးဦးမှာ ကိုဝင်းမောင်သန်း၊ ကိုစိုးဝင်းမောင်နှင့် ကိုဘိုကြူတို့ဖြစ်ကြသည်။

ကျောင်းသားတွေ ကာကွယ်ရေးအဆောင်မှာ ရှိတယ်ဗျ။ ဘယ်သူနဲ့မှ အဆက်အသွယ်မလုပ်ရဘူး။

သူတို့ ဘီကလပ်ရသလားဗျ။

ဘယ်ရမလဲဗျာ။ ဆန်လုံးညိုဘဲ စားနေရတာပေါ့ဗျ။ တက္ကသိုလ်ကျောင်းသားတွေဖြစ်ပြီး ဘီကလပ်မပေးတာ သိပ်ဆိုးတာပဲဗျာ။ ကျွန်တော်တော့ သိပ်သနားတယ်။ မဟုတ်တဲ့ ရာဇဝတ်အကျဉ်းသားတွေတော့ ဘီကလပ် ပေးထားတယ်။

မန္တလေးထောင်ရောက်စနေ့တွင် ထောင်ထမင်းချက်ဖိုကြီးမှ အကျဉ်းသားတဦးက ကျွန်တော့်အားလာ၍ပြောသည်။ ဟုတ်သည်။ မန်းစံပြအကျဉ်းထောင်တွင်းရောက် ကျောင်းသားများ ဘီကလပ်မရ၊ ဆန်လုံးညိုနှင့်ပဲ နှစ်ပါးသွားနေရသည်။ ကျွန်တော့်အဖို့ ဘီကလပ်မရသည့်တိုင် မထောင်းသာ။ ဆေးရုံလူနာအတွက် ကျွေးသည့် ထမင်းဖြူကို စားခွင့်ရသောကြောင့် ဖြစ်သည်။ နွားနို့ ၂ ပေါင်၊ ပေါင်မုန့်တလုံးကလည်း ရသမို့ ဆေးပေါ့လိပ်အတွက် အကြံအဖန်လုပ်နိုင်သေး၏။ ထောင်အချုပ်တွင် လူငယ့်တပ်ဦး ရဲဘော်များကိုတွေ့ရသည်။ သူတို့သည် စစ်အကျဉ်းထောင်တွင်းကဲ့သို့ ပျော်ဟန်မတူ။ အစားအနေဆင်းရဲမှုသာမက သူတို့အား စွဲဆိုထားသည့် နိုင်ငံတော်လုပ်ကြံမှုကို ရင်ဆိုင်နေကြရသောကြောင့် ဖြစ်ဟန်တူသည်၊

၁၇-၉-၆၂ နေ့တွင် မန္တလေးထောင်မှ စစ်အကျဉ်းထောင်သို့ ပြန်၍ ရောက်ပြန်သည်။ ကျွန်တော်၏ အစာအိမ်ရောဂါ အနည်းငယ် သက်သာလာသောကြောင့် စစ်ထောင် ပြန်ပို့ခြင်းဖြစ်သည်။ စစ်ထောင်ပြန်ရောက်ပြီး မကြာမီမှာပင် ကျောင်းသားခေါင်းဆောင် တကသဥက္ကဋ္ဌ ကိုစိုးဝင်းမောင် နှင့် ကိုဘိုကြူတို့ စစ်ထောင်သို့ ပြန်ရောက်လာကြသည်။ ကိုဝင်းမောင်သန်းမှာမူ လွတ်သွားပေပြီ။

ဟော့ မင်းတို့ထောင်ထဲမှာ ဘီကလပ်မရဘူးဆိုကွ ဟုတ်လား။

ဘီကလပ်တောင်းတယ်။ မရဘူး။ ခေတ္တအချုပ်မို့ မပေးတာတဲ့။

ကိုစိုးဝင်းမောင်နှင့် ကိုဘိုကြူတို့က သူတို့၏ ထောင်တွင်းအတွေ့ အကြုံကလေးများကို ပြောပြသည်။ ကျွန်တော်ကလည်း ကျွန်တော့်အတွေ့အကြုံကို ပြန်ပြောသည်။

ကိုဘိုကြူမှာ စစ်ထောင်သို့ပြန်ရောက်ပြီး ၅-ရက်ခန့်တွင် လွတ်၍သွားသောကြောင့် ကျွန်တော်နှင့် ကိုစိုးဝင်းမောင် နှစ်ယောက်သာလျှင် ကျန်တော့သည်။ ၁-၁၁-၆၂ နေ့တွင် ကျွန်တော်နှင့် ကိုစိုးဝင်းမောင် ရာထူးတက်တော့သည်။ ယာယီအချုပ်မှ အမြဲတန်းအချုပ်သို့ ပြောင်းရသောနေ့။

အမြဲတန်းအချုပ်ရောက်ပြီး တလခန့် မနက်နှင့်ညနေ လမ်းလျှောက်ခွင့် နာရီဝက်စီ ရသေးသည်။ နောင်အခါတွင် လမ်းလျှောက်ခွင့်မရတော့။ ရေချိုးချိန်နှင့် အပြင်သွားချိန်ကိုပင် နာရီဝက်မှ ၁၅ မိနစ်သာ ရတော့သည်။ စည်းကမ်းကလည်း တင်းသမှ သိပ်တင်း။

အမြဲတန်းအချုပ်တွင် ကွန်မြူနစ်ပါတီမှ ဦးစိန်

နှင့် ဇနီးဒေါ်ခင်ရီ၊ ရှမ်းပြည် သီပေါအမတ် ဦးဘိုးစိန်၊ ကွန်မြူနစ်ပါတီမှ ကိုအောင်ငြိမ်း၊ ကချင် ဇနီးမောင်နံ့ မြတ်ခွန်နှင့် လုဘူ၊ မန္တလေးမှ အရပ်သား ဦးဘဌေး၊ ထူးစိန်ပါတီမှ လေထီး ကိုခင်မောင်ကြီး၊ အခြားအရပ်သူ အမျိုးသမီးတဦးတို့ ရှိကြ၏။ အားလုံးလိုပင် ခင်မင်စရာ ဖြစ်ပါဘိ။ တဦးထံ စားသောက်ဖွယ်များ၊ ဆေးလိပ်များ ရောက်လျှင် ဝေငှပေးလေ့ရှိသည်။

ကြာသူများလည်း စစ်အကျဉ်းထောင်သက် ကြာရှည်လှပြီ။ ကွန်မြူနစ် ဦးစိန်တို့ ဇနီးမောင်နံ့မှာ ၂ နှစ်နီးမျှ ရှိပြီဆိုသည်။ ထောင်တွင်းမှာပင် သားယောက်ျား လေးတယောက် လူလားမြောက် ဖွားမြင်ခဲ့ပြီ ဖြစ်သည်။ လေထီး ကိုခင်မောင်ကြီးနှင့် ကွန်မြူနစ်ပါတီမှ ကိုအောင်ငြိမ်းတို့မှာလည်း တနှစ်ခွဲစီ ကျော်ကြပြီဟု သိရသည်။

စစ်ထောင်စည်းကမ်းကလနားကလည်း တင်းကြပ်လှပါဘိ။ တခန်းနှင့်တခန်း စကားမပြောရ၊ စာဖတ်ခွင့်လည်းမရ၊ သတင်းစာလည်း ကြည့်ခွင့်မရှိ၊ ဆွေမျိုးမိတ်သင်္ဂဟများနှင့် လုံးဝ တွေ့ဆုံခွင့်မပြု။

တိုလီမိုလီ လူ့အသုံးအဆောင်များကိုလည်း ထားခွင့်မပြု။ ခေါင်းဘီးကိုပင် အခန်းတွင်းယူမထားရ၊ ဖြီးလိုမှ တောင်းဖြီးရသည်။ ဆပ်ပြာခဲများကိုပင် ညမထားရ၊ နေ့ပေး၍ ညနေပြန်သိမ်းသည်။

အချို့တာဝန်ကျ အစောင့်စစ်သားများမှာ ကျွန်တော်တို့နှင့် ကြာသောအခါ ရင်းနှီးလာသည်။ တဦး နှစ်ဦးကမူ စစ်အကျဉ်းထောင် စည်းကမ်းအတိုင်း တသဝေမတိမ်းတင်းကြပ်သည်။ တဦးနှင့်တဦးစကားမပြောရဟု ဆိုသည်။ သို့သော် ကျွန်တော်တို့ကမနေ။ ပြောသည်၊ ခေါ်သည်။ ထို့ကြောင့်ပင် နှစ်ကြိမ် သုံးကြိမ် ထက်မနည်း၊ အဟောက်၊ အကြိမ်း ခံရသည်။

စစ်အကျဉ်းထောင် အမြဲတန်းအချုပ်တွင် မေ့၍မရဆုံးသူကား ငြိမ်းငြိမ်းပင်တည်း။ ငြိမ်းငြိမ်းသည် ကွန်မြူနစ်ပါတီမှ ဦးစိန်၊ ဇနီး ဒေါ်ခင်ရီ တို့၏ ရင်နှစ်သည်းချာ ဖြစ်သည်၊ စစ်ထောင်ရောက်စက ငါးလ၊ ခြောက်လ သမီးငယ် ဖြစ်သော်လည်း ကျွန်တော်တို့နှင့် တွေ့ရသောအချိန်တွင် ၂ နှစ်ကျော် ရှိနေပြီ။ စကားကောင်းစွာပြောတတ်ပြီ။ သို့သော် ငြိမ်းငြိမ်း၏ကမ္ဘာကား ကျဉ်းလေစွ။

အခန်းရှေ့တွင် ဝိုင်းရံထားသော သံဆူးကြိုး၏ အပြင်ဘက်သို့ ငြိမ်းငြိမ်းမထွက်လို။ အခန်းတွင်းသာ နေလိုသည်။ ရင်းနှီးသော အစောင့်စစ်သားတို့က အခန်းအပြင်သို့ ခေါ်တိုင်း ငြိမ်းငြိမ်း ငိုသည်၊ အော်သည်ဆိုသော် ရယ်စရာ....

ဟင့်အင်း လိုက်မယ် လိုက်မယ်။

မလိုက်ဘူး၊ မလိုက်ဘူးဟု မပြောတတ်။ မလိုက်လိုသည်ကို လိုက်မယ်ဟုသာပြောပြီး အော်ငိုသည်။ ဩော် သနားစရာ့ ကလေးမကလေးပါလား။

ရောက်ရာဒေသတွင် ရသမျှ ဗဟုသုတအမြတ် ထုတ်တတ်သော ကျွန်တော့်မှာ ကျွန်တော်၏ ဘေးခန်းမှ ကချင်ဇနီးမောင်နံ့တို့ထံမှ ဂျင်းဖေါစကားကို သင်သည်။ သူတို့ ကျေးဇူးဖြင့် ကျွန်တော် ဂျင်းဖေါစကား အတော်အတန် ပြောနိုင်ဆိုနိုင်ပြီဖြစ်သည်။ ရှမ်းအမတ်ကြီး ဦးဘိုးစိန်ကို ကိုစိုးဝင်းမောင်က အင်္ဂလိပ်စာ ကူညီသင်ပေးသည်။

မန္တလေး တရုတ်တန်းဈေးနားမှ ဦးဘဌေးသည် ပျော်တတ်သည်။ ပုံတိုပတ်စများဖြင့် ရယ်မောစရာ အပြောအဟောကောင်းသည်။ ထူးစိန်ပါတီမှ ဦးခင်မောင်ကြီးကလည်း အသံကောင်းသည်။ တခါတခါ သီချင်းကြီးများကို သီဆိုတတ်သည်။

အထွေထွေလွတ်ငြိမ်းခွင့်အရ ရှမ်းအမတ်ကြီး ဦးဘိုးစိန်မှအပ စစ်ထောင်အကျဉ်းသားအားလုံး လွတ်ကြပြီဖြစ်သည်။ စစ်ထောင်သည် ယနေ့ကာလတွင် အေးဆေးငြိမ်သက်လျက်ရှိပြီ။ စစ်ထောင်၏ အစောင့်အကြပ် တာဝန်ခံများသည်လည်း တာဝန်မများတော့။ စစ်ထောင်၏ တင်းကြပ်သော စည်းမျဉ်းစည်းကမ်းများမှာလည်း အကျဉ်းစံ ထောင်သားများ မရှိတော့၍ မလိုအပ်တော့။

မည်သို့ပင်ဖြစ်စေ စစ်အကျဉ်းထောင် ကမ္ဘာငယ်အတွင်း ကုန်လွန်ခဲ့ရသည့်နေ့ရက်များကို မမေ့နိုင်။ မေ့ပျောက်၍လည်း မရ။ မေ့လည်းမမေ့စကောင်း ဖြစ်လှပါဘိတောင်း။

**တက္ကသိုလ်–မောင်ဒေါင်း**

(ခွပ်ဒေါင်း - ဇူလိုင် ၇ ရက် အရေးတော်ပုံ အထိမ်းအမှတ် မှ — )

# အလံကိုင်ရဲဘော်

ဇူလိုင် (၇) ရက်နေ့ အရေးတော်ပုံ မှတ်တမ်းဝတ္ထု

(၁)

၁၉၆၂-ခုနှစ်၊

တက္ကသိုလ်ကျောင်းတော်ကြီးမှာ ဇွန်လ ၁၅-ရက်နေ့တွင် ဖွင့်တော့မည် ဖြစ်သော်လည်း ခင်မောင်သန်း တယောက်မှာ ရန်ကုန်သို့ လဆန်း ၁၃-ရက်နေ့မှပင် ရောက်လာခဲ့သည်။ အဆောင်နေရာ မရမှာစိုး၍ ခပ်စောစောပြန်ချင်သော်လည်း စာမေးပွဲ အောင်စာရင်းမှာ အလွန်အမင်း နောက်ကျမှ ထွက်သဖြင့် ယခုမှထွက်လာရခြင်းဖြစ်သည်။ အောင်စာရင်းတွေ သတင်းစာထဲပါသည့်နေ့က မိမိအမည် သတင်းစာထဲပါလာသည်ကို ဝမ်းသာရမည် ဖြစ်သော်လည်း ခင်မောင်သန်းခမျာ ရဲရဲဝံ့ဝံ့ မပျော်ဝံ့ရှာပေ။ အဘယ်ကြောင့်ဆိုသော် တက္ကသိုလ်သို့ ပြန်လည်တက်ရောက်ခွင့်မှာ စာမေးပွဲအောင်သည်၊ မအောင်သည်ဆိုသည်ထက် မိမိတို့မြို့ရှိ လုံခြုံရေးနှင့်အုပ်ချုပ်မှုကော်မတီမှ ခွင့်ပြု၊ မပြု ဆိုသည့်အချက်အပေါ်တွင် တည်ရှိနေသောကြောင့်ဖြစ်သည်။

ထို့ကြောင့် အောင်စာရင်းထွက်လျှင်ထွက်ချင်း သက်ဆိုင်ရာ လူကြီးမင်းများရှိရာ ရုံးကြီးသို့ ခပ်ရွံ့ရွံ့ကလေးသွားကာ ထောက်ခံစာ တောင်းမိသည်။ ဘောင်းဘီဝတ် ဥက္ကဋ္ဌကြီးက ချက်ချင်းမပေးသေးဘဲ ပုလိပ်အစီရင်ခံစာ ရောက်မှပေးနိုင်မည်ဟု ပြောဆိုလွှတ်လိုက်သည်။

ကျောင်းတော်ကြီးကား ဖွင့်ချိန်တန်လုပေပြီ။ ခင်မောင်သန်းသည်လည်း ကျောင်းသို့ပြန်ချင်လှပြီဖြစ်သည်။ တက္ကသိုလ်ကျောင်းတော်ကြီးသို့ တက်ရောက်ခွင့်ရရှိရန် သက်ဆိုင်ရာ စုံထောက်အဖွဲ့ထောက်ခံချက် မရှိသေးသဖြင့်သာ ကျောင်းသို့ ပြန်လိုစိတ်ကို ဘရိတ်အုပ်ထားရသည်။ မကျေနပ်ခြင်းကား လုံးဝမရှိပေ။

(၂)

ကျောင်းသူကျောင်းသားများ တရာခန့်မှာ ကျောင်းဝင်ခွင့်လျှောက်လွှာစာရွက်များကို ဝက်ခြံအပေါက်ကျဉ်းလေးထဲသို့ တိုးဝှေ့ပြီးတင်သွင်းနေကြသည်။ ထိုအခန်းပတ်ပတ်လည်၌ပင် မတိုးနိုင်သဖြင့် စာရွက်များကိုင်ပြီးဘေးတွင် စောင့်နေကြသူများမှာလည်း ဒုနှင့်ဒေး။ ယနေ့သည် ခင်မောင်သန်း လျှောက်လွှာတင်မည့်နေ့ဖြစ်သည်။ သို့သော်လည်း တညလုံး မီးရထားစီးခဲ့ရသဖြင့် ခင်မောင်သန်းခမျာ နောက်တနေ့မနက်တွင် နေမြင့်မှ အိပ်ရာနိုးလေသည်။ နိုးလျှင်နိုးချင်း မျက်နှာသစ်၊ အဝတ်အစားလဲပြီး ကျောင်းဝင်ခွင့်တင်ရန် ကပျာကသီ ပြေးခဲ့သည်။ သို့သော် လျှောက်တင်နေကြသည့်အခန်းမှ မြင်ကွင်းကို မြင်လိုက်ရသောအခါ ခင်မောင်သန်းတယောက် ဟိုက်ကနဲဖြစ်သွားသည်။ မနဲပါလား။ ဒီလူအုပ်ကြီးနဲ့ဆိုရင် ငါ လျှောက်လွှာ ဒီနေ့မှ တင်လို့ရပါ့မလား။ လျှောက်လွှာတင်ရက် ကုန်သွားပြီး နောက်ကျကြေး ပေးရရင်တော့ မွဲပြီ။ စသည်ဖြင့် တွေးမိပြီး ကြက်သီးမွေးညှင်းပင်ထမိသည်။ လူအုပ်ကြီးမှာတော့ကြိတ် ကြိတ်တိုးလျက်ပင်။

(၃)

ကျောင်းသို့ပြန်ရောက်သည့် တတိယနေ့ဖြစ်သည်။ ကျောင်းဝင်ခွင့်ကား ပြီးပေပြီ။ ကျောင်းဝင်ခွင့်ပြီးပြန်တော့ အဆောင်ဝင်ခွင့်အတွက်လုပ်ရပြန်သည်။ မိမိမှာ တက္ကသိုလ် ပညာရပ်များကို လိုချင်တပ်မက်လွန်း၍သာ လာရသည်။ မိဘများက ငွေကြေးချောင်လည်လှသည် မဟုတ်။ ကျောင်းဆောင်မရလျှင် မိမိကဲ့သို့ ဆင်းရဲသားတဦးအဖို့ မည်မျှဒုက္ခရောက်သည်ကို မိမိအသိဆုံးဖြစ်သည်။

ယမန်နှစ်က ကျောင်းသို့စရောက်သည့်နှစ်။ ထိုနှစ်၌ ကျောင်းဆောင်နေရာ အကြီးအကျယ် မလောက်မငှဖြစ်သဖြင့် နှစ်ဝက်ကျော်မှ အဆောင်နေခွင့်ရသည်။ ထိုအတောအတွင်း ရန်ကုန်မြို့တော်ကြီး၌ အိမ်ငှါးနေရသဖြင့် အိမ်လခနှင့် ကျောင်းစရိတ်ကထောင်းသဖြင့် ထမင်းပင် နပ်မှန်အောင် မနဲကြိုးကြိုးစားခဲ့ရသည်။ ယခုနှစ်တွင်လည်း မနှစ်ကကဲ့သို့ဖြစ်လျှင်ဆိုသော စိုးရိမ်

ချက်ကြီးနှင့် စာရွက်ကလေးကိုကိုင်ကာ ကျောင်းသား အုပ်ကြီးကြားထဲဝယ် တိုးဝှေ့နေရပြန်သည်။

လူဗလံတဦးသာဖြစ်သည့် ခင်မောင်သန်းမှာ တိုးရင်းဝှေ့ရင်းမှပင် ရှေ့သို့ရောက်မသွားဘဲ နောက်သို့သာ ရောက်ရောက်လာသည်။ အခြားဗလကြီးသူများက တအားတိုးသဖြင့် ခင်မောင်သန်းခမျာ အချိန်ကုန်လူပန်းဖြစ်လျက် စိတ်ဓာတ်ကျနေစဉ် မိမိအင်္ကျီကို လှမ်းဆွဲခံရသဖြင့် နောက်သို့ လှည့်ကြည့်မိလေသည်။

'ဟာ ကိုတင်မြင့်ပါ့လား'

'အေး မင်းဘာလို့ ဒီနောက်နားမှာရပ်ပြီး မှိုင်နေရတာလဲ'

'မှိုင်တော့မမှိုင်ပါဘူးဗျာ။ တိုးလို့မရတာနဲ့ စိတ်ပျက်လို့ ဒီနားလာ ရပ်နေတာ။ ခင်ဗျားကတော့ တင်ပြီးပြီပေါ့ ဟုတ်လား'

'မတင်ရသေးပါဘူး။ ဒီနှစ်ငါစာမေးပွဲကျတယ်။ တခါကျသူတွေကို အဆောင်မပေးဘူးလို့ ပြောတယ်ကွ။ ဒီတော့ တင်ရင်လည်း ထူးမယ်မထင်ဘူး'

'ဟ ခင်ဗျားတို့ ဖိုင်နယ်တွေ တခါကျရင် အဆောင်မရတော့ဘူးလား'

'ဖိုင်နယ်ဖြစ်ဖြစ် အင်တာဖြစ်ဖြစ် တခါကျရင် အခန်းရဖို့ မရှိတော့ဘူး၊ သူတို့က ကျောင်းဆောင်မလုံလောက်မှုပြဿနာကို ဒီနည်းနဲ့ ရှင်းသတဲ့။ ကျောင်းဆောင်တွေ တိုးမဆောက်ဘဲနဲ့ ကျောင်းဆောင်လိုတဲ့ ကျောင်းသားကိုသာ လျှော့နေတာ။ အမျိုးသမီးတွေကျတော့ ပိုဆိုးသေးတယ်။ စာမေးပွဲလည်းအောင်၊ မနှစ်ကလည်း နေဖူးတယ်။ ဒါပေမဲ့ အခန်းမရတဲ့ဘဝ ဖြစ်နေတယ်ကွာ။'

'ဒါဖြင့် ကျွန်တော်တော့ ကံကောင်းတာပေါ့။ ဒီနှစ်စာမေးပွဲအောင်ရင်တော့ အဆောင်ရဖို့ နီးစပ်မှာပေါ့။ သေချာပေါက်လောက်ရမှာပဲ။' ခင်မောင်သန်းက ခပ်မောက်မောက်ကနေ ပြောလိုက်သည်။

'မင်းက ပျော်နိုင်သေးသလေ့။ ဖရက်ရှာတွေ၊ တခါကျသမားတွေ၊ အက်ဖ်ထိပြီး အပြင်ကဖြေပြီး အောင်လို့လာတဲ့သူတွေ၊ သူတို့ အဆောင်မရ စာမသင်နိုင်ကြတာတွေကို မမြင်ရဘူးလား။ ဒို့တက္ကသိုလ်ရဲ့ စရိတ်ကလည်း ကြီးပါဘိသနဲ့ အခပေးပညာရေးစရိတ်ဖြစ်နေပြီ။ မင်းမေ့နေလား' ဤစကားများကို ကိုတင်မြင့် ဖြေးညှင်းစွာ ပြောလိုက်သည်။

သို့သော်လည်း ခင်မောင်မြင့်၏ အရှိက်ကို ထိုးလိုက်သကဲ့သို့ပင်ဖြစ်သည်။ ယမန်နှစ်က မိမိဘဝကို ပြန်လည်သတိရလာသည်။ အပြင်မှနေ၍ ကျောင်းတက်ရသည်မှာ ကသီလင်တနိုင်ပြီး ဆင်းရဲဒုက္ခရောက်လှသဖြင့် စာဆက်မသင်တော့ဘဲ အိမ်ပြန်ရန်ပင် စိတ်ကူးခဲ့မိသည်များကိုလည်း ပြန်လည်မြင်ယောင်လာသည်။ ထိုစဉ်က မိမိအင်မတန်စိတ်ငယ်ပြီး အထင်ကြီးခဲ့သည့် တက္ကသိုလ်ကျောင်းကြီးကို စိတ်နာခဲ့မိပုံလည်း ပြန်၍လည်လာသည်။ ကျောင်းဆောင်နေထိုင်ခွင့်သည် ပညာသင်ကြားသူတိုင်းရထိုက်သော အခွင့်အရေးဖြစ်ပါလျက် ယခုလို အခွင့်အရေးထူးကြီးတရပ်ဖြစ်နေရသည်။ ပညာရေးအသုံးစားရိတ်ကို မတိုးချဲ့လိုသူများသာ တရားခံဖြစ်ပါတကား။ ယမန်နှစ်တနှစ်ဝက်လုံးလုံး မိမိဒုက္ခခံခဲ့ရသလို မြောက်မြားစွာသော ကျောင်းသူ၊ ကျောင်းသားတို့ခမျာ ဒုက္ခပင်လယ်ဝေ၍ ပညာသင်ကြရဦးမည်တကား။ သည်ကြားထဲက ပညာသင်ကြားမှု အခြေအနေဆိုး၏ဒဏ်ကိုမခံနိုင်သဖြင့် တက္ကသိုလ်ကျောင်းကို ကျောင်းသူ၊ကျောင်းသားမည်မျှ ကျောခိုင်း၍ စွန့်ခွာသွားကြရဦးမည်မသိ။ ခင်မောင်သန်းသည် ဤကဲ့သို့ စဉ်းစားမိရင်း စာနာစိတ်ဖြင့် ရင်ထဲတွင် ဆို့တက်လာသည်။ ကျောင်းသူကျောင်း သားများကား တကြိတ်ကြိတ်နှင့် တိုးဆဲပင်။

(၄)

အဆောင်ကားရပါပြီ။

သည်နှစ်စာမေးပွဲ အောင်သော်လည်း ခင်မောင်သန်း၏စိတ်ဝယ် လုံးဝမပျော်ပိုက်ပေ။ သူများတကာထက်ထူး၍ အဆောင်ရခဲ့သော်လည်း ပို၍သာစိတ်ညစ်ခဲ့ရသည်။ ကျောင်းဝင်ခွင့်နှင့် အဆောင်ရရေးကိုလုံခြုံရေးနှင့်အုပ်ချုပ်မှု ကော်မတီများ၏ ထောက်ခံစာဖြင့် လျှောက်ခဲ့ရသည်။ ပြီးနောက် မိဘ သို့မဟုတ် အုပ်ထိန်းသူ၏ ဝန်ခံချက်ကတိလည်း တင်ခဲ့ရသေးသည်။ ယခု စည်းကမ်းသစ်အမည်ခံ ချုပ်ချယ်ရေးစံသစ်များနှင့် အကျဉ်းထောင်နှင့်မခြား အချုပ်ခံနေရပြန်သည်။ ည(၈) နာရီထိုးလျှင် အဆောင်တခါးပိတ်၊ လုံးဝ အပြင်မထွက်ရ၊ ကိုယ့်အခန်းမှထိုင်ပြီး စာကြည့်

နေရမည်။ အဆောင်မှူး သို့မဟုတ် လက်ထောက် အဆောင်မှူးလာ၍ စစ်ဆေးလျှင် မိမိအခန်း၌ ရှိနေရမည်။ မတွေ့ရှိရင် အခန်း၌မရှိဟုမှတ်ယူ၍ အရေးယူမည်။ ထမင်းစားချိန်ကိုလည်း မနက် ၇-နာရီခွဲမှ ၁၀-နာရီ၊ ညနေစာကိုမူ ည ၆-နာရီမှ ကျွေးမည်။ နံနက်ထမင်းနှင့် ညနေထမင်းအကြား ကော်ဖီ ၂-ကြိမ်တိုက်မည် စသည်များအပြင် စည်းကမ်းဖောက်ဖျက်လျှင် ကျောင်းဆောင်မှ ထုတ်မည်ဟု စည်းကမ်းတပိုဒ်အဆုံးတိုင်း၌ ခြိမ်းခြောက်ထားသည်။ ခင်မောင်သန်းအဖို့ စိတ်ဓါတ်ကျမည်ဆိုလည်း ကျစရာပင်။

ကိုတင်မြင့်နှင့်လည်း မကြာမကြာတွေ့ကြသည်။ တမြို့တည်းသားများဖြစ်ကြသဖြင့် ငယ်ရွယ်စဉ်ကမူ တော်တော်ရင်းနှီးကြသည်။ သို့သော် တက္ကသိုလ်ကျောင်းသို့ ကိုတင်မြင့်ရောက်သွားသောအခါ ၂-ယောက်မှာ အဆက်အသွယ် အတန်ငယ်ပြတ်နေကြသည်။ ယခုမှတဖန် ပြန်လည်ရင်းနှီးလာကြခြင်းဖြစ်သည်။ ကိုတင်မြင့်မှာ ခင်မောင်သန်းထက် အတန်ငယ်အသက်ကြီးသည်။ ခင်မောင်သန်း လေးငါးတန်းကတည်းက ကိုတင်မြင့်မှာ ကျောင်းသမဂ္ဂတွင်ဝင်လျက် ကျောင်းသားလုပ်ငန်းတွေ လုပ်နေသူ ဖြစ်သည်။ 'မင်းတို့ ၉-တန်း၊ ၁၀-တန်း ရောက်တော့ ဖဆပလ အစိုးရက တန်းမြင့်ကျောင်းတွေမှာ သမဂ္ဂဖွဲ့စည်းခွင့် ပိတ်ပြီ။ သူတို့က ကျောင်းသားတွေကို ရန်သူလို သဘောထားတယ်ကွ။ မင်းတို့က သမဂ္ဂတွေရဲ့ ခေါင်းဆောင်မှု၊ ပညာပေးမှုတွေနဲ့ ကင်းလွတ်ပြီး တက္ကသိုလ်ကိုရောက်လာတော့ ဒါတွေကို ရုတ်တရက် မမြင်ဘူး။ ဒီကနေ့ အဆောင်စည်းကမ်းသစ်ဆိုတာဟာ ကျောင်းသားကို ဖိနှိပ်ဖို့သက်သက်လုပ်တာပဲ။ မင်းစဉ်းစားကြည့်။ တကယ်အရေးတကြီးလိုအပ်နေတာက ပညာရေးပြုပြင်ပြောင်းလဲရေးပဲ။ အဖွာအထေးတွေနဲ့ ဆက်သုံးနေတဲ့ ကျွန်ပညာရေးကို တိုင်းပြည်ရဲ့ လူမှုရေး၊ စီးပွားရေးလိုအပ်ချက်တွေနဲ့ ကိုက်ညီတဲ့ ပညာရေးစနစ်နဲ့ ပြောင်းပစ်ရမယ်။ ဒါဟာပထမဆုံး လုပ်သင့်တဲ့ လုပ်ငန်းဖြစ်ရမယ်။

ကိုတင်မြင့်၏ စကားများမှာ ခင်မောင်သန်း၏ ယနေ့ တွေ့ထိခံစားချက်များနှင့် ကိုက်နေသဖြင့် ပါးစပ်အဟောင်းသားဖြင့် နားထောင်နေရှာသည်။

စည်းကမ်းကတော့ရှိသင့်တာပဲ။ ဒါပေမဲ့ ကျောင်းသားရဲ့ ဆန္ဒကိုမယူဘဲ တဖက်သတ်ဆွဲထားတဲ့ စည်းကမ်းဆိုတာတွေကျတော့ မူအရကိုလက်မခံနိုင်ဘူး။ ဒါဟာမူအရကို မှားတယ်ကွ။ ဒီတော့ဘာဖြစ်သလဲ။ လက်တွေ့မှာကျင့်သုံးလို့မရတဲ့ စည်းကမ်းတွေဖြစ်နေတာပေါ့။

ဒီတချက်လည်း မှန်ပေသည်။ မနက် (၈) နာရီကတည်းက ထမင်းစားထားသော ခင်မောင်သန်းမှာ ညနေ (၆) နာရီ ထမင်းစားချိန်ကို ဗိုက်မှောက်အမြဲတမ်းစောင့်နေရသူဖြစ်ရာ၊ မိမိဆန္ဒကိုမယူဘဲလုပ်လျှင် မည်သို့မျှအကျိုးမရှိပုံကို ဆင်ခြင်မိလေသည်။

'ကျွန်တော်တို့ အဆောင်တွေမှာလည်း ဘယ်သူမှ မကျေနပ်ဘူးဗျ။ ကျောင်းသားတွေကို ထောင်သားတွေလိုထားတယ်ကွာ ဆိုပြီး သိပ်မကျေမချမ်းဖြစ်နေကြတယ်။ ဖိနှိပ်ချုပ်ချယ်ရေးသက်သက်စည်းကမ်းတွေ ပျက်အောင် ဘယ်လိုလုပ်ကြမလဲ' ခင်မောင်သန်းက ရင်ဖွင့်လေတော့သည်။

'ဒို့ညီညီညွတ်ညွတ်နဲ့ တိုက်နိုင်ရင် ဘယ်လိုချုပ်ချယ်မှုမှ မခံနိုင်ပါဘူး။ စောစောက ငါပြောတဲ့ သဘောတွေအပြင် အသေးစိတ်ရှင်းလင်းချက်တွေပါတဲ့ သမဂ္ဂသဘောထားတခုကို မကြာခင်ထုတ်ပြီး ကျောင်းသားတိုင်းကို ဝေလိမ့်မယ်။ နောက်ပြီးတော့ သဟာယနှင့် စာဖတ်သင်းတွေ အမြန်ဖွဲ့ကြဖို့လည်း စည်းရုံးရမယ်' ကိုတင်မြင့်က ပြောတယ်။

'ခင်ဗျား ပြောတာမှန်တယ်။ သဟာယစာဖတ်သင်းမရှိရင် အဆောင်ကျောင်းသားက စုစည်းဖို့မလွယ်ဘူး။ နောက်ပြီး သဟာယနဲ့ စာဖတ်သင်းတွေအားလုံး ပူးပေါင်းပြီး သမဂ္ဂခေါင်းဆောင်မှုနဲ့ တိုက်ယူရမယ်ထင်တယ်။

'ဒီတနည်းပဲရှိတာပဲ။ အရေးကြီးတာက ဒို့ညီညွတ်စည်းလုံးကြဖို့။ ဒို့အကျိုးအတွက် ဒို့တိုက်ရမယ်ဆိုတာကိုတော့ ကျောင်းသားတိုင်းကျေညက်နေအောင် စည်းရုံးရလိမ့်မယ်'

(၅)

ဗူလိုင်လ။

မြကျွန်းသာဟုခေါ်သည့် တက္ကသိုလ်နယ်မြေတွင် တိမ်ပုပ်များ သန်းလျက်ရှိသည်။ ကျောင်းဝင်ခွင့်၊ ကျောင်းဆောင်ဝင်ခွင့်များကို တင်းကြပ်စွာ စိစစ်ခဲ့ပြီးနောက် အဆောင်များတွင်လည်း စည်းကမ်းသစ်အမည်ခံ ချုပ်ချယ်ရေးဥပဒေများဖြင့် အကြပ်ကိုင်လာသည်။ တဖန်အဆောင်များတွင် မရှိမဖြစ်သော သဟာယနှင့် စာဖတ်သင်းများဖွဲ့စည်းရန် ကြိုးပမ်းမှုများကို အာဏာပိုင်များက နှောင့်ယှက်လာကြသည်၊ တဖက်ကလည်း အလိုတော်ရိ ကျောင်းသားလက်တဆုပ်စာက ကျောင်းသားညီညွတ်ရေး ပျက်ပြားစေရန် လက်ကိုင်တုတ် စာဖတ်သင်းများ ဖွဲ့စည်းရန် ခြေပုန်းခုတ်လာကြသည်။

ခင်မောင်သန်းလည်း အလုပ်ရှုပ်နေသည်။ ကျောင်းတက်လိုက် ဒီပြင်အချိန်တွင် သဟာယနှင့် စာဖတ်သင်းကို ဖွဲ့ဖြစ်ရန် လုံးပမ်းလိုက်နှင့် ဖြစ်နေသည်။ ကိုတင်မြင့်နှင့်လည်း မတွေ့အားဘဲ ဖြစ်နေသည်။ တနေ့ကတော့ ပထဝီဌာနဘက်တွင် ကြေညာချက်တွေ တပိုက်ကြီးနှင့် လိုက်လံဝေငှနေသော ကျောင်းသား၊ ကျောင်းသူ တအုပ်ထဲတွင် တွေ့လိုက်သည်။ သူနှင့်မတွေ့ရပေမင့် သူဘာလုပ်နေမည် ဆိုသည်ကိုတော့ မှန်းကြည့်၍ သိနိုင်သည်သာဖြစ်သည်။

သဟာယနှင့်စာဖတ်သင်းများဖွဲ့စည်းရေး၊ အဆောင်စည်းကမ်းများတိုက်ဖျက်ရေး လုပ်ငန်းများမှာ ပို၍လှုပ်ရှားလာသည်။ ထိုအတောအတွင်း ခင်မောင်သန်းသည် အတွေ့အကြုံအသစ်များကို ကြုံလာရသည်။ မိမိတို့အဆောင်တွင် ယမန်နှစ်က လုံးဝမမြင်ခဲ့ဖူးသော ကျောင်းသားအချို့သည် ယခုနှစ် အပေါ်ဆုံးထပ် အခန်းကောင်းများတွင် ရောက်နေသည်ကို တွေ့ရသည်။ ထိုသူများသည် လူသစ်များ ဖြစ်သော်လည်း သဟာယနှင့်စာဖတ်သင်းတွင် နေရာကောင်းများရအောင် လုပ်နေသည်ကိုလည်း မြင်ရသည်။ ထူးဆန်းသည်ကား ထိုကျောင်းသားများသည် မတရားကျောင်းစည်းကမ်းများနှင့် ပတ်သက်၍ ဆွေးနွေးစဉ် ရှိနေကြလျှင် ရှောင်ကွင်းလေ့ရှိပြီး ပြောရပြန်လျှင်လည်း တလုံးတပါဒ ကန့်ကွက်ပြောဆိုခြင်း မပြုခြင်းပေတည်း။

(၆)

သာမန် ညနေခင်း တခုသာဖြစ်သည်။

အင်းလျားကန်တဝိုက်တွင် လေညှင်းခံသူ ကျောင်းသူကျောင်းသားများဖြင့် ပြည့်နေသည်။ ခင်မောင်သန်း၊ ကိုတင်မြင့်နှင့် အခြားကျောင်းသား ၂-ယောက်တို့သည် တံတားဖြူကလေးပေါ်တွင် ထိုင်နေကြသည်။ ရေကန်သာ၌ လေဟုန်ရာသို့ ယိမ်းနေသော ရွက်လှေကလေးများကို သူငယ်ချင်းတစု ငေးကြည့်နေကြသည်။ တယောက်နှင့်တယောက် စကားမပြောကြဘဲ အတွေးကိုယ်စီနှင့် ထိုင်နေကြသည်။

'မင်းတို့ အဆောင်မှာ စာဖတ်သင်းတွေ ဘယ်တော့ဖွဲ့မလဲ' တင်ဦးဆိုသည့် ကျောင်းသားက ခင်မောင်သန်းကို မေးလိုက်သည်။

'ဒီတပတ်တော့ မလွယ်ဘူး။ နောက်တပတ်မှ ဖြစ်လိမ့်မယ်။ ဒို့အဆောင်မှူးက သိပ်ပိုင်တာပဲကွ။ သူ့မြို့ကကောင်တွေ သူ့အဆောင် ရအောင်လုပ်၊ နောက်ပြီးတော့ အခုလို စာဖတ်သင်းအပြိုင်အဖွဲ့ ဖွဲ့ရမယ်ဆိုတော့ သူ့ကောင်တွေကို ကြိုးဆွဲပြီး သူ့လူတွေရအောင် လုပ်နေတယ်။ ဒို့တော့ တော်တော်လေး လုပ်နေရတယ်'

'ဒီကနေ့ ရွှေဘိုဆောင် ရွေးကောက်ပွဲရှိတယ်။ အဲဒီမှာလဲ အကြိတ်အနယ်ပဲတဲ့ မောင်' ဘေးက သူတယောက်က သတင်းပေးလိုက်သည်။

ဆေးလိပ်တိုကို ရေထဲသို့ လွှင့်ပစ်လိုက်ရင်း ကိုတင်မြင့်က 'အေးကွာ ပြန်နှိုးကြစို့။ မနက်ဖြန် အဆောင်စည်းကမ်းတိုက်ဖျက်ရေး တကာသ ဆန္ဒပြပွဲရှိတယ်။ ပိုစတာတွေကပ်ရမယ်။ အဆောင်တွေလည်း ဆင်းရဦးမယ်။'

ကိုတင်ဦးက 'ကိုတင်မြင့် မနက်ဖြန် ဆန္ဒပြပွဲဟာ ကျုပ်တို့အင်အားပြပွဲပဲ။ မတရားလုတဲ့ စည်းကမ်းတွေကို ကျုပ်တို့ ဘယ်လောက် ရွံမုန်းသလဲဆိုတာ ပြရမှာဖြစ်တယ်။ ဒီတော့ ကျောင်းသားတိုင်း တက်မှဖြစ်မယ်။ တချို့ကျောင်းသားက စည်းကမ်းတွေကို မုန်းတယ်။ ဒါပေမဲ့ ဆန္ဒမပြချင်ဘူး။ စာမေးပွဲအောင်တော့ အလုပ်အခက်အခဲရှိမှာစိုးလို့တဲ့'

ခင်မောင်သန်း 'ကြီးကျယ်လိုက်တာကွာ။ နဂိုကတော့

အလုပ်ကရမှာအတိုင်းပဲ။ အဲဒါ အချောင်သမားကွ။ ကိုယ့်အခွင့်အရေးကို ကိုယ် တိုက်ရမှာပေါ့'

'ကျွန်တော်တို့လည်းပဲ တော်တော်လေး ကျယ်ပြန့်အောင် ကြိုးစားစည်းရုံးပါတယ်။ ခရိုင်သင်းတွေ၊ မြို့နယ်သင်းတွေ၊ လူမျိုးစုအသင်းတွေ၊ ဖွဲ့စည်းပြီးတဲ့ သဟာယနဲ့စာဖတ်သင်းတွေ အားလုံးလိုလိုနဲ့ တွေ့ပြီး ကျွန်တော်တို့ တ က သ ရဲ့ သဘောထားကို တင်ပြဆွေးနွေးဖြစ်ပါတယ်။ ဒီပြင်လည်း ပိုစတာတွေကပ်၊ ကြေညာချက်တွေ ဝေထားပါတယ်။ မနက်ဖြန် ဆန္ဒပြပွဲ လုပ်ချိန်အထိ နေ့ကျောင်းသားတွေကိုပါ လိုက်ပြီးလှုံ့ဆော်နေမှာပါပဲ' ကိုတင်မြင့်က စိတ်ရှည်လက်ရှည် ရှင်းပြသည်။

(၇)

"မတရားစည်းကမ်းတွေ၊ အလိုမရှိ။"
"မတရားချုပ်ချယ်မှုတွေ၊ အလိုမရှိ။"
"ကျောင်းဆောင်တွေကို၊ အကျဉ်းထောင်မလုပ်နဲ့။"

ထောင်ပေါင်းများစွာသော ကျောင်းသားများသည် အဆောင်တံခါး သော့ခလောက်လောက်များကို ရိုက်ချိုးပြီး အဓိပတိလမ်းမကြီးပေါ်တွင် ဆန္ဒပြလျက်ရှိသည်။ တဖြည်းဖြည်းနှင့် ည၏အလင်းရောင်အောက်ဝယ် ကျောင်းသားထုကြီးမှာ ကြီးထွားလာသည်။ ခပ်ဝေးဝေးမှကြည့်လျှင် အဓိပတိလမ်းမကြီးပေါ်ဝယ် မြွေကြီးတကောင် ဒေါသတကြီးဖြင့် လှုပ်ရှားနေသယောင်ထင်ရမည်ဖြစ်သည်။ ဟုတ်သည်။ သူတို့ဒေါသဖြစ်နေကြသည်။ အမှန်ပင်ဖြစ်သည်။ ဘာကိုဒေါသဖြစ်နေကြသနည်း။

ပညာရေးစနစ် ချွတ်ခြုံကျမှုကြောင့် ပေါ်လာသော အခက်အခဲမှန်သမျှကို ကျောင်းသားများကိုသာ ပုံချပြီး ခံစေသည်ကို ဒေါသ ဖြစ်နေကြခြင်းဖြစ်သည်။ မြိုသိပ်ထားရသမျှ အန်ထွက် လာကြသည်။ မကျေနပ်မှုတွေကို စုပေါင်း၍ ဆန္ဒပြကြခြင်းသာ ဖြစ်ပေသည်။

သဘာဝအတိုင်း ဖြစ်ရိုး ဖြစ်စဉ် တရပ်ပေတည်း။ ကျောင်းသား လူထုကြီးသည် ပုဂံ၊ ပြည်၊ တကောင်းဆောင်များသို့ သွားရောက်ကြပြီး မိမိတို့ ဘဝတူ ကျောင်းသားများကို အတူတကွ ဆန္ဒပြရန် သွားရောက်ခေါ်ငင်ကြသည်။

"ချုပ်ချယ်မှုတွေ၊ အလိုမရှိ။"
"မတရားစည်းကမ်း ဖျက်သိမ်းပစ်။"
"ကျောင်းသားထု၊ ညီညွတ်ကြ။"

ကျောင်းဆောင်ရေးမှူးနှင့် ပါမောက္ခချုပ် အိမ်ရှေ့တို့တွင် အော်ဟစ် နေကြခြင်းဖြစ်သည်။ ဤသူနှစ်ဦးသည် အဓိက ဇာတ်ဆောင်သူများဟု ထင်မှတ်ကာ ယခုကဲ့သို့ အငြိုးကြီးစွာ ဆန္ဒပြနေကြသည်လား မသိ။ အမှန်မှာ သူတို့နှစ်ဦးသည် သောနုတ္တိသာသာမျှ ရှိပေမည်။ တရားသော အခွင့်အရေးအတွက် ကျောင်းသားထုကြီး၏ တိုက်ပွဲဝင်တောင်းဆိုသံသည် တက္ကသိုလ် တခုလုံးကို သာမက၊ ဗမာတပြည်လုံးသို့ပင် ဟိန်းသွားသည်ဟု ထင်မှတ်ရသည်။ အချိန်ကား ဇူလိုင်လ ၆ ရက်နေ့ ည ၁၂ နာရီ။

(၈)

ဇူလိုင် ၇-ရက်နေ့။

ရန်ကုန်တက္ကသိုလ်ကျောင်းသားများသမဂ္ဂက ဖိနှိပ်ချုပ်ချယ်သော အဆောင်စည်းကမ်းများ ကန့်ကွက်ဆန္ဒပြပွဲတရပ်ကို နေ့လည် ၁၂-နာရီတွင် ခေါ်ဆိုထားသည့် တကာသ အဆောက်အဦးတွင် ကျင်းပမည်ဖြစ်သည်။ သို့သော်လည်း ယနေ့ ဇူလိုင် ၇-ရက်နေ့တွင် ကျင်းပမည့် ကျောင်းသားထု ဆန္ဒပြစည်းဝေးပွဲကြီးသည် သမိုင်းဝင် အဆောက်အဦးကြီး၏ နောက်ဆုံးအစည်းအဝေးဖြစ်သည်ကို မည်သည့် ကျောင်းသားကမျှ မသိရှိကြပေ။

ကျောင်းသားများမှာ အလျှိုလျှိုလာနေကြသည်။ မိုးဖွဲကလေးကျနေသဖြင့် ထီးများ၊ ဦးထုပ်များဖြင့် အစည်းအဝေးကိုလာကြသည်။ ခင်မောင်သန်းမှာ မိမိအဆောင်မှ သူငယ်ချင်းများနှင့် ရှေ့ကျကျ တနေရာတွင် ထိုင်နေသည်။ အစည်းဝေးခန်းထဲတွင် မိမိအသိတွေ တော်တော်များများနှင့်လည်း တွေ့သည်။ သို့သော်လည်း ကိုတင်မြင့်တယောက်ကိုတော့ မမြင်မိပေ။ စောစောပိုင်းက လိပ်ခုံးဘက်သို့ ခွပ်ဒေါင်းအလံလွှင့်ထားသည့် အသံချဲ့စက်ကားဖြင့် လိုက်သွားသည်ကို တွေ့လိုက်ရသည်။

အစည်းအဝေးကား စပေပြီ။

"ရဲဘော်များခင်ဗျား၊ ကျွန်တော်တို့ ဗမာပြည်ကြီးဟာ လွတ်လပ်ရေး ရတာကြာပါပြီ။ ဒါပေမဲ့ ဒီနေ့အထိ ပညာရေးဟာ မလွတ်လပ်သေးဘဲ ကျွန်ပညာရေးကိုပဲ ဖာထေးသုံးစွဲနေပါတယ်။ အစိုးရအဆက်ဆက်ဟာ ပညာရေးစံနစ်ကို မပြောင်းလဲဘဲ၊ ပညာရေးစံနစ်ပြောင်းလဲဖို့ တောင်းဆိုတဲ့ ကျောင်းသားတွေကိုသာ နည်းမျိုးစုံပြောင်းလဲပြီး ဖိနှိပ်ခဲ့ပါတယ်။

ဒီကနေ့တက်လာရတဲ့ တော်လှန်ရေးအစိုးရဟာလဲ ပညာရေးပြုပြင်ပြောင်းရေးကို ဘာမှမလုပ်ပါဘူး။ အမျိုးသားပညာရေးအတွက် စီမံကိန်းများလည်း ချမှတ်ခြင်း မရှိသေးပါဘူး။ ဒါပေမဲ့ တက္ကသိုလ်ပညာရေးအဆင့်တန်းနိမ့်ကျနေမှုဟာ စည်းကမ်းချို့ယွင်းမှုတွေကြောင့်ဖြစ်တယ်ဆိုတဲ့ ကမ္ဘာမှာ မရှိဖူးသေးတဲ့ ပညာရေးသဘောနဲ့ ကျောင်းဖွင့်စက စတင်ပြီး တင်းကြပ်တဲ့စည်းကမ်းတွေကို တဖက်သတ် လုပ်ဆောင်လာပါတယ်။ စည်းကမ်းဆိုတာဟာ အုပ်ချုပ်သူများကသာ မဟုတ်ဘဲ လိုက်နာရမည့် ကျောင်းသူ ကျောင်းသားတွေကပါ ပါဝင်ရေးဆွဲမှ သဘာဝကျပါတယ်။ ကျင့်သုံးနိုင်တဲ့စည်းကမ်းတွေလည်း ဖြစ်လာနိုင်ပါတယ်။ ဒီကနေ့ တဖက်သတ် ရေးဆွဲထားတဲ့ စည်းကမ်းတွေဟာ မူအရကိုမမှန်ပါဘူး။ တိုးတက်တဲ့ နိုင်ငံတွေမှာ အဆောင်တွေကို ကိုယ်ပိုင်အုပ်ချုပ်ခွင့်များပင် ပေးနေတဲ့ကာလမှာ ဒီလိုတဖက်သတ်စည်းကမ်းတွေနဲ့ ချုပ်ချယ်တာဟာ ရာဇဝင်ကို နောက်ပြန်ဆွဲသလို ဖြစ်နေပါတယ်။

ကျွန်တော်တို့ဟာ အထက်တန်းပညာတွေကို သင်ကြားနေကြရသူများ ဖြစ်ပါတယ်။ ဒီတော့ တဦးနှင့်တဦး နီးနှောတိုင်ပင်ခွင့်၊ အတွေ့အကြုံဗဟုသုတ ဖလှယ်ခွင့်ဆိုတာတွေ ရှိရပါမယ်။ ဒါမှလည်း ပညာရေးအတွက် ပိုမိုအကျိုးဖြစ်နိုင်ပါမယ်။ ဒီလိုမဟုတ်ဘဲ ည ၈-နာရီ ထိုးရင် အဆောင်တံခါးတွေ သော့ခတ်၊ အခန်းတခန်းမှတခန်း မကူးရ၊ ကိုယ့်စားပွဲကိုယ်ထိုင်၊ စာဖတ်၊ စည်းကမ်း မလိုက်နာရင် ကျောင်းဆောင်မှ ထုတ် စတဲ့နည်းတွေဟာ လက်တွေ့မှာ မဖြစ်နိုင်ပါဘူး။

ဒါတွင်မကသေးဘဲ ထမင်းကျွေးချိန်ကို နံနက် ၁၀ နာရီမှ ညနေ ၆ နာရီအထိ ခြားထားတာကလဲ လက်တွေ့မှာ ကျောင်းသားတွေ ဒုက္ခ ရောက်ကြရပါတယ်။ ဒါတွေကြောင့် ၂-ဦး ၂-ဖက် အုပ်ချုပ်သူရော၊ လိုက်နာရသူပါ ပူးတွဲညှိနှိုင်းပြီး စည်းကမ်းတွေ ပြန်လည်ဆွဲဖို့ တောင်းဆိုပါတယ်။ ဒီလိုမဟုတ်ဘဲ လက်ရှိစည်းကမ်းတွေကိုသာ ဆက်လက် ကျင့်သုံးရင်တော့ အောင်မြင်စရာလမ်း မရှိပါဘူး။ ဖိနှိပ်ရေးအတွက် စည်းကမ်းအမည်ခံတာပဲ ဖြစ်ပါလိမ့်မယ်။"

သမဂ္ဂ ဥက္ကဋ္ဌက စည်းကမ်းသစ်များ၏ တကယ့်သရုပ်မှန်ကို တိကျစွာ ရှင်းပြသွားသည်။ ကျောင်းသားထုအားလည်း မိမိတို့တောင်းဆိုချက် မည်မျှမှန်ကန်ကြောင်းကို ပို၍ သဘောပေါက်စေသည်။

မိန့်ခွန်းပြီးသည်နှင့် တပြိုင်နက် စီတန်းလှည့်လည်ပွဲကြီး စတင် ပြုလုပ်သည်။ ထောင်ပေါင်းများစွာသော ကျောင်းသူ၊ကျောင်းသားများသည် ကျောင်းဆောင်များကို လှည့်ပတ် ဆန္ဒပြကြသည်။ ယမန်နေ့ညကကဲ့သို့ပင် ရှည်လျားကွေ့ကောက်သော မြွေကြီးတကောင်က ကျောင်းဆောင်များကို လှည့်ပတ်သွားနေသည်ဟု ထင်ရသည်။ သို့သော်လည်း ဤမြွေကြီးမှာ ပိုမိုကြီးမားပြီး အနီရောင် သန်းနေလေသည်။ ခွပ်ဒေါင်းအလံတို့သည် နီရဲသော အရောင်ဖြင့် လေထဲတွင် တဖျပ်ဖျပ် လွင့်နေကြသည်။ ပိုစတာမျိုးစုံ ကိုင်ဆောင်ထားသော ကျောင်းသူ၊ ကျောင်းသားတို့သည် အသံကုန် ဟစ်အော်ကြွေးကြော်နေကြသည်။ ရှေ့ဆုံးမှ ကြီးမားလှသော ခွပ်ဒေါင်းအလံကြီးကို ဖြန့်လျက် ကျောင်းသား ၁၀-ယောက်ခန့် ကိုင်ဆောင်လာကြသည်။ ဘွဲ့နှင်းသဘင်ခန်းမဆောင်ရှေ့သို့ ရောက်လာသောအခါ နေ့ကျောင်းသူ၊ကျောင်းသာများပါ ပါဝင်လာသဖြင့် ပိုမိုများပြားလာသည်။

ကျောင်းသားထုကြီး တရပ်လုံးသည် တက္ကသိုလ်နယ်မြေထဲ၌သာ ငြိမ်းချမ်းစွာ ဆန္ဒပြခဲ့ကြသည်။ မိမိတို့ရသင့်သော အခွင့်အရေးအတွက် အေးချမ်းစွာ တောင်းဆိုခဲ့ကြခြင်းမျှသာ ဖြစ်သည်။

"ရဲဘော်တို့ ပညာရေး ပြုပြင်ပြောင်းလဲရေးကို စတင်မလုပ်ဘဲနဲ့ ချုပ်ချယ်ရေး စည်းကမ်းတွေကိုသာ စနစ်တကျ လုပ်ဆောင်နေတာကို ကျွန်တော်တို့ ဆက်လက် တိုက်ပွဲဝင်ရဦးမှာ ဖြစ်တယ်။ ပညာရေး ပြုပြင်ပြောင်းလဲရေး၊ အမျိုးသား

ပညာရေး တည်ဆောက်ရေးအတွက် ရှေ့လုပ်ငန်းတွေကို ဆက်လက်လုပ်ဆောင် ရလိမ့်ဦးမယ်။ မတရားကျောင်းဆောင်စည်းကမ်းတွေကိုလည်း ရုပ်သိမ်းဖို့ လက်ငင်းတိုက်ရဦးမှာ ဖြစ်တယ်။ ဒီတိုက်ပွဲတွေအတွက် အကောင်းဆုံးလက်နက်ဟာ ကျောင်းသားထုညီညွတ်ရေးပဲ။ ကျောင်းသားညီညွတ်ရေးကို မရမနေ တည်ဆောက်ပြီး ကျောင်းသားသမဂ္ဂရဲ့ ခွပ်ဒေါင်းအောင်လံအောက်မှာ စုစည်းညီညွတ်ပြီး ဆက်လက်တိုက်ပွဲဝင်သွားကြပါစို့”

သမဂ္ဂအမှုဆောင်တဦးက ဆန္ဒပြပွဲ နိဂုံးချုပ်မိန့်ခွန်းကို သမဂ္ဂ အဆောက်အဦးရှေ့တွင်ပေးသည်။ ရှည်လျားကျယ်လောင်သော လက်ခုပ်သံများဖြင့် နိဂုံးမိန့်ခွန်း ဆုံးသွားသည်။

(၉)

ဆန္ဒပြပွဲ ပြီးသွားသောအခါ ကိုတင်မြင့်နှင့် အခြားရဲဘော်များသည် သမဂ္ဂအောက်ထပ် လက်ဖက်ရည်ဆိုင်ထဲတွင် ထိုင်နေကြသည်။ အခြားကျောင်းသားတော်တော်များများလည်း မုန့်စားသူစား၊ ကော်ဖီသောက်သူသောက်နှင့် ဆိုင်ထဲတွင် ရှုပ်လျက်ရှိသည်။ သမဂ္ဂအဆောက်အဦ အပေါ်ထပ်တွင် ခရိုင်အသင်းတခုသည်လည်း မောင်မယ်သစ်လွင်ကြိုဆိုပွဲ ပြုလုပ်လျက်ရှိသည်။ ထိုအခိုက် အဓိပတိလမ်းဘက်မှ ကား ၃-စီး သမဂ္ဂ အဆောက်အဦသို့ ထိုးရပ်လိုက်သည်။ ကိုတင်မြင့်၏ ရှေ့တည့်တည့်က ထိုင်နေသူက ကားပေါ်မှ ဆင်းလာသူများကို ထကြည့်လိုက်မိရာ ရုတ်တရက်သော် ထိုသူသည် ပါးစပ်ဟလျက် ကားများ ရှိရာဘက်သို့ ကြောင်ကြည့်နေသည်။ ထို့နောက်မှ သတိရလာဟန်ဖြင့် “ဟာ စုံထောက်တွေ ပုလိပ်တွေပေါ့။ ရဲဘော်တို့ ပြေးကြ၊ ပြေးကြ။”

ဆိုင်တခုလုံး ရုတ်သဲရုတ်သဲ ဖြစ်သွားသည်။ ထွက်ပြေးသူ ပြေး၊ ထကြည့်သူ ကြည့်ကြဖြင့် ရှုပ်ယှက်ခတ်နေသည်။ ပုလိပ်များကလည်း တိုက်ပုံအင်္ကျီ ဝတ်ထားသူမှန်သမျှကို လိုက်ဖမ်းနေသည်။ ဆိုင်ထဲမှလည်း ဘယ်သူမှ မထွက်ရဟု ပိတ်ထားသည်။ ကိုတင်မြင့်တို့မှာ သထုံဆောင်ဘက်သို့ အားကစားရုံဘက်မှ ထွက်ပြေးကြသည်။

“ဟေ့ကောင်တွေ မပြေးကြနဲ့။ ရပ်လိုက်။ ပစ်လိုက်မယ်၊ ရပ်လိုက်ကြ။ ရပ်ကြ။”

သထုံလမ်းဘက်တွင် ဘယ်အချိန်ကရောက်နေမှန်း မသိသော ပုလိပ် ကင်းထောက်တအုပ်က ခြောက်လုံးပြူးကို ပြပြီးအော်လိုက်သည်။ အမှုဆောင်တဦးကို လူကြမ်းဂိုက်ပေါက်နေသော ဗလကြီးကြီး ပုလိပ်သုံးယောက်က ဝိုင်းဖမ်းလိုက်ကြသည်။ ကိုတင်မြင့်လည်း ပြေးမိပြေးရာသို့ ဖွတ်ပြေးရာ မိမိရှေ့တည့်တည့်မှ တိုက်ပုံအင်္ကျီ ဝတ်ထားသော စုံထောက်တဦး ကာဆီးနေသည်ကိုတွေ့ရသည်။

‘ဟေ့ကောင်၊ မပြေးနဲ့....အွန့်’

အရှိန်မသတ်နိုင်သဖြင့် ပုလိပ်ကို ကိုယ်လုံးဖြင့်ဝင်တိုက်မိရာ နှစ်ယောက်စလုံး မြက်ထဲတွင် လိမ့်သွားသည်။ ပြီးမှ လူငယ်ဖြစ်သော ကိုတင်မြင့်က ကပျာကသီလူးလဲထပြီး သထုံဆောင်ထဲ ဝင်ပြေးရသည်။ ရုတ်တရက်ထွက်ပြေးလာသဖြင့် လူစုကွဲကုန်သည်။ သထုံဆောင်ထဲ၌ ကွဲနေသူများနှင့် ပြန်တွေ့သည်။

“မင်းပါသွားတယ် အောက်မေ့လို့ကွာ၊ ကံကောင်းတယ်” ဝိုင်း၍ချီးကျူးကြသည်။

“ဗဆွေတော့ ပါသွားပြီ မောင်။ ငါကိုယ်တိုင်မြင်လိုက်တယ်။ သူက ရုန်းထွက်တော့ ပထမလွတ်သွားပြီး နောက်တခါ ထပ်မိတာ။ သူ့ကို ဝိုင်းချနေကြတယ်။”

“မောင်သက်လည်း ပါမယ်ထင်တယ်။ သူက ဟိုဘက်က ထွက်ပြေးတာကွ။ အဲဒီဘက်က ပုလိပ်တွေ မည်းနေတာပဲ” စိတ်မချမ်းသာစရာ သတင်းများပေတည်း။

(၁၀)

“ဟေး ကျောင်းသားတွေ လာကြဟေ့။ ဒို့ခေါင်းဆောင်တွေ ဖမ်းကုန်ပြီ။ ဝင်လုကြမယ်ဟေ့။”

ကျောင်းသားခေါင်းဆောင်များကို ရိုက်နှက်ပြီး ဖမ်းဆီးနေပြီ ဆိုသည့်သတင်းဆိုးကြီးမှာ အဆောင်အားလုံးသို့ တောမီးသဖွယ် ပြန့်သွားသည်။ ကျောင်းသားများကလည်း အဆောင်တိုင်းမှ ထွက်လာကြကာ သမဂ္ဂထဲသို့ဝင်ရန် ကြိုးစားသည်။ သို့သော် နောက်ကျသွားပေပြီ။ ပြည်သူလူထုကို ဖမ်းဆီးဖိနှိပ်သည့်ဘက်တွင်

အတွေ့အကြုံများလှပြီဖြစ်သော ပြည်သူ့ရဲအဖွဲ့ကြီးက ကျောင်းသားများ မဝင်နိုင်စေရန် ကြိုတင်စီစဉ်ပြီးသား ဖြစ်သည်။ အမိကရဏ်းနှိမ်နင်းရေး ရဲသားပေါင်းများ စွာသည် သမဂ္ဂရှေ့တွင် စီတန်းလျှက် တက်လာသော ကျောင်းသားများကို အစိမ်းလိုက်ဝါးတော့မည်ကဲ့သို့ ကြည့်နေကြသည်။

“ဟော့ကောင်တွေ၊ ဖမ်းထားတဲ့ ကျောင်းသား တွေအားလုံးကို လွှတ်ပေးကွ။ လာကြဟေ့ ဝိုင်းကြမယ်။ ဝင်လုကြစို့။”

လက်နက်ဆို၍ အပ်တချောင်းမျှပင်မရှိသည့် ကျောင်းသားများသည် မကျေနပ်သံဖြင့် အော်ဟစ်လာ ကြပြီး တဖြည်းဖြည်း ရှေ့သို့တိုးလာသည်။

“မင်းတို့ ရှေ့မတိုးခဲ့နဲ့နော်။ မတိုးခဲ့နဲ့။” အခုရပ် လိုက်။ ကဲကွာ၊ ဒိုင်း၊ ဒိုင်း၊ ဒိုင်း။

ပုလိပ်တယောက်က ပြောပြောဆိုဆိုနှင့် မျက်ရည်ယိုဗုံးသုံးလုံး ပစ်သွင်းလိုက်သည်။ ရုတ်တရက် ကျောင်းသားများ ရှသွားသည်။ ထိုစဉ်တွင် ပုလိပ်များက နံပါတ်တုတ်များဖြင့် ဝင်ရိုက်ကြသည်။ ကျောင်းသား များသည် မန္တလေးဆောင်ဝန်းထဲသို့ ဝင်ပြေးကြရပြီး တချို့လည်း ဘွဲ့နှင်းသဘင်ဘက်သို့ အဓိပတိလမ်း အတိုင်း ဆုတ်လိုက်ရသည်။ သို့သော်လည်း ပုလိပ်များ က သမဂ္ဂသို့ပြန်ဆုတ်သွားကြသည်။ ထိုအချိန်တွင် စစ်ကိုင်း၊ ပဲခူး၊ ပင်းယ၊ အင်းဝ၊ သထုံ အဆောင်တို့မှ ကျောင်းသားများသည် တပ်ချီ၍ အဓိပတိလမ်းအတိုင်း ဆင်းလာကြသည်။ ထိုအထဲတွင် ကိုတင်မြင့်လည်း ပါလာသည်။ ကျောင်းသားအုပ်ကြီးသည် ခွပ်ဒေါင်း အလံများကို ကိုင်ဆောင်လျှက် သမဂ္ဂသို့ ချီတက်လာ ကြသည်။

“လာကြဟေ့၊ ရဲဘော်တွေ သွားကူမယ်။ ခေါင်းဆောင်တွေ ဝင်လုမယ်။ ပုလိပ်တွေကို ကျောင်း နယ်မြေက မောင်းထုတ်ကြ။”

“မျက်ရည်ယိုဗုံးတွေနဲ့ ပစ်နေတယ်။ သတိထား ရှောင်ကြဟေ့။ အဝတ်ရေဆွတ်ပြီး အုပ်။ အဝတ် ရေဆွတ် အုပ်။”

ကမာရွတ် ဂါတ်တဲရှေ့တွင် အသင့်စောင့်နေ သော ရဲထရပ်ကားတစီးသည် သမဂ္ဂအနီးရှိ အဝိုင်းလေး ရှေ့တွင် ရပ်လိုက်သည်။ ထိုကားထဲမှ လက်နက်ပစ္စည်း အစုံပါသည့် ရဲများ ထပ်ရောက်လာပြီး အားဖြည့်လိုက် သည်။

ကျောင်းသားများမှာ တသုတ်ပြီးတသုတ် သမဂ္ဂ ဘက်သို့ လိုမ့်ပြီးဆင်းလာကြသည်။ သမဂ္ဂတဝိုက်ကို ဝိုင်းထားပြီး ဟစ်အော်ဆန္ဒပြနေကြသည်။ တက္ကသိုလ် စာတိုက်ဘက်တွင်လည်း ပြည်၊ တကောင်း၊ ပုဂံတို့မှ ကျောင်းသားများက စုရုံးပြီး ဖမ်းထားသူများ ပြန်လွှတ် ရန်၊ ရဲများထွက်သွားရန် အော်ဟစ်နေကြသည်။

ညနေစောင်းလာချိန်တွင် ကျောင်းသား အင်အားမှာ ပိုလို့များလာသည်။ ရာမည၊ အမရ၊ မန္တလေး ဆောင်များတွင်မူ လမ်းဘက်လှည့်သည့် အဆောင် ဝရံတာများမှနေ၍ စစ်ပုလိပ်များ ထွက်သွားရေးကို တောင်းဆိုနေကြသည်။ ထိုအချိန်တွင် ကျောင်းသား များက အဓိပတိလမ်းတခါးမကြီးကို ပိတ်ထားလိုက်ကြ သည်။ တက္ကသိုလ်ရိပ်သာလမ်းတလျောက်ရှိ ဝန်းထရံ သံတိုင်များကို ကိုင်၍ စစ်ပုလိပ်များထွက်သွား၊ ဖမ်းထား တဲ့ ကျောင်းသားတွေ လွှတ်ပေး စသဖြင့် အသံကုန် ဟစ်အော် နေကြသည်။

ကျောင်းသားများ၏ ဆန္ဒကို အဖြေပေးသည့်အလား အဝိုင်းလေးသို့ ဖ-ဘီး စစ်ကားကြီးသုံးစီး ရောက်လာ ပြီး လက်နက်အပြည့်တပ်ထားသော စစ်သားများ ဆင်း၍လာကြသည်။ ကျောင်းသားများ၏ အော်ဟစ်သံ များမှာ ပို၍ကျယ်လောင်လာသည်။ ပို၍ဒေါ ဖြစ်လာကြ သည်။ သို့သော်လည်း ထိုစစ်သားများသည် အေးဆေး စွာပင် ပုလိပ်အားလုံးကို အလဲထိုး လဲလှယ်လိုက်ကြ သည်။ စစ်ဗိုလ်အကြီးအငယ်တို့သည်လည်း ကားငယ် ကလေးများနှင့် ရုတ်ချည်းရောက်လာသည်။

တက္ကသိုလ်ရိပ်သာလမ်းမကြီးကို အင်းလျား လမ်းမှ ကမာရွတ်အဝိုင်းအထိ ပိတ်ဆို့ထားပြီး အင်းလျားလမ်းဆုံအနီးတွင် စစ်ရဲများချထားလိုက် သည်။ ဟံသာဝတီအဝိုင်းမှ ကမာရွတ်အဝိုင်းအထိ ပြည် လမ်းတလျောက်ကိုလည်း မည်သည့်အချိန်ကပင် ပိတ် ထားလိုက်သည်မသိ။ စစ်ကားကြီးများသာ စစ်သား အပြည့်နှင့် ရပ်နေသည်ကို တွေ့ရသည်။ စနစ်တကျ ရှိ

လှလွန်းသည်တကား။

"ဟော့၊ စစ်သားတွေ ထွက်သွားကြ။ တက္ကသိုလ်နယ်မြေမှာ စစ်သားတွေ မမြင်ချင်ဘူး။ ကျောင်းသားတွေ လွှတ်ပေးကွ။"

"ဟော့ကောင်တွေ ထွက်။"

တယောက်တပေါက်နှင့် မတရား အခြိမ်းအခြောက်ခံနေရမှုကို ဒေါသတကြီး တုန့်ပြန်ကြသည်။ ကျောင်းသားထုကြီးမှာ ဝန်းထရံရှည်ကြီး၏ တဘက်တွင် စီတန်းပြီး အော်ဟစ်နေသည်။ ခွပ်ဒေါင်းအလံများကား ရဲရဲသောအရောင်များဖြင့် လေတွင် တလွင့်လွင့်ရှိကြသည်။ တဖြည်းဖြည်းနှင့် မှောင်စပြုလာသည်။

"မင်းတို့ အေးအေးဆေးဆေး နေကြ၊ မဆူကြနဲ့။ ကျောင်းဆောင်ထဲ ကောင်းကောင်းမွန်မွန်နဲ့ ပြန်ကြရင်ကောင်းမယ်" ယူနီဖေါင်းဝတ် လူကြီးတယောက်က ငေါက်ပြောလိုက်သည်။

"ကျွန်တော်တို့ ခေါင်းဆောင်တွေကို လွှတ်ပေးပါ။ ခင်ဗျားတို့ စစ်တပ်တွေကို တက္ကသိုလ်နယ်မြေက ရုပ်သိမ်းပေးပါ။ ကျွန်တော်တို့က ကျူးကျော်နေတာမဟုတ်ဘူး" ကျောင်းသား ခေါင်းဆောင်တဦးက ပြန်ပြောလိုက်သည်။

မောင်းပြန် သေနတ်မျိုးစုံကို ကိုင်ဆောင်ထားကြသည့် ခြေမြန်တပ်သားများနှင့် ကျောင်းသားများအကြားဝယ် သံတိုင်များထောင်ထားသည့် ဝန်းထရံ ခြားသည်။ ခင်မောင်သန်းသည် အဆောင်ရှေ့ရှိ တံခါးပေါက်မှနေ၍ ဆန္ဒပြနေကြသည်။ ကျောင်းသားအုပ်ကြီးတွင် စစ်တပ်တွေ ဒို့နယ်မြေက ထွက်သွား၊ ထွက်သွားဟု အော်ဟစ်နေသည်။ တင်မောင်မြင့်ကိုမူ အဓိပတိလမ်းတံခါးမကြီးတွင် စစ်ဗိုလ်ကြီးများနှင့် အချေတင် စကားပြောနေသည်ကို ရိပ်ကနဲ မြင်လိုက်သေးသည်။ ထိုနောက် ရွှေဘိုနှင့် ဒဂုံဆောင်ဘက်မှ ထပ်မံရောက်လာသော ကျောင်းသားများကြောင့် မျက်ခြေပြတ်သွားသည်။

(၁၁)

ဝင်လေ့မည့်ဆဲဆဲနေရောင်တွင် ခွပ်ဒေါင်းအလံများ၏အရောင်သည် ပို၍ နီရဲနေသည်ဟု ထင်ရသည်။ ကျောင်းသားအများစုမှာ ဝန်းထရံသံတိုင်များကို ကပ်လျှက် စစ်သားတွေ ထွက်၊ ကျောင်းသားတွေ လွှတ်ဟု အော်ဟစ်နေဆဲဖြစ်သည်။ အချို့မှာလည်း မြေကြီးပေါ်သို့ထိုင်လျှက် အော်ဟစ်ရလွန်းသဖြင့် ကွဲအက်နေသော လည်ချောင်းသံဖြင့် စကားပြောနေကြသည်။ ကျောင်းသားများ၏လက်နက်ကား ကြွေးကြော်ခြင်းပေတည်း။

ခင်မောင်သန်းသည် မျက်နှာထားခက်ထန်လှသော စစ်ဗိုလ်တဦးကို ကြည့်လျက် ကြွေးကြော်သံကို တအား ဟစ်လိုက်သည်။ သို့သော် ဆုံးသည်ထိ အော်လိုက်ရသည်မဟုတ်။ ရုတ်တရက်ဆိုသော် မိုးကြိုးအစင်း ၁၀၀ ခန့်တပြိုင်နက်ပစ်လိုက်သကဲ့သို့ ခံစားလိုက်ရသည်။ မိမိမှာလည်း မြေကြီးပေါ်သို့ လဲကျသည်၊ ကျောင်းသားများလည်း ပြေးလွှားနေကြလျက် ရှုပ်ယှက်ခတ်နေသည်။ ဘာဖြစ်နေပါလိမ့်ဟုလည်း အောက်မေ့သည်။

ခွပ်ဒေါင်းအလံကို ကိုင်ထားသော ရဲဘော်တယောက် အော်ဟစ်ရင်း လဲသွားသည်ကို မြင်လိုက်သည်။ ကျသွားသော ရဲဘော်မှာ လူကိုယ်တိုင် လဲသော်လည်း အလံကို အံကြိတ်ပြီး မလဲအောင် ကိုင်ထားသည်။ အလံကား လေထဲတွင်လွင့်လျက်။ ခင်မောင်သန်း၏ မှုန်ဝါးဝါး မျက်လုံးများအဖို့ အနီရောင်များ ဖြာထွက်နေသည်ဟု ထင်သည်။ သို့သော် ထိုကျောင်းသားဆီသို့ ဘရင်းဂန်းကိုင် စစ်သားတဦးက ဝန်းထရံအုတ်တိုင်ကို မှီလျှက် ကျည်တကပ်စာမျှ ဆွဲ၍ထည့်လိုက်သည်။

အလံမှာ ကျောင်းသားလက်မှ လွတ်သွားပြီး ဝန်းထရံတွင် မှီလျက် ထောင်နေသည်။ ခွပ်ဒေါင်းအလံကား လေထဲတွင်လွင့်လျက်၊ ကျောင်းသားများကား သွေးအိုင်ထဲတွင် လဲလျက်။

ခင်မောင်သန်းသည် အဆောင်ဘက်သို့ ဝပ်တွား၍ သွားနေရသည်။ တမိုးလုံးမှာလည်း ကျည်ဆန်များ ဝဲလျက် တရှီရှီဖြင့် မှန်လျက်ရှိသည်။ အဆောင်အပေါ်ထပ်မှ ကျောင်းသားလေးဦး သေနတ်မှန်ပြီး ကျသွားသည်ကိုလည်း မြင်လိုက်ရသည်။ အချို့မှာလည်း အဆောင်ထဲဝင်အပြေးမှာပင် တံခါးဝ၌ (လဲကျ) သွားကြသည်။

ပတ်ဝန်းကျင်တခုလုံး မောင်းပြန်သေနတ်

တို့၏ အဆက်မပြတ် ပစ်သံများဖြင့် ဖုံးလွှမ်းနေသည်။ မိမိမျက်စိရှေ့တွင် များပြားလှသော ကျောင်းသားတို့ ထိခိုက်သေကျေကြသည်ကို မြင်လိုက်ရသည်။ သေနတ်သံများသည် တက္ကသိုလ်တခုလုံးကိုသာမက၊ တပြည်လုံးသို့ပင် ဟိန်းသွားလေသည်တကား။

မန္တလေး အဆောင်၊ ရာမ၊ အမရဆောင်များရှေ့တွင် မြင်ရက်စရာမရှိပေ။ ရက်ရက်စက်စက် သတ်ဖြတ်ကြသည်။ မသေမရှင်များကိုလည်း သတ်ပစ်ကြသည်။ ခန္ဓာကိုယ်ကိုသာ သတ်ပစ်နိုင်သော်လည်း မတရားမှုကို ခုခံမည့် စိတ်ဓါတ်ကိုကား ဘယ်သောအခါမှ ချေမှုန်း၍ မရနိုင်ပေ။ နောက်ဆုံးအချိန်တွင် လူသတ်ဘီလူးများနှင့် စေခိုင်းသူတို့က အော်ဟစ်ဆန္ဒပြကြသူများကိုငင်း၊ မိမိကိုယ်၏ ဒဏ်ရာမှ စီးကျလာသောသွေးဖြင့် ဇူလိုင် ၇-ရက် ၁၉၆၂-ခုပါ ကမ္ဘည်းထိုးခဲ့သည့် အာဇာနည်များကိုငင်း၊ ကျောင်းသားအခွင့်အရေး တိုက်ပွဲတွင် ရဲဝံ့စွာ အသက်ပေးသွားကြသူအားလုံးကို သမိုင်းက ကလဲ့စားချေ၍ ပေးပေလိမ့်မည်။ အမှန်တရားသည် မုချ အောင်ပွဲခံရမည်သာ ဖြစ်သည်။

(၁၂)

ည ၁၂-နာရီ ကျော်နေပေပြီ။ တက္ကသိုလ်နယ်မြေတခုလုံးမှာ တိတ်ဆိတ်ငြိမ်သက်နေသည်။ သို့သော်လည်း အဆောင်များတွင်မူ မည်သူမျှအိပ်မနေကြပေ။ ဒဏ်ရာရသူများကို ပြုစုသူက ပြုစုကြ၊ သေဆုံးသွားရှာကြသူများကို ပြင်ဆင်သူ၊ လုပ်ကိုင်ပေးသူပေးနှင့် အလုပ်များနေကြသည်။ အလုပ်မရှိသူဟူ၍ မရှိ။ အားလုံးအလုပ်ရှုပ်လျက် ရှိသည်။

“ဟေ့ကောင်တွေ ထွက်သွား၊ ထွက်သွား။ လူသတ်သမားတွေ ထွက်သွားကြ။” ညဥ့်၏တိတ်ဆိတ်ခြင်းကို ဒေါသကြီးလှသည့် အသံတသံက ဖြိုခွင်းလိုက်သည်။

“ရဲဘော်၊ ရဲဘော် မအော်ပါနဲ့၊ အိပ်ပါ။ ဘယ်နှယ်နေသေးသလဲ။ သိပ်နာနေသလား။ သက်သာအောင် အိပ်လိုက်ပါ။”

“အော်မယ်ကွ။ လူသတ်သမားတွေထွက်သွား။ တယောက်မကျန် ထွက်ကြ။” ကယောင်ကတန်းနှင့် လျှောက်၍ အော်နေသည်။

“ကျုပ် ဘယ်ရောက်နေသလဲဟင်။ ကိုတင်မြင့်ကော သူသေပြီ မဟုတ်လားဟင်။ အလံကိုင်ရင်း လဲသွားတာ မြင်လိုက်တယ်။ ကိုတင်မြင့်ကို သတ်လိုက်ကြပြီ မဟုတ်လား။”

“ရဲဘော်၊ သိပ်မအော်ပါနဲ့။ ဒို့ပြင်ရဲဘော်တွေ အိပ်နေကြတယ်။ သူတို့လည်း ဒဏ်ရာတွေနဲ့ပဲ။ ကိုတင်မြင့်ရှိပါတယ်။ အိပ်ပါတော့၊ အိပ်ပါတော့။ ဒါမှ ဒဏ်ရာသက်သာလာလိမ့်မယ်။”

သတိမရတချက်၊ ရတချက်နှင့် ခင်မောင်သန်းသည် မေးကနဲ ပြန်၍ အိပ်ပျော်သွားသည်၊

ရုတ်တရက် အဆောက်ကြီးတခုလုံးတုန်သွားပြီး ကမ္ဘာပျက်သကဲ့သို့အသံကြီး ပေါ်ထွက်လာသည်။ ခင်မောင်သန်းသည် မလှုပ်မယှက်နှင့် မျက်လုံးပြူးပြီး မျက်နှာကျက်ကို စိုက်ကြည့်နေလေသည်။ ထို့နောက် အခန်းအပြင်ဘက်သို့ ပြေးထွက်သွားပြီး ဝရံတာကို အားပြု၍ သမဂ္ဂအဆောက်အဦကြီးဘက်သို့ ကြည့်လိုက်သည်။

သမဂ္ဂ အဆောက်အဦကြီးဘက်သို့ မယုံနိုင်သော မျက်နှာထားဖြင့် ကြောင်၍ ကြည့်နေသည်။ ထိုနောက် အံကြိတ်၍ “ဟုတ်တယ်။ ပိုပြီးညီညွတ်ရမယ်။ ရှေ့မှာ တိုက်ပွဲတွေ ရှိသေးတယ်။” ဟု ငြီးတွားရင်း လဲကျသွားသည်။

(၁၃)

ပြူထွက်စ နေမင်း၏ ရောင်ခြည်သည် အရှေ့ကောင်းကင်ပြင် တခုလုံးကို ရဲရဲနီနေစေသည်။ အင်းလျားကန်ဘက်မှ လန့်ဖြန့်၍ ပျံလာဟန်ရှိသော ကျီးကန်းတအုပ်သည် တက္ကသိုလ်ဘက်သို့ ဦးတည်လာကြသည်။ ယမ်းခိုးများ ဝေလျက် ပြိုပျက်နေသော လွတ်လပ်ရေးသမိုင်းဝင် သမဂ္ဂ အဆောက်အဦကြီးပေါ်သို့ ခေတ္တမျှပျံဝဲနေကြပြီး နီရဲသော အရှေ့ကောင်းကင်ပြင်တွင် တဖြည်းဖြည်း ဝေးသွားကြသည်။

ဇူလိုင် (၇) ရက်အရေးတော်ပုံ သတ္တိပြောင်စွာဖြင့် အသက်ပေးသွားကြသည့် ရဲဘော်အားလုံးသို့ အလေးပြုလျက်–

**မောင်နီရဲ**

(ခွပ်ဒေါင်း ဇူလိုင် ၇ အရေးတော်ပုံ မှတ်တမ်း မှ —)

# ၁၉၆၂ ခုနှစ်၊ ဇူလိုင် ၇ ရက် ကျောင်းသားအရေးတော်ပုံ

၁။ လွတ်လပ်ပြီး မြန်မာနိုင်ငံရဲ့သမိုင်းမှာ ၁၉၅၈-၆၂ ခုနှစ် ကာလဟာ ၁၉၄၈-၄၉ ခုနှစ် ပြည်တွင်းစစ် စတင်ခဲ့တဲ့ သမိုင်းနဲ့ယှဉ်ရင် ဒုတိယ အကြီးကျယ်ဆုံးသမိုင်းကာလဖြစ်တယ်လို့ ဆိုရပါမယ်။ သဘာဝအတိုင်းပါပဲ၊ ၁၉၅၈-၆၂ ခုနှစ် သမိုင်းကာလဆိုတာဟာ စင်စစ် ၁၉၄၈-၄၉ ခုနှစ် သမိုင်းရဲ့ အဆက်နဲ့ အကျိုးဆက်ဖြစ်ပါတယ်။ ၁၉၄၈-၄၉ ပြည်တွင်းစစ်က လွတ်လပ်ရေးတိုက်ပွဲအတွင်း မြန်မာတို့ရရှိခဲ့တဲ့ အမျိုးသားသွေးစည်းညီညွတ်မှုကို (လုံးဝဥဿုံ) ဖြိုခွဲ ဖျက်ဆီးပစ်ခဲ့တာဖြစ်ပါတယ်။

၁၉၅၈-၆၂ နိုင်ငံရေးအကျပ်အတည်းကတော့ လွတ်လပ်ရေးအာဏာရလာတဲ့ အာဏာရ ဖဆပလ အဖွဲ့ချုပ်အတွင်း ဂိုဏ်းကွဲခြင်းဖြစ်ပါတယ်။ ၁၉၄၈-၄၉ ခုနှစ်အတွင်း ဖြစ်ပွားခဲ့တဲ့ ဂိုဏ်းကွဲမှုက မာ့က်စ်ဝါဒယုံကြည်သူ မျိုးချစ်များ၊ တိုင်းရင်းသားမျိုးနွယ်စု မွန်၊ ကရင် မျိုးချစ်များနဲ့ ဖဆပလအဖွဲ့ချုပ်နဲ့ အစိုးရဖြစ်တဲ့ အာဏာရအုပ်စုများအကြား ဂိုဏ်းကွဲကြခြင်းဖြစ်ပါတယ်။ အခု ၅၈-၆၂ ခုနှစ် ကာလကတော့ ၁၉၅၆ ဖေဖော်ဝါရီ ၂၆ ရွေးကောက်ပွဲမှာ အတိုက်အခံ ပမညတများက ကိုယ်စားလှယ် ၄၆ ဦးနဲ့ မဲဆန္ဒပေးသူ ၁.၅ သန်းခန့်က ထောက်ခံခဲ့ခြင်း၊ ဖဆပလ အဖွဲ့ချုပ်နဲ့ အစိုးရအတွင်း လူပုဂ္ဂိုလ်နဲ့ အစုလိုက်ပဋိပက္ခများ ဖြစ်ပေါ်လာခြင်း၊ အာဏာရအစိုးရရဲ့ တီယူစီဘီ၊ ဗတလစ၊ ဗလမစ၊ စပကသ စတဲ့ လူထုလူတန်းစား အဖွဲ့အစည်းများအတွင်း အကျင့်ပျက် ခြစားမှုများ ဖြစ်ပေါ်နေခြင်း စတဲ့ ပြဿနာများကြောင့် ဖဆပလ အဖွဲ့ချုပ်နဲ့ အစိုးရအတွင်း လွှတ်တော်တွင်းဂိုဏ်းကွဲမှုများ ဖြစ်ပေါ်ခဲ့ရပါတယ်။ အတိုက်အခံ ပမညတများရဲ့ ထောက်ခံမှုနဲ့ ဦးနု၊ သခင်တင်နဲ့ သခင်ကျော်ဒွန်း ကိုယ်စားပြုတဲ့ သန့်ရှင်းဖဆပလများက လွှတ်တော်ထဲမှာ (၈) မဲအသာနဲ့ အစိုးရဖြစ်လာခဲ့ပါတယ်။ ဒီဂိုဏ်းကွဲမှုများဟာ စစ်ဖက် အဖွဲ့အစည်းများအပေါ်ကိုပါ ရိုက်ခတ်လာတဲ့အတွက် ဝန်ကြီးချုပ်ဦးနုနဲ့ (ကကချုပ် ဖြစ်တဲ့) ဗိုလ်ချုပ်ကြီးနေဝင်းတို့ရဲ့ (၂၆-၁၀-၅၈) အပြန်အလှန်ပေးစာနှစ်စောင်ပါ သဘောတူညီချက်များအရ အခြေခံဥပဒေ ပုဒ်မ ၁၁၆ နဲ့အညီ ဗိုလ်ချုပ်ကြီးနေဝင်းထံ (၆)လ အာဏာလွှဲပေးခဲ့ပါတယ်။ '(၆)လအတွင်း ရွေးကောက်ပွဲကျင်းပရန် လုံခြုံရေး အခြေအနေများ မရှိသေးဘူး' ဆိုတဲ့ အကြောင်းပြချက်နဲ့ ပုဒ်မ ၁၁၆ ကို ၁၉၅၉ ခုနှစ် မေ ၉ ရက်မှာ ပြင်ဆင်ပြီး ကကချုပ်ကို ဒုတိယ (၆) လ ထပ်မံတိုးချဲ့ အာဏာပေးအပ်ခဲ့ပါတယ်။ ပုဒ်မ ၁၁၆ ပြင်တာကို တည်မြဲနဲ့ သန့်ရှင်းဖဆပလ တို့က ထောက်ခံမဲပေးခဲ့ပြီး၊ ပမညတက ကန့်ကွက်ခဲ့ပါတယ်။ ၁၉၆၀၊ ဖေဖော်ဝါရီ ၆ ရက် ရွေးကောက်ပွဲနဲ့ အစိုးရအာဏာရလာတဲ့ ပထစ အစိုးရထံမှ အာဏာကို မတ် ၂ ရက်၊ ၁၉၆၂ ခုနှစ်မှာ 'တော်လှန်ရေးကောင်စီ' နာမည်နဲ့ စစ်တပ်က အာဏာသိမ်းယူခဲ့ပါတယ်။ အညမည အတွေးအခေါ်၊ မဆလလမ်းစဉ်၊ မဆလပါတီ စတဲ့ အဆင်သစ်၊ အသွင်သစ်များနဲ့ စစ်တပ်က အာဏာသိမ်းယူခဲ့တာပါ။ ဒီအာဏာသိမ်းမှုဟာ 'ရှစ်လေးလုံး ဒီမိုကရေစီအရေးတော်ပုံ'အထိ ရှည်ကြာခဲ့ပါတယ်။

၁၉၅၈-၆၂ နိုင်ငံရေးအဖြစ်အပျက်များဟာ အာဏာရအုပ်စိုးသူများအတွင်း (၁) ဦးနု၊ သခင်တင် (ပထစ) ဂိုဏ်း/အစု၊ (၂) ဦးကျော်ငြိမ်း၊ ဦးဗဆွေ တည်မြဲဖဆပလအစုနဲ့၊ (၃) ဆိုရှယ်လစ်ပါတီ တပ်မှူးကြီးများဖြစ်တဲ့ ဗိုလ်ချုပ်ကြီးနေဝင်း၊ ဗိုလ်မှူးချုပ်အောင်ကြီး၊ ဗိုလ်မှူးချုပ်အောင်ရွှေ စတဲ့ တပ်မှူးကြီးများကတစု အုပ်စုသုံးစုဖြစ်လာခဲ့ပါတယ်။

၂။ ဒီအာဏာသိမ်းမှုနဲ့ပတ်သက်ပြီး အာဏာရ ပထစပါတီ၊ ဝိဓူရသခင်ချစ်မောင် (ဆိုရှယ်နီ/မလညပ)များက ထောက်ခံခဲ့ကြပါတယ်။ ရဲဘော်တင်ရွှေ၊ ရဲဘော်ချမ်းအေး/ မောင်စူးစမ်းတို့က ထောက်ခံခဲ့ကြပါတယ်။ လက်နက်ချ အညံ့ခံ သခင်တင်မြက 'သမိုင်းတစ်ခေတ်သစ်ခဲ့ပြီ'ဆိုတဲ့ 'မဆလချီးကျူးစာ'ကို 'မြဝတီမဂ္ဂဇင်း'မှာ ရေးခဲ့ပါတယ်။ 'ဥပဒေတွင်းမာ့က်စ်ဝါဒီများ'က လမ်းစဉ်ပါတီထဲမှာ ပါဝင်လှုပ်ရှားကြပါ

တယ်။ ၁၉၅၃၊ အောက်တိုဘာလ ကျောင်းတလပိတ် အရေးတော်ပုံတိုက်ပွဲကာလမှာ လွတ်လပ်ရေးခေတ်ဦး ကျောင်းသားခေါင်းဆောင်များဖြစ်ခဲ့ကြတဲ့ ဦးလှဝင်း၊ ဦးဘကောင်း၊ ဦးစိုးသိမ်း၊ ဦးဇော်ဝင်း၊ ဦးတင်ထွတ်၊ ဦးခင်မောင်အုန်း၊ ဦးမြင့်သိန်း၊ ဦးမင်းထွေး စတဲ့သူများဟာ ပညာရေးဝန်ကြီးဌာန၊ မဆလပါတီဌာနချုပ်၊ လမ်းစဉ်လူငယ် စတဲ့ နေရာများမှာ ရာထူးအမျိုးမျိုး ဝင်ယူခဲ့ကြပါတယ်။

၃။ ဗမာနိုင်ငံလုံးဆိုင်ရာ ကျောင်းသားသမဂ္ဂများအဖွဲ့ချုပ် (ဗကသများ အဖွဲ့ချုပ်)၊ ရန်ကုန်တက္ကသိုလ်ကျောင်းသားများသမဂ္ဂ (တကသ)နဲ့ ရန်ကုန်ခရိုင်ကျောင်းသားများသမဂ္ဂ (ရကသ) စတဲ့ ကျောင်းသားသမဂ္ဂများနဲ့ ကျောင်းသားထုကြီးဟာ လွတ်လပ်ရေးခေတ်ဦးမှာ ဖြစ်ပေါ်ခဲ့တဲ့ နယ်ချဲ့ဆန့်ကျင်ရေး၊ လွတ်လပ်ရေးထိန်းသိမ်းရေး၊ ငြိမ်းချမ်းရေး၊ ဒီမိုကရေစီရေး လှုပ်ရှားမှုများမှာ အရေးပါတဲ့ အင်အားစုတစုအဖြစ်အမြဲပါဝင်ခဲ့ကြပါတယ်။

ကျောင်းသားများနဲ့ ကျောင်းသားသမဂ္ဂများဟာ ဆရာကြီး သခင်ကိုယ်တော်မှိုင်း ဦးစီးဆောင်ရွက်နေတဲ့ ပြည်တွင်းစစ် ရပ်စဲရေး၊ ပြည်တွင်းငြိမ်းချမ်းရေး လှုပ်ရှားမှုကြီးအတွင်းမှာ ရှေ့တန်းက ပါဝင်ခဲ့ကြပါတယ်။ ၁၉၅၆၊ ၁၉၅၈၊ ၁၉၆၃ ခုနှစ် ပြည်တွင်းငြိမ်းချမ်းရေး အင်အားပြပွဲကြီးများအတွင်းမှာ ကျောင်းသားများဟာ ထုနဲ့ထည်နဲ့ ပါဝင်ခဲ့ကြပါတယ်။ ၁၉၅၈ ခုနှစ်၊ ဇွန်လအတွင်းမှာ 'အာဏာရ ဖဆပလအဖွဲ့ချုပ်'နဲ့ 'အစိုးရ'အတွင်း ဂိုဏ်းကွဲသွားခဲ့ပါတယ်။ ကျောင်းသားသမဂ္ဂကြီးများက အတိုက်အခံ ဒီမိုကရေစီအင်အားစုများနှင့်အတူ ငြိမ်းချမ်းရေး၊ ဒီမိုကရေစီရေးအတွက် ဦးနုခေါင်းဆောင်တဲ့ သန့်ရှင်းဖဆပလ အဖွဲ့ချုပ်နဲ့ အစိုးရကို ထောက်ခံခဲ့ကြပါတယ်။ သန့်ရှင်းဖဆပလအစိုးရက ကာကွယ်ရေးဦးစီးချုပ်ကို ပထမအကြိမ် (၂၆.၁၀.၅၈) အာဏာလွှဲတာရော၊ ပုဒ်မ ၁၁၆ ကို ပြင်ပြီး ဒုတိယအကြိမ် (၉.၅.၅၉) အာဏာလွှဲတာကိုရော သမဂ္ဂကြီးများက ပြတ်ပြတ်သားသား ကန့်ကွက်ဆန္ဒပြခဲ့ကြပါတယ်။ ဒီအာဏာလွှဲမှုများဟာ 'စစ်အာဏာသိမ်းမှုမှတပါး' ဘာမှမဖြစ်နိုင်ဘူးလို့ ကျောင်းသားများက ဖော်ထုတ် ကန့်ကွက်ခဲ့ကြပါတယ်။

၁၉၅၆ ခုနှစ်မှစပြီး တိုင်းရင်းသားမျိုးနွယ်စု ဒီမိုကရေစီအင်အားစုများက 'ဖွဲ့စည်းပုံအခြေခံဥပဒေပြင်ဆင်ရေး' အတွက် စည်းရုံးလှုံ့ဆော်မှုများ ပြုလုပ်လာခဲ့ကြပါတယ်။ ၁၉၅၉ ခုနှစ်ထဲမှာ မဟာဒေဝီ (စဝ်ရွှေသိုက်ရဲ့ဇနီး)နဲ့ ခွန်ကြာနု၊ စဝ်နွံတို့ ခေါင်းဆောင်တဲ့ ရှမ်းအမျိုးသားပဒေသရာဇ်များက ပုန်ကန်ခဲ့ကြပါတယ်။ တဖက်မှာလည်း မွန်၊ ရခိုင်၊ ချင်း အမျိုးသားများရဲ့ 'ပြည်နယ်တောင်းဆိုမှုများ'လည်း ဖြစ်ပေါ်လာနေခဲ့ပါတယ်။ ဗုဒ္ဓဘာသာကို နိုင်ငံတော်ဘာသာအဖြစ် ပြဌာန်းခဲ့တဲ့အတွက် အခြားဘာသာရေးဂိုဏ်းကြီးများရဲ့ မကျေနပ်မှုများလည်း ဖြစ်ပေါ်နေခဲ့ပါတယ်။

ဒီအခြေအနေများကို အကြောင်းခံပြီး 'တိုင်းပြည်ဟာ ချောက်ထဲကျဖို့ လက်နှစ်လုံးပဲလိုတော့တယ်'ဆိုတဲ့ အကြောင်းပြချက်နဲ့ (ကကချုပ်)က ဥက္ကဋ္ဌ အဖြစ်ဆောင်ရွက်တဲ့ 'တော်လှန်ရေးကောင်စီ'က (၂.၃.၁၉၆၂) မှာ အာဏာသိမ်းယူခဲ့ပါတယ်။ ဒီအာဏာသိမ်းမှုဟာ ရှစ်လေးလုံး ဒီမိုကရေစီအရေးတော်ပုံကြီးအထိ သက်တမ်းရှည်ကြာခဲ့ပါတယ်။ ဒီစစ်အာဏာသိမ်းမှုကို အနောက်အုပ်စုက သူတို့ရဲ့ 'ကွန်မြူနစ်ဆန့်ကျင်ရေး'အကျိုးအတွက် 'အသိအမှတ်ပြု' ဆက်ဆံခဲ့ပြီး စစ်ရေး၊ သံတမန်ရေး ထောက်ခံမှုများပေးခဲ့ပါတယ်။

'၁၉၆၂ မတ်လအာဏာသိမ်းမှု'ကို ကျောင်းသားများနဲ့ ကျောင်းသားသမဂ္ဂကြီးများက ကျောင်းသားထု အစည်းအဝေးကြီးများ ကျင်းပပြီး ကန့်ကွက်ခဲ့ကြပါတယ်။ 'စစ်အာဏာသိမ်းမှု'ကို ဆန့်ကျင်တဲ့ ကျောင်းသားထုအစည်းအဝေးကြီးများ တပြည်လုံးမှာ ကျင်းပပြီး ကန့်ကွက်ခဲ့ကြပါတယ်။

၄။ ၁၉၄၈-၁၉၆၂ အစိုးရများနဲ့ ကျောင်းသားများ ဆက်ဆံရေးတင်းမာလာခြင်း။

စစ်ကြီးပြီးတဲ့အခါ ကျောင်းသားများက ဗမာနိုင်ငံလုံးဆိုင်ရာကျောင်းသားများသမဂ္ဂ (ABSU)ကို ဗမာနိုင်ငံလုံးဆိုင်ရာကျောင်းသားသမဂ္ဂများအဖွဲ့ချုပ် (All Burma Federations of the Students' Union -

ABFSU) အဖြစ် ၁၉၅၁ ခုနှစ်၊ ဩဂုတ် ၁၅ ရက်နေ့မှာ ဖွဲ့စည်းခဲ့ကြပါတယ်။ ဗကသများအဖွဲ့ချုပ် ဖွဲ့စည်းပုံ စည်းမျဉ်းဥပဒေနဲ့ အလံ၊ တံဆိပ်၊ အမှတ်အသားများကို ဆုံးဖြတ် သတ်မှတ်ခဲ့ကြပါတယ်။ ၁၉၅၁ ခုနှစ်မှာ ရန်ကုန်ခရိုင် ကျောင်းသားများ သမဂ္ဂ (ရကသ) (All Rangoon Students' Union - ARSU) ကိုလည်း ဖွဲ့စည်းခဲ့ကြပါတယ်။

၁၉၆၀ ပြည့်နှစ်၊ အောက်တိုဘာထဲမှာ ဗကသများအဖွဲ့ချုပ် ဆင့်မအကြိမ် ညီလာခံမှာ (၁) ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံစည်းမျဉ်းဥပဒေကို (အသစ်) ရေးဆွဲအတည်ပြုခဲ့ပါတယ်။ (၂) 'အောင်ပွဲဆက်ဆက်ခံဦးမည်'ဆိုတဲ့ ဗကသ များအဖွဲ့ချုပ်သီချင်းကို အတည်ပြုခဲ့ပါတယ်။

[ ၁၉၆၂ ခုနှစ် စစ်အာဏာသိမ်းမှုကို ဗကသများအဖွဲ့ချုပ် ဥက္ကဋ္ဌ ဦးခင်မောင်အုန်း ကိုယ်စားပြုတဲ့ အမှုဆောင် (၆) ယောက် အစုက ထောက်ခံခဲ့ပါတယ်။ ကိုတင်ထွန်း (အထွေထွေအတွင်းရေးမှူး) ကိုယ်စားပြုတဲ့ အမှုဆောင် (၆) ဦးက ဆန့်ကျင်ကန့်ကွက်ခဲ့ကြပါတယ်။ GS ကိုတင်ထွန်းနဲ့အတူ ကိုသက်၊ ကိုလှရွှေ၊ ကိုကျော်လှိုင် (ရခိုင်) တို့ဟာ ၁၉၆၃ ခုနှစ် ငြိမ်းချမ်းရေးဆွေးနွေးပွဲကြီး ပျက်ပြီး 'လူဖမ်းပွဲကြီး' ဖြစ်လာတဲ့အတွက် A.S အတွင်း ပါဝင်သွား ခဲ့ကြပါတယ်။]

လွတ်လပ်ရေးရပြီး ရန်ကုန်တက္ကသိုလ်ပြန်ဖွင့်တဲ့အခါ (အာဏာရ) ဖဆပလအဖွဲ့ချုပ်ရဲ့ တိုက်ရိုက်ချုပ်ကိုင်မှုအောက်မှာ (Democratic Students Organization - DSO) ကျောင်းသားများအင်အားစုဆိုတာ ရှိပါတယ်။ The Students' Progressive Force လို့ခေါ်တဲ့ 'တိုးတက်သော ကျောင်းသားများ အင်အားစု' ဆိုတာ ရှိပါတယ်။ ၁၉၅၃ ခုနှစ်၊ အောက်တိုဘာ ၃ ရက်နေ့မှာ ပညာရေးဝန်ကြီးဌာနက ဘယ်လိုခိုင်လုံတဲ့ အကြောင်းပြချက်မှမရှိဘဲ သီတင်းကျွတ်ကျောင်းပိတ်ရက် ၁၅ ရက်ကို လျှော့ချလိုက်ပါတယ်။ ဒီကိစ္စကို ကျောင်းသားများက လက်မခံကြတဲ့အတွက် 'ကျောင်းတက်တဲ့နေ့မှာ ကျောင်းမတက်ဖို့တားတဲ့ ကျောင်းသားလှုပ်ရှားမှု' ဖြစ်လာပါတယ်။

၄း၁ ။ 'အောက်တိုဘာ ကျောင်းတလပိတ်ရေး အရေးတော်ပုံ'လို့ မှတ်တမ်းတင်ခဲ့ပါတယ်။ DSO များက ကျောင်းသားများကို ကျောင်းတက်ဖို့ စည်းရုံးကြပါတယ်။ တိုးတက်တဲ့ ကျောင်းသားများအဖွဲ့က ကျောင်းမတက်ဖို့ သပိတ်တားကြပါတယ်။ ကျောင်းသားခေါင်းဆောင်များနဲ့ ကျောင်းမတက်တဲ့ ကျောင်းသားများ ကျောင်းထုတ်ခံခဲ့ကြရပါတယ်။ 'အင်းဝဆောင်'ဟာ ဒီသပိတ်တိုက်ပွဲရဲ့ ဌာနချုပ်ပါ။ အစိုးရက သေနတ်နဲ့ပစ်ပြီး သပိတ်စခန်းကို ဖြိုခွဲခဲ့ကြပါတယ်။ ကျောင်းသားများက 'အင်းဝဆောင်တံတိုင်း၊ သွေးပြိုင်းပြိုင်းနီ၊ ကျည်ပတ်လည်ဝိုင်း၊ အာဏာရှူးအရိုင်းတို့ဒဏ် ဒို့ခံရသည်'လို့ တေးသီချင်းများ ရေးစပ်မှတ်တမ်းတင်ခဲ့ပါတယ်။

'အောက်တိုဘာကျောင်းတလပိတ်ရေး' လှုပ်ရှားမှုကို ခေါင်းဆောင်ခဲ့ကြတဲ့ ကိုလှဝင်း၊ ကိုအောင်ဘန်း၊ ကိုတင်ထွတ်နဲ့အတူ ကျောင်းသားခေါင်းဆောင်များ ကျောင်းထုတ်ခံခဲ့ကြရပါတယ်။ တက္ကသိုလ်ကောင်စီက ကျောင်းတလပိတ်ဖို့ ဆုံးဖြတ်ခဲ့ပါတယ်။

ဒီအချိန်က ဥပဒေအတွင်းမှာ အစိုးရက ၄၇ ခုနှစ် ဖွဲ့စည်းပုံအခြေခံဥပဒေအရ 'ပါတီစုံနိုင်ငံရေးစနစ်'ကို ကျင့်သုံးနေပါတယ်။ ဥပဒေတွင်းမှာ လူထုလူတန်းစားအဖွဲ့အစည်းများ တည်ရှိလှုပ်ရှားနေကြပါတယ်။ 'အတိုက်အခံ အဖွဲ့အစည်း'အဖြစ် 'ဒီမိုကရေစီတပ်ပေါင်းချုပ်ကြီး' ဆိုတာ ရှိပါတယ်။

၄း၁း၁ ။ ဟယ်ရီတန်အရေးတော်ပုံ

၁၉၅၆ ခုနှစ်၊ မတ် ၂၂ ရက်နေ့မှာ 'ဟယ်ရီတန်အရေးတော်ပုံ' ပေါ်ပေါက်ခဲ့ရပါတယ်။

အဲဒီစဉ်က သတ္တမတန်းစာမေးပွဲဟာ အစိုးရစစ်ပါ။ သတ္တမတန်းအောင်ရင် အနိမ့်ဆုံး ရုံးလုလင် (မင်းစေ) နဲ့ မူလတန်းပြဆရာ အလုပ်ရနိုင်ပါသေးတယ်။ ဒီတော့ (၇) တန်းစာမေးပွဲဆိုတာ (အချို့) ကျောင်းသားတွေအတွက် အရေးမကြီးလှပေမယ့် (အချို့) ကျောင်းသားတွေအတွက်တော့ (ဘဝတက်လမ်း) တခုလို့ ပြောရင် ရပါတယ်။ ဒါပေမယ့် ၁၉၅၆ ခုနှစ်၊ မတ်လစာမေးပွဲမှာ စာမေးပွဲမေးခွန်းတွေ ပေါက်ကြားနေတဲ့အတွက်

ဆရာနဲ့ကျောင်းသားတွေဟာ တော်တော်လေး စိတ်ကသိကအောင့် ဖြစ်နေကြပါတယ်။ ဥပမာ၊ ဒီနေ့ မြန်မာဘာသာ ဖြေရရင် 'မြန်မာဘာသာမေးခွန်း'ဟာ 'ဗမာ့ခေတ်သတင်းစာ'မှာ 'ဒီမေးခွန်းဟာ ၏ သည် မ ရွေး' ပါလာနေပါတယ်။ ဘာသာတိုင်း ဒီအတိုင်း ဖြစ်နေတာပါပဲ။ ဒီတော့ ကျောင်းသားနဲ့မိဘများ၊ ဆရာများ အကြားမှာ ဘာလုပ်ရမှန်းမသိ ဖြစ်နေကြပါတယ်။

မတ်လ ၂၂ ရက်နေ့မှာ စာမေးပွဲပြီးသွားတဲ့အခါ ကျောင်းသားများဟာ စည်းရုံးစုဝေးကြပြီး ဗမာ့ခေတ်သတင်းစာတိုက်ရှိရာ ချီတက်သွားကြပြီး စာစီခုံများ၊ ရှိရှိသမျှစာဖောင်များအားလုံးကို မှောက်လှန်ရောထွေး ပစ်လိုက်ပါတယ်။ ဗမာ့ခေတ်သတင်းစာတိုက်ဟာ ဦးအုန်းခင် (မိုးကြိုးသတင်းစာ) နဲ့ ဒေါ်ဒဂုန်ခင်ခင်လေး တို့ပိုင်တဲ့ သတင်းစာတိုက်ပါ။ ရန်ကုန်ခရိုင်ဆိုတာ စစ်ပြီးခေတ်မှာ ရာဇဝတ်တရားသူကြီးတဦး အုပ်ချုပ်တဲ့ ဒေသအဖြစ် ရှိပါတယ်။ တရားသူကြီး ဦးပါစီမြမောင်ဟာ သတင်းစာတိုက်ကို ဖျက်ဆီးနေတဲ့ကျောင်းသားများကို ခြောက်လုံးပြူးနဲ့ပစ်ပြီး ခြောက်လှန့်လူစုခွဲဖို့ ကြိုးစားရာမှာ စိန်ပေါလ်ကျောင်းမှ ဟယ်ရီတန်ကိုထိပြီး ဟယ်ရီတန်ဟာ နေရာမှာပဲ အသက်ဆုံးရှုံးသွားခဲ့ရပါတယ်။ ဒီဖြစ်ရပ်ဟာ ၁၉၅၃ ခုနှစ်၊ အောက်တိုဘာကျောင်းတလပိတ်ရေး အရေးတော်ပုံပြီးရင် ကျောင်းသားနဲ့ ဖဆပလအကြား ထပ်မံ တင်းမာစေတဲ့ ဒုတိယပြဿနာပဲ ဖြစ်ပါတယ်။ အစိုးရက ၅၆ သတ္တမတန်း စာမေးပွဲဖြေသူအားလုံးကို စာမေးပွဲအအောင်ပေးခဲ့ပါတယ်။ 'ဟယ်ရီတန် ခုနှစ်တန်း'ဆိုရင် ရုံးလုလင်တောင် မခန့်ချင်ကြပါဘူး။ 'စာမေးပွဲအောင် လက်မှတ်'ဟာ ပုဂ္ဂိုလ်တစ်စုံတစ်ယောက်အတွက် ယုံကြည်စရာအထောက်အထား မဟုတ်တော့ဘဲ အထင်သေးစရာ အထောက်အထား ဖြစ်နေပါတယ်။ ဒါဟာ လွတ်လပ်ရေးခေတ် ဖဆပလအစိုးရရဲ့ ပညာရေးစနစ် ကမောက် ကမဖြစ်နေပုံကို ထင်ဟပ်ပါတယ်။ 'ဟယ်ရီတန်အရေးတော်ပုံ'နဲ့ ပတ်သက်တဲ့ အစိုးရရဲ့ `စုံစမ်းရေးကော်မရှင်အစီရင်ခံစာ' ကို ကျောင်းသားများက လက်မခံကြပါဘူး။

၄း၂ ။ ကျောင်းသားသမဂ္ဂပိတ်ပင်မှုဆန့်ကျင်ရေး ကျောင်းသားလှုပ်ရှားမှု

၁၉၅၆ ခုနှစ်ဟာ 'ဥပဒေတွင်း ဒီမိုကရေစီလှုပ်ရှားမှုများ' အင်နဲ့အားနဲ့ ဩဇာကြီးလာတဲ့ကာလလို့ မှတ်ယူနိုင်ပါတယ်။ ဥပဒေတွင်း အတိုက်အခံ နိုင်ငံရေးအင်အားစုများ စတင်စုစည်းမိလာတဲ့ ကာလလည်းဖြစ်ပါတယ်။ အထူးသဖြင့် ဆရာကြီးသခင်ကိုယ်တော်မှိုင်း ဦးစီးလှုံ့ဆော်နေတဲ့ 'ပြည်တွင်းငြိမ်းချမ်းရေး လှုပ်ရှားမှုများ'ဟာ အတိုက်အခံများရဲ့ 'မဟာဇုဗျူဟာနိုင်ငံရေးလက်နက်' တိုးတိုးပြီးဖြစ်လာတဲ့ကာလလည်း ဖြစ်ပါတယ်။ ၁၉၅၆ ရွေးကောက်ပွဲမှာ ပမညတများဟာ အမတ်နေရာ ၄၆ နေရာနဲ့ လူထုမဲတသန်းခွဲကျော်ရဲ့ ထောက်ခံမှုရခဲ့ပါတယ်။ ဒီရွေးကောက်ပွဲမှာ အာဏာရ ဖဆပလအဖွဲ့ချုပ်နဲ့ အစိုးရအဖွဲ့အတွင်း ကြီးမားတဲ့ နိုင်ငံရေးဂိုဏ်းကွဲမှုကြီး ဖြစ်လာစေခဲ့ပါတယ်။

"ဗကသများအဖွဲ့ချုပ်ကို (၂၆.၆.၃၆) မှာ ခေါင်းဆောင်စည်းရုံး ထူထောင်ခဲ့တဲ့ ဝန်ကြီးချုပ်သခင်နုက ၁၉၅၉ ခုနှစ်၊ သီတင်းကျွတ်ကျောင်း ပိတ်ရက်မှစပြီး 'အထက်တန်းကျောင်းများမှာ ကျောင်းသားသမဂ္ဂများ မတည်ရှိ ခရိုင် ၃၂ ခရိုင်နဲ့ မြို့နယ် ၂၈၀ ကျော်မှာ ရှိတဲ့ ကျောင်းသားသမဂ္ဂများက စေရ' ဆိုတဲ့ ပညာရေးဝန်ကြီးဌာနရဲ့ အမိန့်ကို ထုတ်ပြန်စေခဲ့ပါတယ်။ ဒီအမိန့်ကို တိုက်ပွဲပုံသဏ္ဍာန်ပေါင်းစုံနဲ့ ပြင်းပြင်းထန်ထန် ခုခံခဲ့ကြပါတယ်။ ကျောင်းသား ခေါင်းဆောင် ၅၀ ကျော် အဖမ်းခံခဲ့ကြရပြီး၊၂၅၆ ယောက် ကျောင်းထုတ်ခံခဲ့ကြရပါတယ်။ ကျောင်းသားသမဂ္ဂရုံးခန်းများကို အတိုက်အခံ ဒီမိုကရေစီ အဖွဲ့အစည်းများရဲ့ ရုံးခန်းများမှာ ပူးတွဲဖွင့်လှစ်ခဲ့ကြရပါတယ်။

၄း၃ ။ ၁၉၅၈ ခုနှစ်အတွင်း အာဏာရ ဖဆပလအဖွဲ့ချုပ်ကွဲကြတဲ့အခါ ကျောင်းသားများက 'သန့်ရှင်း ဖဆပလ (သခင်နု)'ကို ထောက်ခံခဲ့ကြပါတယ်။

၄း၄ ။ ပုဒ်မ ၁၁၆ အရ ၁၉၅၈-၅၉ ခုနှစ်အတွင်း ကာကွယ်ချုပ်ကို (၂)ကြိမ် အာဏာလွှဲတာဟာ 'စစ်အာဏာသိမ်းတာပဲ'လို့ ကျောင်းသားသမဂ္ဂကြီး (၃) ခု က ယူဆ

ကြောင်း၊ ကန့်ကွက်ကြောင်း သဘောထားထုတ်ပြန်ခဲ့ပါတယ်။

၄း၅ ။ ၁၉၅၉ ခုနှစ်၊ ဩဂုတ်လထဲမှာ ကျောင်းသားများရဲ့ (ပထမအကြိမ်) 'အမျိုးသားပညာရေးနှီးနှော ဖလှယ်ပွဲကြီး'ကျင်းပပြီး 'ပညာရေးစာတမ်းပေါင်း ၂၃ ခု'ကို ဆွေးနွေးခဲ့ကြပါတယ်။ ဆွေးနွေးရရှိချက်များကို ဖိုင်တွဲပြီး ဝန်ကြီးချုပ်သခင်နုထံ (အခမ်းအနား)နဲ့ လွှဲအပ်ခဲ့ပါတယ်။ 'လွတ်လပ်ရေးခေတ် ဗမာပြည်ပညာရေး'ဟာ 'ကိုလိုနီပညာရေးစနစ်'ကို ဖာထေးထားတဲ့ ပညာရေးစနစ်သာဖြစ်ကြောင်း သုံးသပ်တင်ပြခဲ့ပါတယ်။

၄း၆ ။ ၁၉၆၀-၆၁ ခုနှစ်မှာ (၁၀)တန်းစာမေးပွဲ အောင်စာရင်းများ ထုတ်ပြန်ပြီးတဲ့အခါ (၁၀)တန်းစာမေးပွဲ ကျသူများဟာ လာမယ့်ပညာသင်နှစ်မှာ (၉) တန်း စာမေးပွဲဖြေရမယ်လို့ ပညာရေးဝန်ကြီးက အမိန့်ကြေညာချက် ထုတ်ပါတယ်။ ဒီအမိန့်ကို (ထိုင်နေရင်းက တတန်းအချခံရတဲ့) ကျောင်းသားများက ကန့်ကွက်ဆန္ဒပြကြပါတယ်။ 'ကမောက်ကမပညာရေးစနစ်' ဖျက်သိမ်းရေး တိုက်ပွဲပါ။ အစိုးရက (၁၀)တန်းကျသူများအတွက် moderation ထိုင်ပြီး 'နောက်ဆက်တွဲစာမေးပွဲအောင်စာရင်း' ထပ်ထုတ်ပေးပါတယ်။ (၉) တန်း စာမေးပွဲကို ဖျက်သိမ်းမပေးခဲ့ပါဘူး။

၄း၇ ။ ၁၉၆၀-၆၁ KMT တရုတ်ဖြူကျူးကျော်မှုနဲ့ နယ်ချဲ့ဆန့်ကျင်ရေး လှုပ်ရှားမှု၊ ဆန္ဒပြပွဲ။

ကျောင်းသားနဲ့ လူထုများ ထောင်ချီပြီး ပါဝင်ခဲ့ကြပါတယ်။

၄း၈ ။ ၁၉၆၂ ခုနှစ်၊ မတ် ၂ ရက်၊ စစ်အာဏာရှင်စနစ်ဆန့်ကျင်ရေးတိုက်ပွဲ

၆၂ ခုနှစ်၊ စစ်အာဏာသိမ်းမှုနဲ့ ပတ်သက်တဲ့ (အဲဒီစဉ်က) 'အတိုက်အခံများရဲ့ သဘောထားတုံ့ပြန်မှုများ'ကို ရှေ့မှာ အကျဉ်းချုပ်ဖော်ပြခဲ့ပါတယ်။ ဗကပ သစ္စာဖောက်ကြီးများဖြစ်တဲ့ မောင်စူးစမ်းနဲ့ သခင်တင်မြတို့ရဲ့ ဒီ 'အာဏာသိမ်းမှုအပေါ် သဘောထား'ကို အကျဉ်းချုပ်ဖော်ပြခဲ့ပြီးပါပြီ။ (အခု) သူတို့ထက် ပိုပြီး ဖွယ်ဖွယ်ရာရာထောက်ခံခဲ့တဲ့ 'မြန်မာနိုင်ငံအလုပ်သမားညီညွတ်ရေးပါတီ'ရဲ့ ပေါ်လစီတစုံလုံးကို ဖော်ပြရပါမယ်။ ဒီ 'မလညပပါတီ'ထဲမှာ အင်အားစု သုံးခု ပါပါတယ်။ တစုက ၁၉၄၆ ခုနှစ်မှာ ပြန်လည်ဖွဲ့စည်းခဲ့တဲ့ 'ဗမာပြည်ဆိုရှယ်လစ်ပါတီ' အစုပါ။ (သခင်မြခေါင်းဆောင်ပါတယ်။) ဒီပါတီဟာ ဂျပန် တော်လှန်ရေးကာလ (၁၉၄၀)မှာ 'ပြည်သူ့အရေးတော်ပုံပါတီ' ပါ။ ၁၉၅၁-၅၃ ကိုရီးယားစစ်ပွဲ၊ ၁၉၅၁-၅၂ တရုတ်ဖြူကျူးကျော်မှုအပေါ် သဘောထားမတူကြတဲ့ သခင်လွင်၊ သခင်လှကြွေ၊ သခင်ချစ်မောင်(ဝိဓူရ)တို့ အစုဟာ ၁၉၅၁ မှာ 'ဗမာပြည်ဆိုရှယ်လစ်ပါတီ'(၁၉၄၆) ကနေ ခွဲထွက်ခဲ့ကြပါတယ်။ [(ပထမ) ဗမာပြည် အလုပ်သမားလယ်သမားပါတီ (နောက်) အလုပ်သမားပါတီ (ဆိုရှယ်နီ) ဖြစ်လာပါတယ်။] ၁၉၅၉ ခု၊ ဇူလိုင် ၂၉ မှာ (ပထမ) ၁၉၄၉ မှာ ပြည်သူ့ရဲဘော် (အဖြူ)၊ နောက် ၁၉၅၃ မှာ PVO/PCP ပြည်သူ့ရဲဘော်ပါတီ ဖြစ်လာတဲ့ ဗိုလ်မှူးဖိုးကွန်း၊ ဗိုလ်အုန်းတင်၊ ဗိုလ်အောင်နိုင်တို့က သန့်ရှင်းဖဆပလအစိုးရရဲ့ 'နှစ်ချက်နဲ့ အလင်းဝင်ရေးမူ' ကို လက်ခံပြီး လက်နက်ချလာခဲ့ပါတယ်။ ၁၉၆၀၊ ဒီဇင်ဘာ ၃၀ မှာ မူလ မလညပအဖွဲ့၊ (ဒုတိယ) ဗိုလ်ဖိုးကွန်း (ပြည်သူ့ရဲဘော်အဖွဲ့)နဲ့ ဦးသိန်းဖေမြင့်ရဲ့ (ပြည်သူ့ ညီညွတ်ရေးပါတီ -၁၉၄၉)တို့ကို ပေါင်းစည်းပြီး 'မြန်မာနိုင်ငံအလုပ်သမားညီညွတ်ရေးပါတီ' (မလညပ)ကို ဖွဲ့စည်းခဲ့ကြတာပါ။ သူတို့ဟာ ဥပဒေတွင်း မာ့က်စ်ဝါဒီများ ဖြစ်ကြပါတယ်။ သူတို့က ၁၉၆၂ စစ်အာဏာသိမ်းမှုအပေါ် ခုလို သဘောထားကြပါတယ်။

(၁) 'ဒီစစ်အာဏာသိမ်းမှုဟာ လူတန်းစားအရ ဓနရှင်ပေါက်စ ပညာတတ် များဖြစ်ပါတယ်'တဲ့။

'PDR ရဲ့ ရန်သူ လူတန်းစား မဟုတ်ကြပါဘူး။ မိတ်ဆွေများသာဖြစ်ပါတယ်'တဲ့။

(၂) 'ဒီတပ်ကြီးရဲ့ တပ်မှူးကြီးငယ်များကလည်း မျိုးချစ်ဝါဒီများသာ ဖြစ်ပါတယ်'တဲ့။

ဒီနေရာမှာ မောင်စူးစမ်းရဲ့ သဘောထားကို ဖော်ပြချင်ပါတယ်။ 'ဒီမျိုးချစ်လက်ကိုင်တပ်နဲ့ တပ်မှူး

တပ်သားများကို (ရန်သူလို သဘောထားတာဟာ) လက်ဝဲသမားများရဲ့ တရားသေဝါဒပါပဲ'တဲ့။

ဆရာကြီးသခင်စိုးရဲ့ အလံနီလက်ကျန်တပည့်များကလည်း ဒီကနေ့ 'ပြည်ခိုင်ဖြိုးအစိုးရလက်ထဲက အရင်းအနှီးများဆိုတာဟာ ဗျူရိုကရက်အရင်းတွေ မဟုတ်ပါဘူး'တဲ့။ 'လစ်ဘရယ်အရင်းရှင် လူမှု အရင်းအနှီးများသာ ဖြစ်ပါတယ်'တဲ့။

(၃) 'မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်'ဆိုတာဟာ ပူးပေါင်းဆောင်ရွက်နိုင်တဲ့ ဘုံလုပ်ငန်းစဉ်များသာ ဖြစ်ပါတယ်တဲ့။ (အခုတော့ 'မဆလ'လည်း မရှိတော့ပါဘူး။ 'မလညပ'လည်း မရှိတော့ပါဘူး။ ပြည်ခိုင်ဖြိုးပဲ ရှိပါတော့တယ်။)

'၁၉၆၂ ခုနှစ် စစ်အာဏာသိမ်းမှုဟာ ၅၈ ခုနှစ် အာဏာသိမ်းမှုများရဲ့ အဆက်နဲ့ အကျိုးဆက်သာ ဖြစ်ပါတယ်။ ရေမရောတဲ့ အာဏာသိမ်းမှုများသာ ဖြစ်ပါတယ်'လို့ ကျောင်းသားသမဂ္ဂကြီးများနဲ့ (အဲဒီကာလ ကျောင်းသားခေါင်းဆောင်မျိုးဆက်များ)က ရှင်းရှင်းလင်းလင်း ပြတ်ပြတ်သားသား ပြောကြားခဲ့ပါတယ်။

(၆၂ ကျောင်းသားခေါင်းဆောင်မျိုးဆက်များဟာ စစ်မြေပြင်မှာ၊ ကိုကိုးကျွန်းအကျဉ်းစခန်းမှာ၊ အင်းစိန်၊ သာယာဝတီ၊ မန္တလေးထောင် (စတဲ့) နေရာများမှာ ချေမှုန်းခံကြရ၊ အသက်ပေးခဲ့ကြရပါတယ်။)

၄း၉ ။ ၁၉၆၂ ခုနှစ်၊ ဇူလိုင် (၇)ရက် ကျောင်းသားအရေးတော်ပုံ

၁၉၅၃ ခုနှစ်ကနေ ၁၉၆၂ ခုနှစ်အထိ ၁၀ နှစ်တာ ကျောင်းသားလှုပ်ရှားမှုများအနက် 'ဇူလိုင် (၇) ရက် ကျောင်းသားအရေးတော်ပုံ'ဟာ ကိုလိုနီခေတ်၊ လွတ်လပ်ရေးခေတ် ကျောင်းသားလှုပ်ရှားမှုသမိုင်းမှာ 'ကျောင်းသားတွေ ရာချီပြီး အသက်ပေးခဲ့ရတဲ့ လှုပ်ရှားမှုကြီး' ဖြစ်ပါတယ်။ 'လွတ်လပ်ရေးတိုက်ပွဲသမိုင်းဝင်' 'သမဂ္ဂအဆောက်အဦ'ကြီးကိုပါ မိုက်မိုက်ကန်းကန်း မိုင်းခွဲဖျက်ဆီးပစ်ခဲ့ကြပါတယ်။ ဒါဟာ ကျောင်းသားလှုပ်ရှားမှု၊ ကျောင်းသားသမဂ္ဂနဲ့ ကျောင်းသားခေါင်းဆောင်များအပေါ် 'စစ်အုပ်စုကထားတဲ့ အငြိုးအတေးနဲ့ အာဃာတ'ကို ဖော်ပြခဲ့တာဖြစ်ပါတယ်။ ကျောင်းပြန်ဖွင့်တဲ့အခါ တကသနဲ့ တပ်ဦး Activist ရာပေါင်းတချို့ကို ကျောင်းနေခွင့်ပိတ်ပင်ခဲ့ပါတယ်။ ဒီအထဲမှာ Unionist များ အများကြီးပါဝင်ခဲ့ပါတယ်။

ကျောင်းပြန်ဖွင့်တာနဲ့တပြိုင်နက် စစ်အစိုးရက ကျောင်းသားလှုပ်ရှားမှုကို နှိပ်ကွပ်ဖို့ ကြံရွယ်တဲ့စိတ်ကူးများကို စတင် အကောင်အထည်ဖော်လာပါတယ်။

(၁) ရန်ကုန်တက္ကသိုလ်ကောင်စီမှာရှိတဲ့ ကျောင်းသားကိုယ်စားလှယ် နှစ်ဦးဖြစ်တဲ့ မစ္စတာ တီ၊ ပီ၊ ဝေါင်းနဲ့ ဒေါက်တာ မောင်မောင်ကျော်တို့နှစ်ဦးကို တက္ကသိုလ်ကောင်စီမှ ထုတ်ပယ်ခဲ့ပါတယ်။

(၂) ကျောင်းဆောင် ဆပ်ကော်မတီမှာရှိတဲ့ တကသကိုယ်စားလှယ် နှစ်ဦးဖြစ်တဲ့ ဦးလှရွှေနဲ့ ဦးခွန်ဝင်းလှိုင်တို့ကို ကျောင်းဆောင်ဆပ်ကော်မတီမှ နုတ်ပယ်လိုက်ပါတယ်။ ဦးလှရွှေနဲ့ ဦးခွန်ဝင်းလှိုင်တို့ဟာ ရန်ကုန်တက္ကသိုလ် သဟာယနဲ့ စာဖတ်အသင်းများ (R.U.S andR)အဖွဲ့ချုပ်ရဲ့

(၁၉၆၁-၆၂) ဥက္ကဋ္ဌနဲ့ အတွင်းရေးမှူးများ ဖြစ်ပါတယ်။

(၃) ကျောင်းသားများက 'ကျောင်းသားပုလိပ်'လို့ နာမည်ပေးခံရတဲ့ ကျောင်းသားရေးရာမှူး (The Dean of Students) နှစ်ဦး ခန့်ထားပါတယ်။ သူတို့ဟာ ပညာရေးနယ်ထဲက ဗျူရိုကရက်အရာရှိ (ကျား)တစ်ဦး၊ (မ)တစ်ဦး ဖြစ်ပါတယ်။ ဆရာကြီးဦးစံထွန်းနဲ့ ဆရာမကြီး ဒေါ်ကြင်စိန် နှစ်ဦးပါ။ !

(၄) တက္ကသိုလ်ဝင်ခွင့်လျှောက်ထားတဲ့ ကျောင်းသားတိုင်းရဲ့ (ပထမအရစ်) ကျောင်းဆောင်ကြေးနဲ့အတူ 'သမဂ္ဂဝင်ကြေးငွေ' ၃/-(၁ကျပ်) ပူးတွဲ ပေးသွင်းကြရပါတယ်။ အဲဒီသမဂ္ဂဝင်ကြေးကို တက္ကသိုလ်ရုံးက ကောက်မပေးတော့ပါဘူး။ (တနှစ်ကို တသောင်းခွဲလောက်ရပါတယ်။)

(၅) ကျောင်းဆောင်နေ ကျောင်းသား/ကျောင်းသူများရဲ့ 'နေ့စဉ်သွားလာနေထိုင်မှုကို ကန့်သတ်တဲ့၊ မလိုတဲ့ ကျောင်းဆောင်စည်းကမ်း (၂၂) ချက်ကို ကျောင်းဆောင်ကော်မတီက ထုတ်ပြန်ခဲ့ပါတယ်။ ဒီစည်းကမ်းချက် (၂၂) ချက်ဟာ ထောင်ထဲမှာရှိတဲ့ အကျဉ်းသားများအတွက် အကျဉ်းဦးစီးဌာနက ထုတ်ပြန်တဲ့စည်းကမ်း

ချက်များထက် ဆိုးပါတယ်။ ဒီစည်းကမ်းများဟာ ဇူလိုင် ၇ ရက် အရေးတော်ပုံကြီးဖြစ်လာဖို့ 'ဖွ၊ ဆွ' တဲ့ 'ဖိနှိပ်ရေးစည်းကမ်း'များသာ ဖြစ်ပါတယ်။

(၆) ဒီစည်းကမ်းများကို အကောင်အထည်ဖော်ဖို့ ဘွဲ့ရ လက်ထောက်အဆောင်မှူးများအဖြစ် (လဝက၊ အကောက်ခွန် နဲ့ အကစ/အကျဉ်းဦးစီးဌာနမှ) ဘွဲ့ရ အရာရှိငယ်များကို ခေါ်ယူ ခန့်ထားခဲ့တယ်ဆိုပါတယ်။ ဒီစည်းကမ်းများဟာ ထမင်းစားချိန်၊ ကော်ဖီချိန်၊ ရေချိုးချိန်၊ အဆောင်ဝင်/ထွက်ချိန်၊ ညှော်သည်၊ ကျန်းမာရေး၊ (အရက်/ဖဲ/မိန်းမ) စတဲ့ ကိစ္စများနဲ့ပတ်သက်တဲ့ စည်းကမ်းတွေပါ။ မိမိကျောင်းဆောင်မှာနေရတဲ့ ငါးနှစ်၊ ခြောက်နှစ်တာ ကာလအတွင်း အဆောင်ရဲ့ ဥက္ကဋ္ဌ၊ အတွင်းရေးမှူးတာဝန်များနဲ့ နေခဲ့ဖူးပါတယ်။ ဒီစည်းကမ်း (၂၂) ချက်ဟာ 'ကျားကိုခေါင်းပုတ်'တဲ့ ကိစ္စမျိုးပါပဲ။

ရန်ကုန်တက္ကသိုလ် ကျောင်းသားများသမဂ္ဂရဲ့ လုပ်ငန်းများဟာ ၁၉၃၁ ခုနှစ်၊ ဇန်နဝါရီ ၃၁ ရက်နေ့မှာ ပြဋ္ဌာန်းထားတဲ့ 'အခြေခံဖွဲ့စည်းပုံ စည်းမျဉ်းဥပဒေများနဲ့အညီ' ဆောင်ရွက်ကြရတာချည်း ဖြစ်ပါတယ်။ (၇.၇.၆၂) နံနက် ၁၁ နာရီမှာ ကျင်းပပြုလုပ်ရမယ့် ကျောင်းသားထုအစည်းအဝေးကြီးကို နှစ်ပတ် ကြိုပြီးကြေညာထားရပါတယ်။ ဖိနှိပ်ချုပ်ချယ်တဲ့ 'ကျောင်းဆောင်စည်းကမ်းများဖျက်သိမ်းရေး ကျောင်းသားထုအစည်းအဝေးကြီး'ကို နံနက် ၁၁ နာရီနဲ့ နေ့လယ် ၁ နာရီအတွင်း ကျင်းပခဲ့ကြရပါတယ်။ ကျောင်းသားထုကြီးက Assembly Hall အပြည့် တက်ရောက်ခဲ့ကြပါတယ်။ ဗကသများအဖွဲ့ချုပ် ဥက္ကဋ္ဌ ကိုသက်က အစည်းအဝေး သဘာပတိလုပ်ပြီး ABFSU G.S ကိုတင်ထွန်းက အခမ်းအနားမှူးလုပ်ပါတယ်။တကသ ဥက္ကဋ္ဌ ကိုဗဆွေလေးက 'ဖိနှိပ်ချုပ်ချယ်တဲ့ ကျောင်းဆောင်စည်းကမ်းများ'ကို ဖျက်သိမ်းပေးဖို့နဲ့ ဆန့်ကျင်တိုက်ဖျက်ရမယ့်အကြောင်း တောင်းဆို ဆွေးနွေးတင်ပြခဲ့ပါတယ်။ ကျောင်းသားထုကြီးက 'ဖိနှိပ်ချုပ်ချယ်တဲ့ စည်းကမ်းတွေ ဖျက်ပစ်၊ ဖျက်ပစ်'လို့ တောင်းဆိုကြွေးကြော်ကြပါတယ်။ ဇူလိုင် ၆ ရက်နေ့ည ၆ နာရီမှာ မီးပျက်တဲ့အတွက် မန္တလေးဆောင်သားများ ပေါက်ကွဲပြီး စားပွဲ၊ကုလားထိုင်၊ စာအုပ်စင်များကို ရိုက်ချိုးပြီး မီးရှို့ပစ်လိုက်ကြပါတယ်။ ဒီစဉ်က မိမိဟာ မန္တလေးဆောင် S and R ရဲ့ ဥက္ကဋ္ဌပါ။ မန္တလေးဆောင်မှာ အသင့်ရှိတဲ့ မီးဒုတ်များကို မီးညှိပြီး ကျောင်းဆောင်စည်းကမ်း ၂၂ ချက် ဖျက်သိမ်းရေး 'မီးဒုတ်ကိုင်ဆန္ဒပြပွဲ'ကို University Campus အတွင်း အားလုံးပါဝင်တဲ့ Night March လုပ်ခဲ့ပါတယ်။ ဒါကြောင့် ၇ ရက်နေ့ ကျောင်းသားထုဆန္ဒပြပွဲကြီးကို နေ့ ၁ နာရီမှာ လူစုခွဲနိုင်ခဲ့ပါတယ်။

ကျောင်းသားတချို့က တကသ စားသောက်ဆိုင်မှာ၊ ကျန်တချို့က ဟိုနားသည်နားမှာ၊ တချို့က တကသ စာဖတ်ခန်းမှာ သတင်းစာဖတ်၊ ချက်စ်ထိုး၊ ဇယ်တောက်၊ စကားစမြည်များ ပြောနေကြပါတယ်။ အဲဒီအချိန်မှာ သမဂ္ဂအဆောက်အဦရဲ့ ရှေ့ဘက်ကရော၊ အနောက်ဘက် အားကစားရုံကြီးဘက်ကပါ သတင်းတပ်ဖွဲ့နဲ့ (အဲဒီစဉ်က)သီးသန့်ရဲများပါတဲ့ လုံခြုံရေးတပ်ဖွဲ့များ အရှိန်နဲ့ ဝင်ရောက်လာကြပါတယ်။ ဦးစွာ တကသ ဥက္ကဋ္ဌ ကိုဗဆွေလေး၊ဗကသ ဥက္ကဋ္ဌ ကိုသက်နဲ့ ရကသ အတွင်းရေးမှူး ကိုဉာဏ်ဝင်းတို့ အဖမ်းခံသွားရကြောင်း တွေ့ရပါတယ်။ မိမိလည်း ပါမောက္ခချုပ် ဦးကာခြံဝင်းထဲက တဆင့် ဗဟိုဆောင်ဝင်းထဲ ကူးသွားရပါတယ်။ ပင်းယဆောင် စာဖတ်ခန်းထဲမှာ ရသမျှတာဝန်ရှိတဲ့သူများ အမြန်စုစည်း၊ ဆက်သွယ်ရေးစနစ်များစီစဉ်၊ အလုပ်အဖွဲ့ လေးဖွဲ့ ဖွဲ့ပြီး အမြန် လူစုခွဲခဲ့ကြပါတယ်။ မိမိတို့ဟာ ၁၉၆၃ ခုနှစ် ဇွန် ၁၁ ရက်နေ့အထိ တနှစ်နီးပါး ဖြစ်နိုင်တဲ့အလုပ်များ လှုပ်ရှားဆောင်ရွက်ခဲ့ကြပါ တယ်။

ဇူလိုင် ၇ ရက်နေ့ ညနေ ၄ နာရီခွဲမှာ ဒုဗိုလ်မှူးကြီး စိန်လွင် ကွပ်ကဲတဲ့ တပ်ရင်း (၄) တပ်များ နေရာယူလာကြပါတယ်။ အသံလွှင့်ရုံမှာရှိတဲ့ ကွပ်ကဲရေးအဖွဲ့မှာ ဗလက (ဗဟိုလုံခြုံရေးနဲ့ အုပ်ချုပ်မှုကော်မတီ) ဥက္ကဋ္ဌ ဗိုလ်မှူးကြီး ကျော်စိုး၊ နိုင်ငံတော်ကောင်စီ တွဲဘက်အတွင်းရေးမှူး ဗိုလ်မှူးကြီးသန်းစိန်၊ ပညာရေးဝန်ကြီး ဒေါက်တာလှဟန်၊ ပြန်ကြားရေးဝန်ကြီး ဗိုလ်မှူးကြီး ဗနီ၊ တက္ကသိုလ်ပါမောက္ခချုပ် ဦးကာတို့ရှိကြပါတယ်။ ညနေ ၆ နာရီ ၁၅ မိနစ်မှာ စီစဉ်ထားတဲ့ သတ်ဖြတ်ပွဲ

ကြီးကို စိတ်ကြိုက်ကျူးလွန်ခဲ့ကြပါတယ်။ ည ၁၁ နာရီထိ 'မြင်မြင်ရာကို စိတ်ကြိုက် ပစ်ခတ်ခဲ့ကြတယ်'လို့ သတိပြုမိသူများက ပြောပြခဲ့ကြပါတယ်။

ဇူလိုင်လ ၉ ရက်နေ့မှာ ပြုလုပ်တဲ့ ရန်ကုန်ဆေးရုံအုပ်ကြီး ဦးအောင်သိန်းရဲ့ သတင်းစာရှင်းလင်းပွဲမှာ 'ရန်ကုန်ဆေးရုံကြီးကို ဒဏ်ရာရသူ ၈၆ ယောက် ရောက်လာခဲ့ပါတယ်'တဲ့။ '၁၇ ယောက် သေဆုံးပြီးကျန်သူတွေက ဒဏ်ရာရခဲ့ကြပါတယ်'တဲ့။ မင်္ဂလာဒုံစစ်ဆေးရုံကို လူနာ ၆၈ ဦး ရောက်တယ် ဆိုတဲ့ ဆေးရုံနဲ့လူထုသတင်းများ ရှိပါတယ်။ ကျောင်းသားသမဂ္ဂကြီးရဲ့ သတင်းထုတ်ပြန်ချက်မှာ 'ကျောင်းသားရဲဘော် ၁၇ ယောက်ကျဆုံးကြောင်း' ဖော်ပြခဲ့ပါတယ်။ အမှန်တကယ် ငြိမ်းချမ်းပွင့်လင်းတဲ့ နိုင်ငံရေးအခြေအနေမျိုး ရရှိချိန်မှသာ သေဆုံးသူအရေအတွက်ကို အမှန်တကယ်ဖော်ထုတ်နိုင်မှာ ဖြစ်ပါတယ်။

 'ဇူလိုင်သတ်ဖြတ်မှုကြီး'ကို ဘယ်သူ အမိန့်ပေးခဲ့သလဲဆိုတာနဲ့ ပတ်သက်ပြီး ဗိုလ်ချုပ်ကြီးနေဝင်းနဲ့ ဗိုလ်မှူးချုပ် အောင်ကြီး အပြန်အလှန်လက်ညှိုးထိုးနေကြပါတယ်။ ဇူလိုင် ၇ ရက် အရိုးတွေ တစ်နေ့တွန်မှာ မုချပါပဲ။

 သမိုင်းဝင် တကသ အဆောက်အဦ ဖြိုချဖို့ ဘယ်သူအမိန့်ပေးခဲ့ပါသလဲ။ 'ဇူလိုင်သတ်ဖြတ်မှု' နဲ့ 'တကသ အဆောက်အဦ ဖြိုချဖို့' အမိန့်ပေးတဲ့သူဟာ ဘုရားရှင်ဟောကြားတဲ့ လူမိုက်စာရင်းပေါက်သူမျိုး ဖြစ်တာကြောင့် တယောက်တည်းဖြစ်ဖို့များပါတယ်"လို့ သမိုင်းပါမောက္ခတဦးက ပြောခဲ့ဖူးတာကို ကြားဖူးခဲ့ပါတယ်။ သမဂ္ဂမှာရှိတဲ့ စာကြည့်တိုက်မှာ စာအုပ်များ၊ တကသ ဥက္ကဋ္ဌအခန်းမှာရှိတဲ့ ၁၉၃၁ ခုနှစ်မှ ၁၉၆၁ ခုနှစ်ထိ ကျောင်းသားလှုပ်ရှားမှုများနဲ့ ပတ်သက်တဲ့ မှတ်တမ်းမှတ်ရာများ သိမ်းဆည်းထားရှိပါတယ်။ စစ်အစိုးရက ဘာလုပ်ပစ်မှန်း မသိကြရပါ။

ဗကသ၊ တကသနဲ့ ကျောင်းသားညီညွတ်ရေးတပ်ဦး၊ ရကသ စတဲ့ ကျောင်းသား ခေါင်းဆောင်အများစုကြီး ရေကြည်အိုင်အကျဉ်းစခန်း ရောက်နေချိန်မှာ ကျောင်းသားထုကို တိုက်ရိုက်ကိုယ်စားပြုပြီး လှုပ်ရှားမှုကို ခေါင်းဆောင်မယ့် Second Platform အဖြစ် 'ကျောင်းသားအခွင့်အရေးကာကွယ်မှု ကော်မတီ'ကို ဖွဲ့စည်းခဲ့ကြပါတယ်။ ဥက္ကဋ္ဌ ဦးတင်မောင်ဝင်း (ခရမ်းအမတ်)၊ အတွင်းရေးမှူး ကိုသိန်းထွန်း (ခ) ဘသန်း၊ အဖွဲ့ဝင်များအဖြစ် ကိုမြင့်ဖေ/ကိုဘအေး၊ ကိုစိုးမြင့်/ကျော်မောင်၊ ကိုစိုးသိန်း (မောင်ဝံသ)၊ ကိုခင်ဆွေ(ခရမ်း)၊ ကိုကြည်ဝင်း (ပခုက္ကူ၊ 7th July သီချင်း စာသားသွင်းသူ)၊ ကိုမိုးဟိန်း (သားဂျာနယ်ကျော်)၊ ကိုတင်ထွန်း (ကျောက်တံခါး)၊ နာမည်မရသူတဦးတို့ ပါကြပါတယ်။

'ကျောင်းသားအခွင့်အရေးကာကွယ်ရေး ကော်မတီ'ဟာ 'ဇူလိုင်အရေးတော်ပုံ ၆ လပြည့်' နေ့မှာ 'ဇူလိုင် ၇ ရက် အရေးတော်ပုံကျောက်တိုင်'ကို စက်မှုတက္ကသိုလ်မှ အင်ဂျင်နီယာကျောင်းသားများနဲ့ ပူးပေါင်းပြီး စိုက်ထူခဲ့ပါတယ်။ ဗိုလ်အောင်ကျော် အထိမ်းအမှတ်ကျောက်တိုင် (ဘွဲ့နှင်းသဘင်ဘက် အခြမ်းမှာ)၊ အောက်ခြေ ၆၂-လက်မ ပတ်လည်၊ အမြင့် - ၇ ပေ ၇ လက်မရှိတဲ့ ကျောက်တိုင်ဖြစ်ပါတယ်။

**ဇူလိုင် ၇ ရက် အရေးတော်ပုံ တနှစ်မြောက်နေ့ အထိမ်းအမှတ်အခမ်းအနား ကျင်းပခြင်း**

(၁၁.၆.၆၃) ရက်နေ့တွင် စစ်အစိုးရက အထွေထွေ လွတ်ငြိမ်းချမ်းသာခွင့် အမိန့်ကို ထုတ်ပြန်ခဲ့ပါတယ်။ ဒီအမိန့်က 'ရေကြည်အိုင်' ထောက်လှမ်းရေးစခန်းမှာရှိတဲ့ ကျောင်းသား ခေါင်းဆောင်များ ပြန်လွတ်လာကြပါတယ်။ ပြန်လွတ်လာကြတဲ့ ကျောင်းသားခေါင်းဆောင်များ ပြန်စုစည်းကြပြီး၊ 'ဇူလိုင် ၇ ရက် အထိမ်းအမှတ်ကျောက်တိုင်'မှာ "အလေးပြု အခမ်းအနား' ကျင်းပခဲ့ကြပါတယ်။ အားလုံး ဝမ်းပန်းတနည်းနဲ့ ငိုကြွေးခဲ့ကြပါတယ်။

စုစည်းမိတဲ့ ကျောင်းသားအဖွဲ့အစည်းများအားလုံးမှ ကျောင်းသားခေါင်းဆောင်များပါဝင်တဲ့ စုံညီအခမ်းအနားက-

(၁) ဇူလိုင် ၇ ရက် တနှစ်မြောက်နေ့ အထိမ်းအမှတ် အခမ်းအနား ကျင်းပရန်။

(၂) အခမ်းအနားအမီ တကသအဆောက်အဦကို အမြန်ဆုံး ပြန်လည်တည်ဆောက်ရန်။

(၃) ဇူလိုင် ၇ ရက် အထိမ်းအမှတ်ဓာတ်ပုံပြပွဲ ကျင်းပရန် စည်းဝေး ဆုံးဖြတ်ခဲ့ကြပါတယ်။

ကျောင်းသားသမဂ္ဂများက ဦးစီးပြီး ဝါးထရံကာ၊ ဓနိမိုး၊ အလျား ပေ ၂၀၀ x အနံ ပေ ၃၀ ရှိတဲ့ တကသ အဆောက်အဦကို ဇွန်လအတွင်း အပြီးဆောက်လုပ်ခဲ့ဖြစ်ကြပါတယ်။ တကသ အဆောက်အဦ ဆောက်လုပ်ရေးအတွက် ကုန်ကျမယ့်ငွေကြေးကို ရုပ်ရှင်မင်းသားကြီးများ ဖြစ်ကြတဲ့ ဦးထွန်းဝေနဲ့ ဦးမြတ်လေး၊ ဒါရိုက်တာ ဦးချစ်ခင်တို့က တာဝန်ယူဝိုင်းဝန်းရှာဖွေပေး ခဲ့ကြပါတယ်။

7th July ဓာတ်ပုံပြပွဲအတွက် လိုအပ်တဲ့ ဓာတ်ပုံများကို ကြေးမုံသတင်းစာတိုက်မှ အကြီးတန်း ဓာတ်ပုံသတင်းထောက် ဦးခင်ကြိုင်နဲ့ The Nation သတင်းစာတိုက်မှ အကြီးတန်း ဓာတ်ပုံသတင်းထောက် ဦးခင်မောင်ရွှေတို့က ကူညီရှာဖွေပေးခဲ့ကြပါတယ်။

7th July တနှစ်မြောက်နေ့ အထိမ်းအမှတ် အခမ်းအနားနဲ့ ဓာတ်ပုံပြပွဲကို (၇.၇.၆၃) နေ့မှာ ကျင်းပဖွင့်လှစ်ခဲ့ပါတယ်။ အခမ်းအနားမှာ သဘာပတိအဖြစ် ဗကသများအဖွဲ့ချုပ် ဥက္ကဋ္ဌ ကိုသက် (ပဲခူးရိုးမမှာကျဆုံး)၊ အခမ်းအနားမှူး အဖြစ် ကိုတင်ထွန်း(ဖျာပုံ)က ဆောင်ရွက်ပါတယ်။ တကသ ဥက္ကဋ္ဌ ကိုဗဆွေလေးက ဝမ်းနည်းစကား၊ ဂုဏ်ပြုစကားပြောပါတယ်။

ဦးစွာ 7th July ကျောက်တိုင်မှာ ကိုသက်နဲ့ ကိုတင်ထွန်းတို့က ဗကသများအဖွဲ့ချုပ်ရဲ့ လွမ်းသူ့ပန်းခွေကို ချကြပါတယ်။ တကသအတွက် ပန်းခွေကို ဥက္ကဋ္ဌ ကိုဗဆွေလေးနဲ့ အတွင်းရေးမှူး ကိုသာဒိုးတို့က ချကြပါတယ်။ ကျောင်းသားညီညွတ်ရေးတပ်ဦးအတွက် လွမ်းသူ့ပန်းခွေကို ဥက္ကဋ္ဌ ဦးညိုဝင်းနဲ့ အတွင်းရေးမှူး ကိုလှရွှေတို့က ချပါတယ်။ ရန်ကုန်ခရိုင်သမဂ္ဂအတွက် ဥက္ကဋ္ဌ ကိုဖိုးထင်နဲ့ အတွင်းရေးမှူး ကိုဉာဏ်ဝင်းတို့က ပန်းခွေချခဲ့ကြပါတယ်။ အခမ်းအနားမှာ တကသ ဥက္ကဋ္ဌ ဟောင်းများဖြစ်ကြတဲ့ ဦးကျော်ခင် (၁၉၃၁-ဥက္ကဋ္ဌ)၊ ဦးမောင်မောင်ကျော် (၁၉၄၉-ဥက္ကဋ္ဌ)၊ ဦးစိုးသိမ်း (၁၉၅၉-ဥက္ကဋ္ဌ) တို့က နာကြည်းကြေကွဲတဲ့ မိန့်ခွန်းများ ပြောကြပါတယ်။ ဗကသ၊ တကသ ဥက္ကဋ္ဌဖြစ်တဲ့ ဦးခင်မောင်အုန်း အခမ်းအနားလာတက်တဲ့အခါ ကျောင်းသားရဲဘော်များက 'သစ္စာဖောက် ခင်မောင်အုန်း အလိုမရှိ၊ အလိုမရှိ၊ ထွက်သွား၊ ထွက်သွား'လို့ အော်ဟစ်ကြွေးကြော် မောင်းထုတ်ခြင်းခံခဲ့ရပါတယ်။

ဓာတ်ပုံပြပွဲမှာ ပြသထားတဲ့ ဓာတ်ပုံပါမြင်ကွင်းများဟာ ဝမ်းနည်းစရာ ကြေကွဲစရာ၊ နာကြည်းစရာချည်းပါပဲ။ ကျောင်းသားရဲဘော်များဟာ အဓိပတိ လမ်းမအဝင်ဝ၊ သမဂ္ဂအဆောက်အဦရှေ့ စတဲ့ နေရာအနှံ့မှာ မြင်မကောင်း၊ ရှုမကောင်းအောင် သတ်ဖြတ်ခံထားကြရပါတယ်။ အဲဒီနေ့ ည ၈း၁၅ မှာပြောကြားတဲ့ ဗိုလ်ချုပ်ကြီးနေဝင်းရဲ့မိန့်ခွန်းထဲမှာ 'ဒီနေရာဟာ သံတမန်အခွင့်အရေး ရတဲ့နေရာ ဖြစ်ပါတယ်'တဲ့။ 'အာခံတွင်းထဲက အရိုးပါပဲ'တဲ့။ 'ကျုပ်တို့က ဓား ဓားချင်း၊ တုတ် တုတ်ချင်းပါပဲ'တဲ့။ ရှစ်လေးလုံး ဒီမိုကရေစီအရေးတော်ပုံနဲ့ ပတ်သက်ပြီးပြောတဲ့ သူ့မိန့်ခွန်းမှာလည်း 'စစ်တပ်ဆိုတာ သေနတ်နဲ့ပစ်ရင် တည့်တည့်ပစ်တယ်၊ မိုးပေါ်ထောင်မပစ်ပါဘူး'လို့ သူ မိုက်မိုက်ကန်းကန်း ပြောခဲ့ပါတယ်။

ဇူလိုင်တနှစ်ပြည့်နေ့မှာ ရာမညဆောင် အပြင်ခြံစည်းရိုး အစကနေပြီး 'အိမ်မဲကြီး'(ဆရာဆောင်) အထိ 'အလံနက်'နဲ့ 'တိုင်တဝက်'ထူထားတဲ့ 'ခွပ်ဒေါင်းအလံများ' စိုက်ထူထားခဲ့ပါတယ်။ 7th July ကျောက်တိုင်ဟာ လာချထားတဲ့ ပန်းခွေပန်းစည်းများ၊ ဓာတ်ပုံတွေ၊ ကဗျာတွေ၊ အမှတ်တရ ပစ္စည်းတွေနဲ့ ပြည့်လျှံနေပါတယ်။

ဇူလိုင် ၇ ရက် တနှစ်ပြည့်အထိမ်းအမှတ် အခမ်းအနားကို ကျောင်းသားတွေ ရာနဲ့ချီပြီး တက်ရောက်ခဲ့ကြပါတယ်။ ဇူလိုင်နဲ့ ဩဂုတ်လ အရိုးတွေ 'စ'တွန်လာနေခဲ့ပါပြီ။

လွတ်လပ်ရေးခေတ်ဦး (၁၉၄၈-၆၂) ကျောင်းသား

လှုပ်ရှားမှုနဲ့ ပတ်သက်တဲ့ 'တကသ အဆောက်အဦသစ်'နဲ့ 'ဇူလိုင် ၇ ရက် အထိမ်းအမှတ် ကျောက်တိုင်' (၁၉၆၂)နဲ့ 'ဟယ်ရီတန် ကျောက်တိုင်' (၁၉၅၆) တို့ ရှိပါတယ်။ 'ဟယ်ရီတန်ကျောက်တိုင်'ဟာ အရင်က 'ဗမာ့ခေတ် သတင်းစာတိုက်' (မဆလ ခေတ်မှာ) 'BNA- Burma News Agency' မြန်မာ့သတင်းစဉ် အဆောက်အဦ မျက်စောင်းထိုးမှာ တည်ရှိပါတယ်။

၁၉၆၃၊ နိုဝင်ဘာ ၁၄ မှာ 'ငြိမ်းချမ်းရေးဆွေးနွေးပွဲ' ပျက်ပြီးတဲ့နောက်မှာ တကသ အဆောက်အဦ(သစ်)နဲ့ အထိမ်းအမှတ်ကျောက်တိုင်များကိုပါ စစ်အစိုးရက ဖြိုဖျက်ပစ်ခဲ့ပါတယ်။ ကျောင်းသားခေါင်းဆောင်တဦးဖြစ်ခဲ့တဲ့ (ပီ)သုံးလုံး ဥက္ကဋ္ဌ ဦးခင်မောင်မြင့်က 'စစ်အစိုးရဟာ တကသ အဆောက်အဦကို နှစ်ကြိမ် ဖြိုဖျက်ခဲ့တယ်'လို့ အထက်ဗမာပြည် လူထုအစည်းအဝေး တခုမှာ ပြောခဲ့ပါတယ်။

**ဇူလိုင် ၇ ရက် ကျောင်းသားအရေးတော်ပုံ၏**
**တိုက်ပွဲဝင်ကျောင်းသားခေါင်းဆောင်တဦး**
၃၁၊ ဇန်နဝါရီ၊ ၂၀၁၂

**မေးခွန်း (၁၅)**

**လက်ရှိဖြိုဖျက်ခံထားရတဲ့ ကျောင်းသားသမဂ္ဂ အဆောက်အဦနေရာကိစ္စကို ဘယ်လိုများစဉ်းစားထား တာရှိပါသလဲ။**

တကသအဆောက်အဦနဲ့ မြေနေရာကိစ္စကို တကသနဲ့ပတ်သက်သူများ၊ စိတ်ဝင်စားသူများ တွေ့ဆုံဆွေးနွေး စဉ်းစားကြည့်ခဲ့ကြဖူးတယ်။ ဒီအဆောက်အဦနဲ့ ဒီနေရာဟာ သာမန်အဆောက်အဦတခု၊ မြေနေရာတခုမဟုတ်ဘူး။ အဆောက်အဦနဲ့ ဒီနေရာဟာ နယ်ချဲ့ ဆန့်ကျင်ရေး၊ မြန်မာ့လွတ်လပ်ရေးနဲ့ ဆက်စပ်နေတဲ့ နယ်ချဲ့ဆန့်ကျင်ရေးနဲ့ လွတ်လပ်ရေးထိန်းသိမ်းရေးတိုက်ပွဲနဲ့ ဆက်စပ်နေတဲ့ ပြည်တွင်းစစ်ရပ်စဲရေး၊ ပြည်တွင်းငြိမ်းချမ်းရေးတိုက်ပွဲနဲ့ ဆက်စပ်နေတဲ့ စစ်အာဏာရှင်စနစ် ဆန့်ကျင်ရေး၊ ဒီမိုကရေစီရေး၊ လူ့အခွင့်အရေးတိုက်ပွဲများနဲ့ ဆက်စပ်နေတဲ့ နေရာနဲ့ အဆောက်အဦဖြစ်တယ်။ ရွှေတိဂုံစေတီတော်မြတ်နဲ့ သိဂ္ဂုတ္တရကုန်းတော်တခုလုံးကို စစ်အစိုးရက ထင်သလို စိတ်ကြိုက်ပြုပြင်ပြောင်းလဲနေတဲ့အချိန်မျိုးမှာတောင် ဒီနေရာကို သူတို့ လက်ဖျားနဲ့ မတို့ရဲကြဘူး။ ဒါဟာ မတော်တဆမဟုတ်ဘူး။ ဒီနေရာဟာ သူတို့အတွက် မီးခဲဖြစ်နေလို့ဘဲ။ အသွားမတော်တလှမ်းဖြစ်နိုင်တဲ့ နေရာတခုဖြစ်နိုင်လို့ဘဲ။

ဒီနေရာဟာ (၁) နယ်ချဲ့ဆန့်ကျင်ရေးနဲ့ လွတ်လပ်ရေးတိုက်ပွဲအတွက် အရေးပါတဲ့ ကျောင်းသားသမဂ္ဂ၊ ကျောင်းသားလှုပ်ရှားမှုနဲ့ ကျောင်းသားခေါင်းဆောင်များ မွေးထုတ်ပေးခဲ့တဲ့နေရာဖြစ်တယ်။ ဒီနေရာဟာ ပြည်တွင်းငြိမ်းချမ်းရေးနဲ့ စစ်အာဏာရှင်စနစ်ဆန့်ကျင်ရေးအတွက် အရေးပါတဲ့ ကျောင်းသားသမဂ္ဂ၊ ကျောင်းသားလှုပ်ရှားမှုနဲ့ ကျောင်းသား ခေါင်းဆောင်များကို ဆက်လက်မွေးထုတ်ပေးနေတဲ့နေရာဖြစ်တယ်။ (၂) ဒီနေရာဟာ မြန်မာ့လွတ်လပ်ရေးအတွက် ကြံ့ခိုင်တဲ့ ပထမဆုံး နိုင်ငံရေးခေါင်းဆောင်မျိုးဆက်တဆက်ကို မွေးထုတ်ပေးနေတဲ့ နေရာဖြစ်တယ်။ ဒီနေရာဟာ စစ်အာဏာရှင်စနစ်ဆန့်ကျင်ရေး၊ ဒီမိုကရေစီရေး၊ လူ့အခွင့်အရေးတိုက်ပွဲ အတွက် နိုင်ငံရေးမျိုးဆက်များကို မွေးထုတ်ပေးခဲ့၊ မွေးထုတ်ဆဲ နေရာဖြစ်တယ်။ (၃) နိုင်ငံလွတ်လပ်ဖို့ အမျိုးသားလက်နက်ကိုင်အင်အားတရပ် ရှိမှဖြစ်မယ်ဆိုတဲ့ သမိုင်းဝင် နိုင်ငံရေးသိမြင်မှုကို ဒီနေရာမှာ ကျောင်းသားသမဂ္ဂနဲ့ ဒို့ဗမာအစည်းအရုံး ခေါင်းဆောင်များ ဆွေးနွေးရရှိအကောင်အထည်ဖော်ခဲ့ကြတဲ့နေရာဖြစ်တယ်။ ဒီနေရာဟာ ပထမ၊ ဒုတိယ စစ်အစိုးရများကို အခိုင်အမာဆုံး ဆန့်ကျင်တဲ့ ကိုယ်စားပြုတဲ့ နေရာဖြစ်တယ်။ အာဇာနည်ကျောင်းသားများ စစ်အာဏာရှင်စနစ်ဆန့်ကျင်ရေးအတွက် ပထမဆုံး အသက် စတေးခဲ့တဲ့ ဇူလိုင်(၇) ရက်အရေးတော်ပုံ ဖြစ်ပေါ်ခဲ့တဲ့နေရာဖြစ်တယ်။ ဗိုလ်နေဝင်းက သမဂ္ဂ အဆောက်အဦကို ဖြိုဖျက်မယ့်ညမှာ ဒီနေရာဟာ သံတမန်အခွင့်အရေးတွေရနေတဲ့ နေရာဖြစ်တယ်။ ဒါး ဒါးချင်း - တုတ်တုတ်ချင်းဘဲလို့ ပြောခဲ့တယ်။ ဒီအညှိုး အာဃာတနဲ့ ဇူလိုင် (၇) ရက် ကျောင်းသားသတ်ဖြတ်မှုကြီးနဲ့ (၈) ရက်နေ့ သမဂ္ဂဖြိုဖျက်မှုကြီးကို စစ်အစိုးရက ကျူးလွန်ခဲ့တာ ဒီနေရာမှာဖြစ်တယ်။

ဗကသကို ပြန်လည်ဖွဲ့စည်းတဲ့ ၂၈၊ ၈၊ ၈၈ နေ့က စကားပြောရာမှာ ဗကသ နောက်ဆုံးအတွင်းရေးမှူးအဖွဲ့ဝင်ဖြစ်တဲ့ ဦးလှရွှေက ဒီနေရာမှာ ဇူလိုင် ( ၇) ရက် သွေးစက်တွေနဲ့၊ ဩဂုတ်လသွေးစက်တွေ ပေါင်းဆုံမိခဲ့ပြီလို့ ထည့်သွင်းပြောကြားခဲ့တယ်။ သမဂ္ဂသတင်းစာ ထုတ်ဝေတဲ့အခါမှာ တက္ကသိုလ်သမဂ္ဂအဆောက်အဦ တည်ဆောက်ပေါ်ပေါက်လာပုံကိုလည်း သု ထုတ်ဖော်ရေးသား တင်ပြပေးခဲ့တယ်။ တကသအဆောက်အဦဟာ ရန်ကုန်တက္ကသိုလ်ဖွဲ့စည်းပုံ ( RU Structure ) ထဲမှာ ပါရှိတဲ့ အဆောက်အဦတခုဖြစ်တယ်။ တကသ အဆောက်အဦကို တကသ ဖွဲ့စည်းထူထောင်တဲ့ ၁၉၃၁ ခုနှစ်အတွင်းမှာဘဲ စေတနာရှင်တဦးဖြစ်တဲ့ ဦးညို (KSM, L.L D) က ကုန်ကျစရိတ်အားလုံးကို ကျခံလှူဒါန်းပြီး သူကိုယ်တိုင် အုတ်မြစ်ချပေးခဲ့တာဖြစ်တယ်။ အဲဒီစဉ်က ငွေတန်ဘိုး အင်မတန် ကြီးချိန်မှာ မြန်မာကျပ်ငွေတစ်သိန်းကျော် ကုန်ကျခဲ့တယ်။

မြန်မာနိုင်ငံလွတ်လပ်ရေးရချိန်အထိ တကသ အဆောက်အဦကို ဗြိတိသျှနယ်ချဲ့ အစိုးရက လက်ဖျားနဲ့ မတို့ခဲ့ဖူးဘူး။ သမဂ္ဂအဆောက်အဦရဲ့ ပြုပြင်ထိန်းသိမ်း

ရေးကိစ္စအဝဝကို ရန်ကုန်တက္ကသိုလ် အင်ဂျင်နီယာဌာနက လုံးဝတာဝန်ယူပြီး ဆောင်ရွက်ပေးခဲ့ရတာ ဖြစ်တယ်။ သမဂ္ဂအဆောက်အဦးကြီးဟာ ကျောင်းသားသမဂ္ဂ၊ ကျောင်းသားလှုပ်ရှားမှုနဲ့ ကျောင်းသားခေါင်းဆောင်များရဲ့ အမေ့အိမ် ဖြစ်တယ်။ ဒီမိုကရေစီတိုက်ပွဲဝင် လူငယ်တဦးဖြစ်တဲ့ ခွန်ဆိုင်းက သမဂ္ဂအမေဆိုတဲ့ လူကြိုက်များတဲ့ သမဂ္ဂလွမ်းချင်းတေးတပုဒ်ဖော်ကြူးခဲ့တယ်။ စစ်အစိုးရက ဒီနေရာကို ဖြိုဖျက်ပစ်တာဟာ အဆောက်အဦတခုကို ဖြိုဖျက်ပစ်တာမျိုးမဟုတ်ဘူး။ ဒီနေရာဟာ သူတို့အတွက် ပြတ်သားတဲ့ စစ်အာဏာရှင်စနစ်ဆန့်ကျင်ရေး အမာခံနေရာတခုဖြစ်နေလို့ စစ်အာဏာရှင်ဆန့်ကျင်ရေး၊ နိုင်ငံရေးမျိုးနွယ်ဆက်တွေ မွေးထုတ်ပေးနေလို့ တချီတည်းနဲ့ အပြီးလက်စဖျောက်ပစ်ဖို့ ကြံရွယ်ခဲ့တာဖြစ်တယ်။ စစ်အစိုးရက မျှော်လင့်သလို မှန်းချက်မကိုက်ဘူးဆိုတာ (၈၈) ဒီမိုကရေစီအရေးတော်ပုံက သက်သေခံနေတယ်။

သမဂ္ဂအဆောက်အဦရဲ့ရှေ့မှာ ဗိုလ်အောင်ကျော်အထိမ်းအမှတ်ကျောက်တိုင်ရှိတယ်။ ဗိုလ်အောင်ကျော် အထိမ်းအမှတ် ကျောက်တိုင်နဲ့ကပ်လျက်မှာ ကျောက်တိုင်ရဲ့ ရှေ့တည့်တည့် (အဓိပတိလမ်းမဘက်)မှာ လေမှာအမြဲလွင့်ပျံနေတဲ့ ခွပ်ဒေါင်းအလံ တင်ထားတဲ့ အလံတိုင်ရှိတယ်။ ဇူလိုင် (၇) ရက် တနှစ်မြောက်နေ့အမီ ဒီမိုကရေစီလိုလားသူများ၊ ကျောင်းသားကျောင်းသူများ၊ သမဂ္ဂခေါင်းဆောင်များ စုပေါင်းကြိုးပမ်းပြီး ပြန်လည် တည်ဆောက်ထားတဲ့ သမဂ္ဂအဆောက်အဦသစ်ရှိတယ်။ ပေ (၂၀၀ [illegible] ၂၀) အကျယ်အဝန်းရှိတယ်။ ဗဟန်းမြို့နယ်အတွင်းမှာရှိတဲ့ မြန်မာ့သတင်းစဉ် (NAB) News Agency of Burma ရုံးနဲ့ မျက်စောင်းထိုးမှာ ၂၂၊ ၃၊ ၅၆ နေ့မှာ ကျဆုံးသွားတဲ့ ဟယ်ရီတန်အထိမ်းအမှတ်ကျောက်တိုင်ရှိတယ်။ ၁၉၅၉ မေဒေးနေ့ကို အထိမ်းအမှတ်ပြုပြီး စိုက်ထူထားတဲ့ ဗဟိုဘဏ်ရှေ့ ဆူးလေဘုရားလမ်းဘေးမှာ အလုပ်သမားကျောက်တိုင်ရှိတယ်။ ဒါတွေအားလုံးကို စစ်အစိုးရက ငြိမ်းချမ်းရေးဆွေးနွေးပွဲပျက်ပြီးတဲ့အခါ ဖျက်ဆီးဖျောက်ဖျက်ပစ်ခဲ့တယ်။

သမဂ္ဂပိုင် စာအုပ်စာတမ်းများ၊ မှတ်တမ်းမှတ်ရာများအားလုံးကိုလည်း ဇူလိုင် (၇) ရက်နေ့ညကတည်းက သိမ်းယူသွားခဲ့တယ်။ ဒီနေရာမှာ စစ်အစိုးရရဲ့ ရမ်းကားရက်စက်မှုများကို မှတ်တမ်းတင်ခဲ့တာဖြစ်တယ်။ ဇူလိုင် (၇) ရက် ဦးသန့် အရေးအခင်း၊ မှိုင်းရာပြည့်အရေးအခင်း စတဲ့အရေးအခင်းများဟာ ဒီနေရာမှာဖြစ်ပေါ်ခဲ့တာဖြစ်တယ်။ ဒါကြောင့် ဒီသမိုင်းခြေရာ လက်ရာတွေကို ကာကွယ်တဲ့အနေနဲ့ သမဂ္ဂအဆောက်အဦးကို သူ့မူလ (Blue Print) အတိုင်း ပြန်လည်တည်ဆောက်ဖို့ ဇူလိုင် (၇) ရက်အထိမ်းအမှတ်ကျောက်တိုင်ကို မူလနေရာမှာ ပြန်လည်စိုက်ထူဖို့ ဆန္ဒရှိကြကြောင်း ဖော်ထုတ်ခဲ့ကြတယ်။ ဒီနေရာကို သမဂ္ဂအဆောက် အဦပြန်လည်တည်ဆောက်ပြီးတဲ့နောက် မြန်မာနိုင်ငံရဲ့ ကျောင်းသားသမဂ္ဂ၊ ကျောင်းသား လှုပ်ရှားမှုများရဲ့ သမိုင်းပြတိုက်နဲ့ ကျောင်းသားသမဂ္ဂ၊ ကျောင်းသားလှုပ်ရှားမှုနဲ့ ကျောင်းသားခေါင်းဆောင်များ ဆင်နွှဲတဲ့ စစ်အာဏာရှင်စနစ်ဆန့်ကျင်ရေး သမိုင်းပြတိုက်အဖြစ် ထားရှိသွားဖို့ အကြံပြုထားကြတာများရှိတယ်။ သမဂ္ဂအဆောက်အဦသစ်ကို နောင်ပေါ်ပေါက်လာမယ့် ကျောင်းသားသမဂ္ဂ၊ ကျောင်းသားလှုပ်ရှားမှုနဲ့ ကျောင်းသား ခေါင်းဆောင်များရဲ့ ဆန္ဒအတိုင်း စဉ်းစားတည်ဆောက်သွားကြဖို့ အကြံပြုချက်များရှိတယ်။

ဒီနေရာမှာ အရေးအကြီးဆုံးကတော့ ဘယ်စစ်အာဏာရှင်တယောက်ယောက်ရဲ့ လက်နဲ့မှ သမဂ္ဂအဆောက်အဦကို အုတ်မြစ်ချခွင့်မပြုဖို့၊ သမဂ္ဂအဆောက်အဦနေရာဟောင်းမှာ တခြား ဘယ်လိုအဆောက်အဦးမျိုးမှ ဆောက်ခွင့်မပြုဖို့ တားဆီးသွားကြဖို့ သဘောထားများရှိတယ်။

(၇) ဇူလိုင်နဲ့ပတ်သက်ပြီး အရေးတကြီးအဖြေပေးရမယ့်အကြောင်းကိစ္စ (၄) ခုလောက် ရှိမယ်။ (၇) ဇူလိုင်မှာ ဘာ့ကြောင့် ကျောင်းသားတွေကို ပစ်ခတ်သတ်ဖြတ်ခဲ့သလဲ။ ပစ်ခတ်သတ်ဖြတ်ဖြေရှင်းဖို့ ဘာအကြောင်းရှိသလဲ။ ကျောင်းသားတွေ ဘယ်လောက်သေဆုံးခဲ့ရသလဲ။ ကျောင်းသားတွေကို ပစ်ခတ်ဖို့နဲ့ သမဂ္ဂအဆောက်အဦကို မိုင်းခွဲဖျက်ဆီးပစ်ဖို့ ဘယ်သူအမိန့်ပေးခဲ့သလဲဆိုတာတွေ ဖြစ်တယ်။ ဒီအချက်တွေကိုပလေ့လာခင် (၇) ဇူလိုင် ဘယ်လိုစတင်ဖြစ်

ပေါ်ခဲ့လဲဆိုတာ နဲနဲသိဖို့လိုတယ်။ (၆၂) မေလထဲမှာ စစ်အစိုးရက ကျောင်းဆောင်စည်းကမ်း (၂၂) ချက်ကို ထုတ်ပြန်ခဲ့တယ်။ ဒီစည်းကမ်း (၂၂)ချက်ကို ဆန့်ကျင်ကန့်ကွက်ဖို့ ကျောင်းသားထုအစည်းအဝေးကို တကသဖွဲ့စည်းပုံနဲ့အညီ ဇူလိုင် (၇) ရက်နေ့မှာ ခေါ် ဆိုထားတယ်။ တာဝန်ရှိတဲ့ သမဂ္ဂများနဲ့အဖွဲ့အစည်းများက အစည်းအဝေးနဲ့ ပတ်သက်တဲ့ လိုအပ်ချက်တွေကို လုံလုံလောက်လောက် ရှင်းလင်းပြထားတယ်။ စည်းရုံးလှုံ့ဆော်ထားတယ်။

ဇူလိုင် (၆)ရက်နေ့ညဦးမှာ မန္တလေးဆောင် အပါအဝင် New Hall (အဆောင်သစ်များ - တောင်ငူ၊ ရာမညာ၊ အမရ) တခုလုံး မီးပြတ်သွားတယ်။ မီးပြတ်တဲ့ကိစ္စနဲ့ဆက်စပ်ပြီး မန္တလေးဆောင် အဆောင်နေကျောင်းသားများက စတင်ပြီး ကြွေးကြော်သံများ တိုင်ကြတယ်။ ဒုအဆောင်မှူးက ကျောင်းသားတွေတောင်းဆိုနေတဲ့ကြားထဲက အဆောင်မကြီးတံခါးကို ဖွတ်ပိတ်ပစ်လိုက်တယ်။ တာဝန်ရှိတဲ့ သမဂ္ဂခေါင်းဆောင်တွေ ရောက်လာပြီး အေးအေးဆေးဆေးဖြစ်စေဖို့ အဆောင်တံခါးဖွင့်ပေးဖို့ တောင်းဆိုတယ်။ အဆောင်မှူးဖြစ်တဲ့ ပညာရေးဝန်ကြီး တာဝန်ထမ်းဆောင်ခဲ့ဖူးတဲ့ ဒေါက်တာခင်မောင်ဝင်းကိုလည်း တွေ့ဆုံပြောင်းဆိုကြတယ်။ အဆောင်မှူးများက စိုးရိမ်ပြီး တံခါးဖွင့်မပေးကြဘူး။ ဒီအချိန်မှာ အဆောင်နေကျောင်းသားတွေက ပေါက်ကွဲလာပြီး တံခါးကို လူအားနဲ့ ဆွဲဖွင့်လိုက်ကြတယ်။ သမဂ္ဂခေါင်းဆောင်များက အခြေအနေကို ထိန်းသိမ်းပြီး ဇူလိုင် (၇) ရက်နေ့မှာ တင်သွင်းဆုံးဖြတ်မယ့် အဆိုကြွေးကြော်သံများကို တိုင်တန်းပေးလိုက်တယ်။ မန္တလေးဆောင်အုပ်စု အဆောင်နေကျောင်းသားများစုစည်းပြီး တက္ကသိုလ်ဝင်းအတွင်းမှာ လှည့်လည်ကြွေးကြော်ကြတယ်။

ဗဟိုအဆောင်အုပ်စု ရွှေဘိုဆောင်၊ ဒဂုံဆောင်တို့ကလည်း ပူးပေါင်းပါဝင်လာကြတယ်။ တက္ကသိုလ်ပရဝဏ် (University Campus) အပြင်ကို မထွက်ဘူး။ တက္ကသိုလ် ပရဝဏ်အတွင်းမှာဘဲ မနက်(၃) နာရီလောက်အထိ လှည့်လည်ကြွေးကြော်ကြတာ ဖြစ်တယ်။ တက္ကသိုလ်ဝင်းအတွင်းမှာ ဘာဆူပူဖျက်ဆီးမှုမှ မရှိဘူး။ နောက်တနေ့ ဇူလိုင် (၇) ရက်နေ့ မနက် (၁၁) နာရီမှာ ကျောင်းသားထုအစည်းအဝေးကို သတ်မှတ်ထားတဲ့အတိုင်း တကသအဆောက်အဦမှာ ကျင်းပတယ်။ သဘာပတိအဖြစ် တကသဥက္ကဋ္ဌ ကိုဗဆွေလေးက ဆောင်ရွက်ပြီး အခမ်းအနားမှူးအဖြစ် ကိုသာဒိုးက ဆောင်ရွက်တယ်။ ကျောင်းသား (၂၀၀၀) ခန့် တက်ရောက်ကြတယ်။ အစည်းအဝေးမှာ ဖိနှိပ်ချုပ်ချယ်တဲ့ ကျောင်းဆောင်စည်းကမ်းတွေကို ရုတ်သိမ်းပေးဖို့၊ ကျောင်းဆောင်ကော်မတီမှာ ကျောင်းသားကိုယ်စားလှယ်ပါဝင်ခွင့်ပေးဖို့၊ ကျောင်းဆောင်လိုသူတိုင်း ကျောင်းဆောင်ရရေးအတွက် ကျောင်းဆောင်သစ်များ ဆောက်လုပ်ပေးဖို့တောင်းဆိုခဲ့ကြတယ်။ ဇူလိုင် (၆) ရက်နေ့ည (၈) နာရီမှာ စစ်အစိုးရက တက္ကသိုလ်နယ်မြေကို ပုဒ်မ (၁၄၄) ထုတ်ကြောင်းကြေညာတယ်။ ဇူလိုင် (၇) ရက်အစည်းအဝေးက ပုဒ်မ (၁၄၄) ကိုဆန့်ကျင်ကန့်ကွက်ခဲ့တယ်။ အစည်းအဝေးကို ကြွေးကြော်သံများနဲ့သာ ရုပ်သိမ်းခဲ့တယ်။

ကြွေးကြော်သံတွေကတော့ ...

"မတရားစည်းကမ်းတွေ အလိုမရှိ"

"မတရားချုပ်ချယ်မှုတွေ အလိုမရှိ"

"ကျောင်းဆောင်တွေကို အကျဉ်းထောင် မလုပ်နဲ့"

"ချုပ်ချယ်မှုတွေ အလိုမရှိ"

"မတရားစည်းကမ်းတွေ ဖျက်သိမ်း"

"ကျောင်းသားထု ညီညွတ်ကြ "

စတာတွေဖြစ်တယ်။ နေ့လည် (၂) နာရီမှာ အစည်းအဝေးပြီးဆုံးတယ်။ အဲဒီနောက် ဆန္ဒပြလှည့်လည်ဖို့ ဆုံးဖြတ်ကြပြီး တကသအဆောက်အဦရှေ့မှာ စုရုံးကြတယ်။ ကျောင်းသားတွေက နီရဲတဲ့ ခွပ်ဒေါင်းအလံကို လမ်းမှာလွှင့်၊ ပိုစတာမျိုးစုံကိုင် ရှေ့ဆုံးနေ ကြီးမားလှတဲ့ ခွပ်ဒေါင်းအလံကြီးဖြန့်ပြီး ကျောင်းသား (၁၀) ယောက်ခန့်က ကိုင်ဆောင်လာကြတယ်။ မန္တလေး၊ တောင်ငူ၊ ဒဂုံ၊ ရွှေဘိုဆောင်၊ အဓိပတိလမ်းမှ ဘွဲ့နှင်းသဘင်ကို အဓိပတိလမ်းအတိုင်း စီတန်းလှည့်လည်ကြပြီး

တကာသ ဆောက်အဦရှေ့မှာ ပြန်စုကြတယ်။ဗကာသ ဥက္ကဋ္ဌ ကိုသက်က …

"ရဲဘော်တို့ ပညာရေးပြုပြင်ပြောင်းလဲရေးကို စတင်မပြုလုပ်ဘဲနဲ့ ချုပ်ချယ်ရေး

စည်းကမ်းတွေကိုသာ စနစ်တကျလုပ်ဆောင်နေတာကို ကျွန်တော်တို့ဆက်လက်

တိုက်ပွဲဝင်ရဦးမှာဖြစ်တယ်။ ပညာရေးပြုပြင်ပြောင်းလဲရေး၊ အမျိုးသားပညာရေး

တည်ဆောက်ရေးတို့အတွက် ရှေ့လုပ်ငန်းများကို ဆက်လက်လုပ်ဆောင်ကြရလိမ့်

ဦးမယ်။ မတရား ကျောင်းဆောင် စည်းကမ်းတွေကိုလည်း ရုတ်သိမ်းဖို့ လက်တွဲ

တိုက်ရဦးမှာ ဖြစ်တယ်။ ဒီတိုက်ပွဲတွေအတွက် အကောင်းဆုံး လက်နက်ဟာ

ကျောင်းသားထု ညီညွတ်ရေးဘဲ။ ကျောင်းသားထု ညီညွတ်ရေးကို မရမနေ

တည်ဆောက်ပြီး ကျောင်းသားသမဂ္ဂရဲ့ ခွပ်ဒေါင်း အောင်လံအောက်မှာ စုစည်း

ညီညွတ်ပြီး ဆက်လက် တိုက်ပွဲဝင်သွားကြပါစို့"

ဆိုပြီး နိဂုံးချုပ်မိန့်ခွန်းပြောအပြီးမှာ ကျယ်လောင်ရှည်လျားလှတဲ့ လက်ခုတ်သံများနဲ့ ဆန္ဒပွဲပြီးဆုံးသွားခဲ့တယ်။ ကျောင်းသားတွေ ကိုယ့်သက်ဆိုင်ရာ အဆောင်ကို ပြန်သွားကြတယ်။ နေ့လည် (၂) နာရီကျော်မှာ ရဲနဲ့ စစ်ထောက်လှမ်းရေး အင်အား (၂၀၀) ခန့်သုံးပြီး သမဂ္ဂခေါင်းဆောင်များကို ဝိုင်းဝန်းဖမ်းဆီးခဲ့တယ်။ ဒီအခြေအနေကြောင့် ကျောင်းသားထုက တကာသ အဆောက်အဦးမှာ ပြန်လည်စုစည်းမိသွားတယ်။

ကျောင်းသားတွေက အဖမ်းခံရတဲ့ကျောင်းသားသမဂ္ဂခေါင်းဆောင်များကို ပြန်လည် လုယူတာမျိုးလုပ်တယ်။ တကာသမြက်ခင်းပြင်မှာ စစ်ထောက်လှမ်းရေး၊ ရဲထောက်လှမ်းရေး (MI, SB) တွေနဲ့ ကျောင်းသားတွေ အရောရောအထွေးထွေးဖြစ်ခဲ့တယ်။ ဗကာသ ဥက္ကဋ္ဌ ကိုသက်၊ တကာသ ဥက္ကဋ္ဌ ကိုဗဆွေလေးနဲ့ ရကာသ အတွင်းရေးမှူးကိုဉာဏ်ဝင်း၊ ကိုစိုးတင့်၊ ကိုရဲမြင့်၊ ကိုထိန်ဝင်း၊ ကိုကြည်ညွန့်၊ ကိုဝင်းကြည်၊ ကိုတင်ငွေ၊ ကိုချို တို့ကို ရန်ကုန်ရဲအဖွဲ့က တကာသ အဆောက်အဦးပေါ်မှာ ဖမ်းဆီးရမိလိုက်ကြတယ်။ ဒီသတင်းဟာ အဆောင်းအားလုံးကိုပြန့်သွားပြီး "ကျောင်းသားတွေလာကြဟေ့။ ငါတို့ခေါင်းဆောင်တွေဖမ်းနေပြီ" ဆိုပြီး သတင်း ပြန့်သွားတယ်။ ကျောင်းသားများ အဆောင်တိုင်းက ထွက်လာပြီး တကာသဝင်းထဲ ပိုမိုများပြားစွာ စုရုံးမိသွားတယ်။

ကျောင်းသားများကို ဖမ်းဆီးရာမှာ ရဲများကို ပြန်လည်ခုခံပြီး "ပုလိပ်အလိုမရှိ။ ရဲအလိုမရှိ" စသည်ဖြင့် အော်ဟစ်ကြတယ်။ တကာသ အဆောက်အဦးနဲ့ မျက်နှာချင်းဆိုင်မှာရှိတဲ့ မန္တလေးနဲ့ အမရဆောင်က ကျောင်းသားများက ခဲများနဲ့ ပေါက်ကြတယ်။ သထုံ၊ ပဲခူးဆောင်းက ကျောင်းသားများကလည်း ခဲများနဲ့ ပုလိပ်များကိုပစ်ပြီး ကျောင်းသားများကို ဖမ်းဆီးမှု ထပ်မလုပ်နိုင်အောင် ကာကွယ်ကြတယ်။ ခဲပေါက်မှုများလာတဲ့အတွက် ပုလိပ်တွေက တက္ကသိုလ်ဝင်းအပြင်ကို ဆုတ်ခွာပေးလိုက်ကြတယ်။ အဲဒီနောက် ကျောင်းသားတွေက အဓိပတိလမ်းရှိ ခြသေ့်တံခါးကို ပိတ်လိုက်ကြတယ်။

ညနေ(၄)နာရီခန့်မှာ သီးသန့် ရဲအဖွဲ့က ရဲသား(၁၀၀) ခန့်ဟာ အဓိကရုဏ်းနှိမ်နင်းရေးကား (၂)စီး၊ သေနတ်ကိုင်စစ်ကား (၅) စီးရောက်လာတယ်။ ဒုဗိုလ်မှူးကြီးစိန်လွင်၊ ဒုဗိုလ်မှူးကြီး ကျော်စိုး၊ ဒုဗိုလ်မှူးကြီးမောင်မောင်ခ၊ လက်ထောက်ရဲမင်းကြီး ဦးလှငွေတို့ ကမာရွတ်ဂါတ်တဲမှာ ရောက်ရှိနေတယ်။ သီးသန့်ရဲများက မျက်ရည်ယိုဗုံး (၇) လုံးပစ်ဖေါက်လိုက်တယ်။ ကျောင်းသားများက ဆက်လက်ဆန္ဒပြကြွေးကြော်နေဆဲဖြစ်တယ်။ ဒုဗိုလ်မှူးကြီးစိန်လွန်က လက်ထောက်ရဲမင်းကြီး ဦးလှငွေကို ရဲများနဲ့သာ ဆူပူမှုထိမ်းပေးဖို့ တာဝန်ပေးတယ်။

ညနေ (၄) နာရီ မိနစ် (၂၀) ခန့်မှာ အထူးသတင်းထောက်လှမ်းရေး ဌာနရဲမင်းကြီးဦးမောင်မောင်၊ တတိယရာဇဝတ် တရားသူကြီး ဦးမောင်မောင်ကြည် တို့ ရောက်ရှိလာပြီး အခြေအနေကိုအကဲခတ်ကြတယ်။ ဗိုလ်မှူးကြီး( ) ဗိုလ်မှူးကြီးတင်စိုး၊ ရန်ကုန်ရဲမင်းကြီး ဦးခင်မောင်မောင်၊ ဒုရဲမင်းကြီးဦးသန်း၊ ဒုဗိုလ်မှူးကြီးစိန်

လွင်တို့လည်း ရောက်ရှိလာတယ်။

ညနေ (၄) နာရီ (၄၅) မိနစ်လောက်မှာ မျက်ရည်ယိုဗုံး (၆) လုံးပစ်ပြီး နှိမ်နင်းပြန်တယ်။ ဒါပေမဲ့ ကျောင်းသားများ ဆက်လက်ဆန္ဒပြတဲ့အတွက် နောက်ထပ် ဗုံး (၄) လုံးထပ်ဖောက်ခဲ့တယ်။

ကျောင်းသားလှုပ်ရှားမှု ခဏရပ်ဆိုင်းသွားတဲ့ အခါ ဒုဗိုလ်မှူးကြီးစိန်လွင်က ကျောင်းသားတွေဆီသွားပြီး ကျောင်းသားကိုယ်စားလှယ်တွေ ထွက်ပါလို့ပြောတဲ့ အခါ ကိုကျင်၊ ကိုစိန်ဝင်း၊ ကိုထွန်းကျော်၊ ကိုးဝင်းညွန့် နဲ့ တကာသအရံတပ်ရင်းက စစ်ဝတ်စုံဝတ်ထားတဲ့ ကိုလှထွန်းတို့ ထွက်လာကြတယ်။ ဒုဗိုလ်မှူးကြီးစိန်လွင် က ဆူပူမှုကို ထိမ်းပေးက သူတို့ရဲ့ ရဲများကို ပြန်ရုတ်သိမ်းမယ်လို့ပြောတယ်။ ကျောင်းသားများက စစ်ဝတ်စုံဝတ်ထားတဲ့ ကိုလှထွန်းရဲ့ အင်္ကျီကိုဗိုင်းချွတ်ပြီး စစ်ဦးထုပ်ကို ဘောလုံးလုပ်ပြီးကန်ကြတယ်။ အဲဒီနောက် ဆန္ဒပြမှုများ၊ ခဲပစ်မှုများ ဆက်လက်ဖြစ်ပွားလာကြပြီး သီးသန့်ရဲများက မျက်ရည်ယိုဗုံး (၆) လုံး ထပ်မံပစ်ပြန်ရာ ဒဏ်ရာရတဲ့ကျောင်းသားတွေကို အချင်းချင်းဖေးမပြီး အဆောင်တွင်းခေါ်ယူသွားကြတယ်။

ညနေ (၅) နာရီ (၁၅) မိနစ်လောက်မှာ ဒုဗိုလ်မှူးကြီးစိန်လွင်က ရဲများကို ပြန်လည်ရုတ်သိမ်းပြီး စစ်တပ်ကို အစောင့်ချထားလိုက်တယ်။ စစ်တပ်ကို အစောင့်ချ ထားလိုက်တဲ့အခါမှာ ကျောင်းသားများက အဓိပတိလမ်းဖက်ကို ပေ (၂၀) လောက် ဆုတ်သွားပြီး ပါမောက္ခချုပ် ဦးကာရဲ့ စကိုဒါကား စ-၆၅၉ နဲ့ ကျောင်းရုံးပိုင် ဘောက်စဝွန်းကား ၀-၆( ) ကို လမ်းမပေါ်တွန်းလာပြီး မီးရှို့လိုက်ကြတယ်။ ကျောင်းသားများ ပိုမိုများပြားလာပြီး ဆန္ဒပြမှုနဲ့ ကြွေးကြော်သံများ ပိုမိုမြင့်မားလာတယ်။

ညနေ (၅း၄၀) လောက်မှာ ဒုဗိုလ်မှူးကြီးစိန်လွင် ခေါင်းဆောင်တဲ့ တပ်ရင်း (၄) က တက္ကသိုလ်ပရဝဏ်ကို ဝိုင်းဝန်းနေရာယူကြတယ်။ စစ်တပ်မှာ စတင်တပ်ဆင်ထားတဲ့ ဂျီသရီး၊ ဂျီဖိုး မောင်းပြန်သေနတ်များကို ကိုင်ဆောင်ထားကြတယ်။ ဒီအခြေအနေကို ဆက်စပ်ပြီး စစ်တပ်နဲ့ ကျောင်းသားထုကြား တင်းမာမှုများပိုမိုဖြစ်ပေါ်ခဲ့တယ်။ အဖမ်းခံရမယ့်အန္တရာယ်ကြောင့် အရေးပါတဲ့ကျောင်းသားခေါင်းဆောင်တချို့ တာဝန်များခွဲဝေပြီး တက္ကသိုလ်နယ်မြေက ထွက်ခွာခဲ့တယ်။

အခြေအနေကိုထိန်းသိမ်းနိုင်ဖို့ သမဂ္ဂခေါင်းဆောင်တချို့ ချန်နေခဲ့တယ်။ ကိုလှရွှေ၊ ကိုလှကြည်၊ ကိုထွန်းကြည်တို့ ဖြစ်တယ်။ အဆောင်ခေါင်းဆောင်များကိုစုစည်းပြီး တင်းမာမှုများကို ထိန်းသိမ်းပေးခဲ့တယ်။ သမဂ္ဂခေါင်းဆောင်များဟာ သမဂ္ဂအဆောက်အဦးကို မိုင်းနဲ့ခွဲသည်အထိ တက္ကသိုလ်ဝန်းကျင်မှာရှိနေကြတယ်။ ညနေ (၆) နာရီလောက်ရှိတဲ့အခါ ကျောင်းသားများ လူစုကွဲသင့်သလောက် ကွဲသွားပြီဖြစ်တယ်။ အဓိပတိလမ်းမပေါ်မှာရှိတဲ့ တကာသအဆောက်အဦး၊ မန္တလေးဆောင် ပတ်ဝန်းကျင်မှာ အများစု စုရုံးနေကြတယ်ဖြစ်တယ်။ ညနေ (၆း၁၀) လောက်မှာ စတင်ပစ်ခတ်မှုဖြစ်တယ်လို့ အမှတ်အသားပြုထားကြတယ်။ ပစ်မိန့်က သုံးမိနစ်ပစ် - နှစ်မိနစ်နား - သုံးမိနစ်ပစ်ဖြစ်တယ်။ ပစ်ခတ်တဲ့ ဂျီသရီး၊ ဂျီဖိုး မောင်းပြန်သေနတ်တွေဟာ ဂျာမဏီနိုင်ငံ ဖိဆွာနာကုမ္ပဏီနဲ့ စစ်အစိုးရတို့ ဖက်စပ်ထုတ်လုပ်တဲ့ လက်နက်ဖြစ်တယ်။

ဒီအခြေအနေတခုလုံးကို အကြမ်းဖျင်းကြည့်ရင် ကျောင်းသားထုကို တက္ကသိုလ်ပရဝဏ်အတွင်းမှာ ပစ်ခတ်သတ်ဖြတ် အရေးယူလောက်စရာ ဘယ်လိုခိုင်မာတဲ့ အကြောင်းပြချက်မှမရှိဘူးဆိုတာ တွေ့ရတယ်။ ပစ်ခတ်သတ်ဖြတ်မှုဖြစ်ရတဲ့ အဓိကအကြောင်းက တော့ ကျောင်းသားသမဂ္ဂ၊ ကျောင်းသားလှုပ်ရှားမှုနဲ့ ကျောင်းသားထုဟာ (၅၈) ခုနှစ် အာဏာသိမ်းမှုကိုဖြစ်စေ (၆၂) ခု အာဏာသိမ်းမှုကိုဖြစ်စေ၊ စစ်အာဏာရှင်စနစ်မှတပါး တခြား ဘာမှမဟုတ်ဘူးဆိုတာ ပြတ်ပြတ်သားသားရပ်ခံခဲ့ကြလို့ဖြစ်တယ်။

၁၉၆၂ ခုနှစ် အာဏာသိမ်းပွဲဖြစ်ပြီးတဲ့အခါ ဥပဒေတွင်း ဒီမိုကရေစီရေး လှုပ်ရှားမှုအတွင်းမှာ အဓိကအတိုက်အခံအဖြစ် ရပ်တည်နေတဲ့ ဝိဓူရသခင်ချစ်မောင် ခေါင်းဆောင်တဲ့ (မလညပ) နဲ့ (ပမညတ) တို့က ၁၉၆၂ စစ်အာဏာသိမ်းမှုကို အချက် (၃) ချက်နဲ့ ထောက်ခံလိုက်ကြတယ်။ (၁) တပ်မတော်ဟာ တော်လှန်ရေးအစဉ်အလာရှိတဲ့ အမျိုးသား အင်အားစု

ကြီးတရပ်ဖြစ်တယ်။ (၂) တပ်မတော်ခေါင်းဆောင်များဟာ ခေနရှင်ပေါက်စ ပညာတတ်များဖြစ်ကြတယ်။ အတန်းအစားအရ မိတ်ဆွေဖြစ်တယ်။ (၃) မြန်မာ့ဆိုရှယ်လစ် လမ်းစဉ်ပါတီဟာ ပူးပေါင်းဆောင်ရွက်နိုင်တဲ့ ဘုံလုပ်ငန်းစဉ်ဖြစ်တယ်ဆိုတဲ့ အကြောင်းပြချက်များ ဖြစ်တယ်။ " ( ) လမ်းစဉ်နဲ့ပတ်သက်တဲ့ငါတို့သဘောထား မလည်ပ"။ မလည်ပနဲ့ ပမညတဟာ (၇) ဇူလိုင်ကို တိတ်တိတ်ဆန့်ကျင်ခဲ့တယ်။ လူသိရှင်ကြားကန့်ကွက်တာမလုပ်ခဲ့ဘူး။ ဒီလို အခြေအနေမျိုးမှာ ကျောင်းသားသမဂ္ဂ၊ ကျောင်းသားလှုပ်ရှားမှုနဲ့ကျောင်းသားထုက စစ်အာဏာရှင်စနစ်ဆန့်ကျင်ရေးကိုပြတ်ပြတ်သားသား ဆန့်ကျင်သလို စစ်အစိုးရကလည်းရဲရဲတင်းတင်း သတ်ဖြတ်ခဲ့တာဖြစ်တယ်။ ကျောင်းသားသမဂ္ဂ၊ ကျောင်းသားလှုပ်ရှားမှုနဲ့ ကျောင်းသားခေါင်းဆောင်များကို လက်စတုံးပစ်ဘို့ ကြံရွယ်ချက်နဲ့တကာသ အဆောက်အဦကိုပါ မိုင်းခွဲဖျက်ဆီးခဲ့တာဖြစ်တယ်။

ကျောင်းသားသမဂ္ဂခေါင်းဆောင်များနဲ့ ပြင်ပဒီမိုကရေစီအင်အားစုများစုစည်းပြီး ပြန်လည်တည်ဆောက်ခဲ့တဲ့ သမဂ္ဂအဆောက်အဦသစ်ကိုပါဖျက်ဆီးပစ်ခဲ့တယ်။ သမဂ္ဂနဲ့ သမဂ္ဂခေါင်းဆောင်များကစုစည်းရရှိတဲ့ အထောက်အထားများအရ ကျောင်းသားရာကျော် သတ်ဖြတ်ခံခဲ့ရတယ်လို့ ဖော်ထုတ်ခဲ့တယ်။ ရန်ကုန်ဆေးရုံကြီး (R.G.H) Rangoon General Hospital ကို သေဆုံးဒဏ်ရာရ ကျောင်းသား (၈၀) ကျော်ရောက်ရှိတယ်လို့ ဆေးရုံအုပ်ကြီးက သတင်းဌာနတခုကို ထုတ်ဖော်ပြောခဲ့တယ်။

တရားဝင်မဟုတ်တဲ့ သတင်းများအရ တပ်မတော်စစ်ဆေးရုံ (B.M.H) Burma Military Hospital ကိုလည်း သေဆုံးဒဏ်ရာရ (၈၀) ခန့်ရောက်ရှိကြောင်း မျက်မြင်စစ်သူနာပြု (Nursing Cadet) အမျိုးသမီးတဦးရဲ့ ပြောပြချက်အရသိရတယ်။ သူနာပြုစုခွင့် မရဘူးလို့လည်း ပြောကြားခဲ့တယ်။ သေဆုံးတဲ့ကျောင်းသားတွေကို ဘယ်နေရာမှာ မြှုပ်နှံတယ်ဆိုတာကို ဖုံးဖိထားကြဆဲဖြစ်တယ်။ စစ်အစိုးရက (၁၆) ယောက်သာ သေဆုံးကြောင်း ထုတ်ပြန်တယ်။ ကျောင်းသားသမဂ္ဂက (၁၇) ယောက် စုံစမ်းရရှိကြောင်းထုတ်ပြန်တယ်။ နာမည်မတူတာတွေ ရှိတယ်။

အဲဒီစဉ် အဲဒီကာလက ကျောင်းဆောင်ဌာနရဲ့ ကျောင်းဆောင်နေခွင့် ထုတ်ပြန်ချက်မူအရ သေဆုံးသွားတဲ့ ကျောင်းသားစာရင်းအမှန်ကို ဖုံးဖိထားနိုင်တယ်။ စစ်မှန်တဲ့ စုံစမ်းရေးကော်မတီတခုဖွဲ့ပြီး တက္ကသိုလ်ဝင်ခွင့်စာရင်းနဲ့ တိုက်ဆိုင်စစ်ဆေးကြည့်မှသာ မှန်ကန်တဲ့ သေဆုံးအရေအတွက်ရနိုင်တယ်။ ကိုလေးရီ (မုံရွာ) အဲဒီစဉ်ကတည်းရှိနေတဲ့ သတင်းစာကြီး အစောင် (၂၀) ကျော်လောက်က (၇) ဇူလိုင်နဲ့ပတ်သက်တဲ့ သတင်းနဲ့ သတင်းဓာတ်ပုံများကို နိုင်ငံရေးအခြေအနေ ခွင့်ပြုသလောက် ဖော်ထုတ်တင်ပြခဲ့ကြတယ်။ (၇) ဇူလိုင်ဖြစ်တဲ့နေ့က မြန်မာ့အသံ (BBS) Burma Broadcasting Service မှာ ကွပ်ကဲရေးရုံးဖွင့်လှစ်ထားရှိပြီး အခြေအနေကို ကွပ်ကဲခဲ့တယ်လို့ဆိုတယ်။ (၇) ဇူလိုင်ပစ်ခတ်မှုနဲ့ သမဂ္ဂအဆောက်အဦကို မိုင်းခွဲပစ်တဲ့ ဒီသမိုင်းဝင် ရက်စက်ရမ်းကားတဲ့အမိန့်ကို ဘယ်သူပေးခဲ့သလဲဆိုတာ တကမ္ဘာလုံးကသိတယ်။

အဲဒီစဉ်က ဗမာ့တပ်မတော်မှ ကာနယ်အဆင့်ရှိသူနဲ့ မဆလပါတီ ဗဟိုကော်မတီအဆင့်ရှိသူတိုင်း သိတယ်။ ဒါကို ဒီကနေ့အထိ သိရက်နဲ့ သူ့အကျိုး၊ ကိုယ့်ကျိုးကြောင့် ဖုံးဖိပေးထားခဲ့ကြတာဖြစ်တယ်။ ဒီကနေ့လူထုဘက်ရောက်နေတဲ့ တပ်မှူးကြီးတွေလည်း သိတယ်။ (၇၈) ခုနှစ်အတွင်းမှာ (၇) ဇူလိုင်တာဝန်ကို ဗိုလ်အောင်ကြီးအပေါ်ပုံချတဲ့ လှုံ့ဆော်မှုတခု မဆလပါတီအတွင်းမှာ ဖြစ်ပေါ်ခဲ့တယ်။ ဗိုလ်အောင်ကြီးက ဒီကိစ္စနဲ့ပတ်သက်ပြီး စာ (၂) စောင်ထုတ်ပြီး ငြင်းပယ်ခဲ့တယ်။ ဘယ်သူ့မှာ တာဝန်ရှိတယ် ဆိုတာကိုတော့ သိရက်နဲ့ ဖုံးထားပေးခဲ့တယ်။ (၇) ဇူလိုင်ဖြစ်တဲ့နေ့က ကွပ်ကဲရေးရုံးမှာ (၁) ဗလက (ဗဟိုလုံခြုံရေးနှင့် အုပ်ချုပ်မှုကော်မတီ) ဥက္ကဋ္ဌ ကာနယ်ကျော်စိုး၊ (၂) နိုင်ငံတော်တွဲဘက်အတွင်းရေးမှူး ဦးသန်းစိန်၊ (၃) ဒေါက်တာလှဟန်၊ (၄) ပြန်ကြားရေးဌာန တာဝန်ခံ ကာနယ်ဘနီ၊ (၅) ရဲချုပ်ဦးဘအေး၊ (၆) ရန်ကုန်တက္ကသိုလ်ပါမောက္ခချုပ်ဦးကာတို့ဖြစ်ကြတယ်။ စိန်လွင်က တက္ကသိုလ်ဝင်းကိုတပ်နဲ့ဝိုင်းထားတယ်။ ပစ်ခတ်မှုကို စိန်လွင်ကတာဝန်

ယူထမ်းဆောင်ခဲ့တယ်။

တပ်မတော်ဆောက်လုပ်ရေးနဲ့ အင်ဂျီနီယာဌာန (BE, GE) က ကာနယ်လှမြင့်က တကသ အဆောက်အဦး မိုင်းခွဲဖျက်ဆီးဖို့ တာဝန်ယူခဲ့တယ်။ ဗိုလ်နေဝင်းက (၈၈) ဇူလိုင် (၂၃) အရေးပေါ်ပါတီညီလာခံမှာ (၇) ဇူလိုင်အတွက် သူ့မှာတာဝန်မရှိသလို ရှင်းလင်းပြောကြားခဲ့တယ်။ ကွပ်ကဲရေးအဖွဲ့မှာပါဝင်တဲ့ ပုဂ္ဂိုလ်များဟာ အဲဒီနေ့က အဖြစ်အပျက်တစုံလုံးကို ရေးသားပြီး မဆလပါတ ဌာနချုပ်ကို အစီရင်ခံခဲ့ကြောင်းတွေ့ရတယ်။ ဒီအစီရင်ခံစာတွေဟာ (၇) ဇူလိုင်မှာ ဗိုလ်နေဝင်းမှာ တာဝန်မရှိကြောင်း နည်းမျိုးစုံနဲ့ ဖုံးဖိပေးထားခဲ့ကြောင်းတွေ့ရတယ်။ (၈၈) ဒီမိုကရေစီ အရေးတော်ပုံအတွင်းမှာ ဒီအစီရင်ခံစာဖိုင်တွဲဟာ အများပြည်သူလက်ထဲ ရောက်ရှိလာတယ်။ အခုအခါ သူတို့အားလုံး မရှိသလောက်ဖြစ်နေပြီ။ (၇) ဇူလိုင်နဲ့ ပတ်သက်တဲ့ ရက်စက်ရမ်းကားတဲ့ အမိန့်ကို ဘယ်သူပေးခဲ့တယ်။ ဘယ်သူတွေ ပူးတွဲတာဝန်ရှိတယ်ဆိုတာ တနေ့နေ့တချိန်ချိန်မှာ အရိုးတွန်မှာ သေချာသလောက်ဖြစ်တယ်။ ဒါကို ပတ်သက်သူအားလုံး ကြောက်နေကြမှာ သေချာတယ်။

မှတ်ချက်။ ။ သမိုင်းမှန်ကူခွက်များ (၄) စာအုပ် - မေးခွန်းလွှာကဏ္ဍမှ မေးခွန်းနံပတ် (၁၅) ကို ကောက်နှုတ်ထားပါသည်။